# مائة حديث

## مِن مُسْتَدَلَّاتِ الْحَنَفِيَّةِ

## لأحكام الصلاة والزكاة والحج والصوم

**နမားဇ်၊ဇကားသ်၊ဟဂ်ျနှင့်ရိုဇာဆိုင်ရာ**

**အမိန့်တော်များပါဝင်သည့်**

# ဟဒီးဆ်တော်ပေါင်း (၁၀၀)

**ကြီးကြပ်သူများ**

မုဖ်သီ အဗ္ဗဒွရ်ရဟီးမ် (မဇ္ဇာဟေရီ၊ကာစေမီ၊နဒ်ဝီ)

မုဖ်သီ မုဟမ္မဒ် အိုစာမာဟ် (မဇ္ဇာဟေရီ၊နဒ်ဝီ)

မုဖ်သီ မုဟမ္မဒ် ဖွာရူးကဲ (နဒ်ဝီ)

စုဆောင်းတင်ပြသူ

**မုဟမ္မဒ်အာစွင်းမ်**

(နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇ္ဇာဟေရီ)



## လေးစားအပ်သော စာရှုသူသို့ .....

**အစ္စလာမ်တွင် ဟဒီးဆ်တော်၏ အဆင့်အတန်းနှင့်ပြုစုခြင်းသမိုင်း**

ဟဒီးဆ်သည် ကျမ်းမြတ်ကုရ်အာန်တွင် တိမ်မြုတ်နေသောလျှို့ဝှက်ရတနာသိုက်များ၊အနက်သဘောများနှင့်အနှစ်သရများကို အလင်းပြပေးသည့်ဋီကာတစ်ရပ်ဖြစ်ပြီး အစ္စလာမ့်ဥပဒေပြုစုရေးတွင်လည်း ဒုတိယအခြေအမြစ်ဖြစ်သည်။

ထို့ကြောင့် ခေတ်အဆက်ဆက်ရှိပညာရှိသုခမိန်ကြီးများက ပုံစံအမျိုးမျိုးဖြင့် ဟဒီးဆ်တော်များကို ကျက်မှတ်ထိန်းသိမ်းပြီး မှတ်တမ်းတင်စုဆောင်းခဲ့ကြသည်။

**ဟဒီးဆ်တော်ကျက်မှတ်ခြင်း၏ သင်ရိုးတစ်ခု**

ဤမွန်မြတ်လှသည့်သမိုင်းပေးတာဝန်ကို ထမ်းရွက်နိုင်ရန် ဂျာမေ့အသွလ်ကောင်ဆရစ်လ်အစ္စလာမီယာကျောင်း တာဝန်ခံဆရာကြီးများက မိမိတို့သင်ရိုးတွင် ကျောင်းသားများ၏အဆင့်နှင့်အညီ ဟဒီးဆ်တော်ကျက်မှတ်ထိန်းသိမ်းရေးအစီအစဉ်ကို အောက်ပါရည်ရွယ်ချက်များဖြင့် ထည့်သွင်းခဲ့သည်။

၁။ ကျောင်းသားများသည်အခြေခံအားဖြင့် ဟဒီးဆ်တော်များကိုကျက်မှတ်၍ မိမိတို့တစ်ရက်တာအား စွန္နသ်တော်နှင့်အညီ ကျင့်ကြံနေထိုင် ကုန်ဆုံးသွားနိုင်ရန်။

၂။ ဟဒီးဆ်တော်များ ကျက်မှတ်ခြင်းအားဖြင့် အရဗီစာပေနားလည်မှုတွင် အထောက်အကူဖြစ်စေရန်။

ထိုရည်ရွယ်ချက်ကို အကောင်အထည်ဖော်နိုင်ရန် စွန္နသ်တော်များ၊ အစ္စလာမ့်ကျင့်ဝတ်များနှင့် စပ်လျဉ်းသည့်ဟဒီးဆ်တော်ပေါင်း(၁၀၀)စုစည်းပေးရန် မုဖ်သီမုဟမ္မဒ်အရှ်ရဖ်ဟုစိုင်း(နဒ်ဝီ)ကို တာဝန်ပေးခဲ့သည်။

၃။ အေဗာဒသ်ပိုင်းဆိုင်ရာ ကဏ္ဍတွင် ဟဒီးဆ်တော်လာထောက်အထားများ

ကို တိုက်ရိုက်နှုတ်တိုက် ဖတ်ပြနိုင်ရန်။

ထိုရည်ရွယ်ချက်အားအကောင်အထည်ဖော်ရန် နမားဇ်၊ဇကားသ်၊ဟဂ်ျနှင့်ရိုဇာ ဆိုင်ရာအခြေခံမူများပါဝင်သည့် ဟဒီးဆ်တော်ပေါင်း(၁၀၀)အား စုစည်းတင်ပြရန် ကျွန်ုပ်ကို တာဝန်ပေးခဲ့သည်။

၄။ မုအာမလားသ်(အပေးအယူကဏ္ဍ)နှင့် မုအာရှရသ်(လူမှုဆက်ဆံရေးကဏ္ဍ) တို့တွင် အခြေခံမူများပါဝင်သည့် ဟဒီးဆ်တော်ပေါင်း (၄၀) စုစည်းတင်ပြပေးရန် မုဖ်သီမုဟမ္မဒ် အဖ်ဇလ်ကို တာဝန်ပေးအပ်ခဲ့သည်။

၅။ မိရှ်ကားသ်ကျမ်းနှင့်ဒေါင်ရဟ်တန်းရှိ ကျမ်းကြီး(၆)ကျမ်းအား သင်ယူရာတွင် ပေါင်းကူးဖြစ်စေရန် رياض الصالحين ကျမ်းမှ ဟဒီးဆ်တော်ပေါင်း(၇၅)ပုဒ်အား ကောက်နှုတ်တင်ပြခြင်းတာဝန်ကို မုဖ်သီမုဟမ္မဒ်ဂျအ်ဖရ်(နဒ်ဝီ)နှင့် မုဖ်သီကရီမွလ္လာ (နဒ်ဝီ)တို့က ထမ်းဆောင်ခဲ့သည်။ ဤနည်းဖြင့် ဟဒီးဆ်ကျက်မှတ်ခြင်းဆိုင်ရာ(၄)နှစ်စာ သင်ရိုးတစ်ခုအကောင် အထည်ပေါ်လာခဲ့ခြင်းဖြစ်သည်။ ကျမ်းအသီးသီးနှင့် ပတ်သက်သည့် အခြေခံနိဒါန်းစကားများကိုသက်ဆိုင်ရာပညာရှင်များကလည်း မိမိတို့ကျမ်းဦးစကားတွင် အသေးစိတ်ထပ်မံတင်ပြပါလိမ့်မည်။

**ဒုတိယတန်း သင်ရိုးပါ ဟဒီးဆ်စာအုပ်**

ဒုတိယတန်းဟဒီးဆ်ကျက်မှတ်ခြင်းဆိုင်ရာသင်ရိုးစာအုပ်တွင် အေဗာဒသ်ပိုင်းဆိုင်ရာ ဟဒီးဆ်တော် (၁၀၀)ကို အောက်ပါအတိုင်း စုဆောင်းတင်ပြခဲ့ပါသည်။

၁။ صحاح ستة (ခ) မှန်ကန်သောကျမ်းကြီး(၆)ကျမ်းပါ ဟဒီးဆ်များကိုသာ ကျမ်းညွှန်းနှင့်တကွဖော်ပြထားသည်။

၂။ ဟဒီးဆ်၏ အဓိပ္ပါယ်၊အကျိုးကျေးဇူး၊ခက်ဆစ်များ၊ ဆင့်ပြန်သည့်ရာဝီ၏ အတ္ထုပ္ပတ္တိအကျဉ်း၊လေ့ကျင့်ခန်း စသည်တို့ကို ဖော်ပြထားသည်။

**သင်ကြားနည်းလမ်းညွှန်**

ဤစာအုပ်အား သင်ကြားပေးရာတွင် အောက်တွင်ဖော်ပြမည့်အချက်များကို ဂရုတစိုက်အလေးထားဆောင်ရွက်ပေးပါရန် သင်ကြားမည့်ဆရာသခင်အား မေတ္တာရပ်ခံအပ်ပါသည်။

**ဆရာသည်** ……

စာသင်ခန်းသို့ မသွားမီ နဖ်လ်နမားဇ်(၂)ရကာအသ်ဖတ်၍ အလ္လာဟ့်ထံ "အို အလ္လာဟ်ဤစာအုပ်၏ သင်ပေးသင်ယူမှုအား ကျွန်တော်မျိုးတို့အတွက် ဟေဒါယသ်၏ အကြောင်းခံဖြစ်စေတော်မူပါ။"ဟု တောင်းဆိုပါ။

(၁) ဟဒီးဆ်တော်များအာဂုံဆောင်ကျက်မှတ်ခြင်း၏ အကျိုးကျေးဇူးများကို တင်ပြပေးပါ။

(၂)ကျောင်းသားတိုင်းသည် ဟဒီးဆ်တော်များကို တိကျပီသစွာ ဖတ်နိုင်ရန် အလို့ငှာ ဟဒီးစ်တစ်ပုဒ်တိုင်းကို ဆရာကိုယ်တိုင် ရှင်းရှင်းလင်းလင်း၊ ဖြေးဖြေးမှန်မှန် အရဗီအသံနေအသံထားဖြင့် အနည်းဆုံး(၃)ကြိမ်တိုင်ပေး၍ ကျောင်းသားများအား လိုက်ဖတ်ခိုင်းပါ။

(၃) ဟဒီးဆ်တော်များအား သင်ကြားပေးရာတွင်ဤအချက်များကို ဂရုပြု၍ သင်ကြားပေးပါ။

(က) စကားလုံးများ၏လုံးကောက်အဓိပ္ပါယ်များကိုဖော်ပြပေးခြင်း။

(ခ) စကားလုံးများ၏ဆင့်ပွားပြောင်းလဲပုံများကိုရံဖန်ရံခါထည့်သွင်း သင်ကြားပေးခြင်း။

(ဂ) စကားလုံးများရှိ သရများ၏အခြေအနေများကိုလည်း မကြာခဏ မေးမြန်းခြင်း။

(ဃ) ဘာသာပြန်ဆိုရာတွင် အရဗီစာသားများနှင့် မြန်မာစာသားများကို ယှဉ်ပြ၍ ဘာသာပြန်ဆိုပေးခြင်း။

(၄)စာအုပ်ပါ ဟဒီးဆ်တော်များအား အဓိပ္ပါယ်နှင့်တကွ ကျောင်းသားများကို

ဗလာစာအုပ်တွင်ပြန်လည်ရေးသားစေပြီးအလွတ်ကျက်မှတ်ခိုင်းပါ။ အကျိုးကျေးဇူးများနှင့် ရာဝီ၏အကြောင်းမှ လိုအပ်သည်ခန့်ကိုသာ ကျက်မှတ်စေပါ။

(၅) ဗလာစာအုပ်တွင် ဟဒီးဆ်တော်များ ရေးသားပြီးသောအခါ ကျောင်းသားများ၏ အရဗီစာပေရေးသားမှု မှန်၊ မမှန်စစ်ဆေးပေးပါ။ လေ့ကျင့်ခန်းများကိုလည်း စနစ်ကကျပြုလုပ်စေပါ။

(၆) သင်ပြီးသောဟဒီးဆ်တော်များကို ဒုတိယရက်တွင်ကျောင်းသားများအား စစ်ဆေးမေးမြန်းပေးပါ။

(၇) ဟဒီးဆ်တစ်ပုဒ်ကြေညက်မှုမရှိသေးဘဲရှေ့ဟဒီးဆ်ကိုလုံးဝအစမပြုပါနှင့်။

(၈) စာအုပ်တွင်ခက်ဆစ် အဓိပ္ပါယ်များဖော်ပြထားသော်လည်း ကျောင်းသားများကိုယ်တိုင် ခက်ဆစ်ထုတ်ရေးသားလာနိုင်ရန် ဆရာသခင်မှتركيب (အဘိဓါန်) ကြည့်သည့်အလေ့အကျင့်ပြုလုပ်ပေးပါ။

(၉) ဟဒီးဆ်တွင်ပါရှိသည့် မတ်စ်အလဟ်များကို အကျဉ်းရုံးဖော်ပြထားသည်ဖြစ်ရာ ထိုမတ်စ်အလဟ်နှင့်ပတ်သက်သည့် အခြားသော ဗဟုသုတများကိုလည်း ဆရာသခင်မှ ကြိုတင်လေ့လာပြီး တင်ပြပေးပါ။

ကျွန်ုပ်သည် ဤစာအုပ်ကို ဆရာနှင့်ကျောင်းသားများလွယ်ကူစေရန် ရည်သန်လျက် ရေးသားပြုစုခဲ့ခြင်းဖြစ်ပါသည်။ သို့သော်လည်း လူသားဖြစ်သည့်အလျောက် အမေ့အမှားများနှင့်မကင်းနိုင်ပါ။ မှားယွင်းမှုတစ်စုံတရာတွေ့ရှိပါက ဝိုင်းဝန်းပြုပြင်ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

နိဂုံးချုပ်အနေဖြင့် ဤစာအုပ်ဖြစ်ပေါ်လာစေရန် အကျိုးအကြောင်းညီညွတ်စေပြီး စွမ်းအားများချီမြင့်ပေးတော်မူသည့်အရှင်မြတ်ကို ကျေးဇူးတင်အပ်ပါသည်။ ထို့နောက်စာအုပ်ဖြစ်မြောက်စေရန်ကြိုးကြပ်ပေးခဲ့သော ဆရာသခင်ကြီးများ၊ စီစစ်ပေးခဲ့သောကျေးဇူးရှင်ဆရာ မုဖ်သီမုဟမ္မဒ်အုစာမား(နဒ်ဝီ)၊ဆရာ မုဖ်သီ မုဟမ္မဒ်

ဂျလာလွဒ္ဒီးန်(နဒ်ဝီ)၊ဆရာမော်လာနာဇွဟီရွဒ္ဒီးန်(ဆိုလိုင်မာနီ)၊ချစ်မိတ်ဆွေမုဖ်သီမုဟမ္မဒ် အဖ်ဇလ်၊မုဖ်သီမုဟမ္မဒ်အရှ်ရဖ်ဟုစိုင်း(နဒ်ဝီ)၊ မော်လာနာမုဟမ္မဒ်ကာစင်မ်၊ မုဖ်သီ မုဟမ္မဒ်ဂျအ်ဖရ်ဟုစိုင်းန်(နဒ်ဝီ)၊မော်လာနာမုဟမ္မဒ်(အလ်ကောင်ဆရီ)၊မော်လာနာအဗ္ဗဒွရ် ရှကူးရ်၊ ဖေကဟ်ရှုထောင့်မှ စနစ်တကျ စီစစ်ပေးခဲ့သော အလ်ဟားဂ်၊ ဟဇရသ် မော်လာနာ မုဖ်သီ ဟိုဇိုင်ဖဟ် (မော်လမြိုင်)၊ စာလုံးပေါင်းသတ်ပုံများကို စီစစ်ပေးခဲ့ သောဆရာများအနက်ဆရာဦးအေးမူ၊ ဆရာဇကရီယာ၊ချစ်တပည့်များမှ မုဟမ္မဒ် ရိုင်ဟားန်နှင့်အဖွဲ့သားများအပြင် ဤနေရာ တွင်အမည်မဖော်ပြလိုက်ရသည့် အဖက် ဖက်မှ ကူညီပေးခဲ့သော ဆရာသခင်များကိုလည်း မှတ်တမ်းတင်ဂုဏ်ပြုအပ်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ဤစာအုပ်ငယ်ကို လက်ခံသဘောတူ တော်မူပြီး၊စုဆောင်းတင်ပြသူ၊၎င်း၏မိဘများ၊ဆရာသမားများနှင့် မွတ်စ်လင်မ်အပေါင်း တို့ကိုလည်း ဤစာအုပ်၏အကြောင်းခံဖြင့် ကောင်းသောအစားများပေးသနားတော်မူပါ စေဟု ဆုမွန်ကောင်း တောင်းအပ်ပါသည်။

မုဟမ္မဒ် အာစွင်းမ်

နဒ်ဝီ၊ အာဗွလ်ဟာစနီ၊ မဇ္ဇာဟေရိ

١/ ذُوالقِعْدَة/ ١٤٣٩هـ

١٥/ ٧/ ٢٠١٨م

يوم الأحد

## ဟဒီးဆ် သင်ပေးသင်ယူသူများ လိုက်နာရမည့် ကျင့်ဝတ်များ

၁။ ဟဒီးစ် သင်ပေးသင်ယူသူများသည် နီယသ်မှန်ကန်စွာထား၍ အလ္လာဟ် အရှင်မြတ်အတွက်သာ သင်ပေးသင်ယူမှုပြုရမည်။

၂။ ဟဒီးစ်တော်များအားပီပီသသဂရုတစိုက်ဖတ်ရွတ်ရမည်။ နားထောင်သူများကလည်း အာရုံထား၍စိတ်ပါဝင်စားစွာဖြင့် နားထောင်ရမည်။

၃။ ကိုယ်ခန္ဓာသန့်ရှင်းသပ်ရပ်စွာဖြင့် သင်ပေးသင်ယူမှုပြုရမည်။

၄။ မိမိသင်ယူထားပြီးသော ဟဒီးစ်တော်များပေါ် အတတ်နိုင်ဆုံး အမလ်လုပ်ရမည်။ သို့မှသာ ဟဒီးဆ်တော်မြတ်၏ နူးရ်ရောင်ခြည်တော်များရရှိခံစားရမည်။

၅။ ဟဒီးဆ်တော်များဖြင့် မွေ့လျော်သူများနှင့် ပတ်သက်ပြီး ကိုယ်တော်မြတ် ﷺ ပေးခဲ့သော သတင်းကောင်းများကို အမြဲမျှော်ကိုးနေရမည်။

## ثيحديثပညာရပ်ဆိုင်ရာအခြေခံသုတ (၁၀) ပါး

## الحَدُّ (ဖွင့်ဆိုချက်)

အရဗီစာပေ၌ ثي حديث ၏အဓိပ္ပါယ်မှာ ……

(၁) သစ်လွင်သောအရာ (၂)သတင်းအချက်အလက် (၃) စကားရပ် ဟူ၍ဖြစ်ပါသည်။

اصْطِلاحًا ပညာရပ်ဆိုင်ရာ ဝေါဟာရတွင် ဟဒီးဆ်ဆိုသည်မှာ ……

တမန်တော်မြတ် ﷺ ၏ အမိန့်တော်များ၊ လုပ်ဆောင်ချက်များနှင့် အတည်ပြု ထောက်ခံချက်များကို ခေါ်ဆိုသည်။

## اَلْمَوْضُوْعُ (အခြေခံအဓိကထားလေ့လာရမည့်အချက်)

ثيحديث ပညာရပ်အဓိကထား လေ့လာမည့်အချက်မှာ……

တမန်တော်မြတ်ﷺ၏ အမိန့်တော်များ၊လုပ်ဆောင်ချက်များနှင့်အတည်ပြု ထောက်ခံချက်များဖြစ်သည်။

## الثَّمَرَةُ (အကျိုးရလဒ်)

ثيحديث ပညာရပ်ကိုသင်ယူကျက်မှတ်ခြင်း၏ အကျိုးရလဒ်များမှာ ……

(၁) အလ္လာဟ်အရှင်မြတ်သည် သင်ယူကျက်မှတ်သူ၏ မျက်နှာတော်ကို လင်းဝင်းစေတော်မူမည်ဖြစ်ပြီး ၎င်း၏ဘဝကို စိုပြေစေတော်မူမည်။

(၂)ဟဒီးဆစ်တော်များကိုသင်ယူထားခြင်းဖြင့် ကျမ်းတော်မြတ်ကုရ်အာန်ကို နားလည်သဘောပေါက်ရာတွင် လွယ်ကူမှုရရှိမည်။

(၃) ဟဒီးဆ်ဖတ်သူများသည် တမန်တော်မြတ်ﷺအပေါ် ဒရူးဒ်အများဆုံး ပို့သခွင့်ရရှိသည့်အတွက် ကေယာမသ်နေ့တွင် တမန်တော်မြတ်ﷺနှင့် နီးကပ်စွာ နေခွင့်ရရှိမည်။

(၄) တမန်တော်မြတ် ﷺ၏အမိန့်တော်များကိုဖဝါးခြေထပ်လိုက်နာရာတွင် လွယ်ကူမှုရရှိမည်။

## الفَضْلُ (ထူးခြားမြတ်မှု)

ဟဒီးဆ်တော်များသည်တမန်တော်မြတ် ﷺနှင့် တိုက်ရိုက်ပတ်သက် ဆက်နွယ်နေသောကြောင့် ကျမ်းတော်မြတ်ကုရ်အာန်နောက်တွင် အမွန်မြတ်ဆုံးဖြစ်သည်။

## النِّسْبَةُ (ပတ်သက်ဆက်နွယ်မှု)

ဟဒီးဆ်တော်များသည် တမန်တော်မြတ်ﷺ၏မိန့်ကြားချက်များ၊ လုပ်ဆောင်ချက်များနှင့်အတည်ပြုထောက်ခံမှုများဖြင့် တိုက်ရိုက်ပတ်သက်ဆက်နွယ်နေသည်။

## الوَاضِعُ (المُدَوِّنُ) စတင်စုစည်းခဲ့သူ

ဟဇရသ်အိုမရ်ဗင်အဗ်ဒွလ်အဇီးဇ်၏အမိန့်တော်ဖြင့်အီမာမ်အိဗ်နေ့ရှေဟားဗ်(ဇုဟ်ရီ) နှင့် အီမာမ်အဗူဘက္ကရ်အိဗ်နေ့ဟဇ်မ် တို့က စတင်စုစည်းခဲ့သည်။

## الاسْمُ (အမည်နာမ)

ဤပညာရပ်၏ အမည်နာမမှာ عِلْمُ الحَدِيْثِ ဖြစ်ပါသည်။

## اَلْاِسْتِمْدَادُ (မှီငြမ်းကိုးကားချက်)

ဟဒီးဆ်တော်များဆင့်ပြန်ရာတွင် ဆွဟာဗာဟ်သာဝကကြီးများ၊ သာဗေ့အီသခင်ကြီးများနှင့် ၎င်းတို့နောက်တွင်ပွင့်ခဲ့သောအီမာမ်ကြီးများ၏ ခိုင်လုံတိကျသောစနဒ်(ကွင်းဆက်များ)ဖြင့်လာရှိသော ဆင့်ပြန်ချက်များကို မှီငြမ်းကိုးကားသည်။

## حُكْمُ الشَّارِعِ (တရားတော်လာအမိန့်)

ဒေသတစ်ခုတွင် ဟဒီးဆ်ပညာရပ်ကို သင်ယူနိုင်သူတစ်ဦးတည်းရှိပါက ၎င်းသူအတွက် ဟဒီဆ်းပညာရပ်ကို သင်ယူဆည်းပူးရန်မှာ فـرضُ عين မလုပ်မနေရ တာဝန်ဖြစ်ပြီး၊ သင်ယူနိုင်သူအများအပြားရှိနေပါမူ فـرض كفاية အချို့၏ သင်ယူမှုကြောင့် အားလုံးပေါ်မှ တာဝန်ကျသွားမည်။

## المَسَائِلُ (အခြေခံဥပဒေများ)

ဟဒီးဇ်တော်များတွင် အသေးစိတ်နည်းဥပဒေများကို ထုတ်နှုတ်နိုင်သည့် အခြေခံဥပဒေများရှိသည်။

## ဟဒီးဆ်ကျမ်းကြီး (၆)ကျမ်းနှင့် ကျမ်းရှင်ကြီးများ

### ၁။ အေမာမ် ဗုခါရီ (محمد بن إسماعيل البخاري)

| | |
|---|---|
| အမည်နှင့် မျိုးစဉ်ဆက် | مُحمدُ بنُ إسماعيلَ بنِ إبراهيمَ الْجُعْفِيْ |
| ကွန္နယသ် (တင်စားခေါ်ဝေါ်သည့်အမည်) | أبو عبد الله |
| ဘွဲ့ထူး | أميرُ المؤمنين في الحديث |
| မွေးရပ်ဒေသ | ဗိုခါရာမြို့ |
| မွေးသက္ကရာဇ် | ရှောင်ဝလ်လ(၁၃)ရက်၊ ဟစ်ဂျ်ရီ (၁၉၄)ခုနှစ်၊ သောကြာနေ့ |
| ကွယ်လွန်ချိန် | သက်တော်(၆၂)၊ ဟစ်ဂျ်ရီ(၂၅၆)ခု၊ အီဒွလ်ဖစ်သ်ရ်ည |

အေမာမ်ဗိုခါရီသခင်ကြီးသည် မွေးရာပါမျက်မမြင်တစ်ဦးဖြစ်ခဲ့ပြီး မိခင်၏ဒိုအာကြောင့်အရှင်မြတ်သည် စက္ခုအလင်းပြန်လည်ချီးမြှင့်ပေးခဲ့သည်။ သက်တော်(၁၁)နှစ်အရွယ်တွင် ဟဒီးဆ်တော်များကို စတင်ကျက်မှတ်ခဲ့သည်။ဟစ်ဂျ်ရီ (၂၁၀)ခုနှစ်တွင် ပထမဆုံး ဟဂ်ျပြုလုပ်ခဲ့သည်။

သခင်သည် သာသနာ့ပညာ ဖွေရှာရာတွင် တစိုက်မတ်မတ်ကြိုးစားခဲ့သည်။ မြင့်မြတ်တော်မူသော အရှင်မြတ်ကလည်း သခင့်ကို သူမတူသောမှတ်သားဉာဏ်၊ ပြိုင်စံရှားနားလည်နိုင်စွမ်းများချီးမြှင့်တော်မူခဲ့သည်။

သခင်သည် ဆရာပေါင်း(၁၀၈၀)ထံမှ ပညာသင်ယူခဲ့သည်။

အေမာမ်မွတ်စ်လင်မ်၊ အေမာမ်သိရ်မေ့ဇီတို့ကဲ့သို့သော တပည့်ကျော်များနှင့် အခြားသောတပည့်ကျော်(၁)သိန်းခန့်ကို မွေးထုတ်ပေးခဲ့သည်။ ကမ္ဘာကျော်ကျမ်းပေါင်း(၂၀)ကျော်ကိုလည်းပြုစုခဲ့သည်။

## ဗုခါရီကျမ်း ( صَحِيْحُ الْبُخَارِيْ )

အမည်အပြည့်အစုံ اَلْجَامِعُ الْمُسْنَدُ الصَّحِيْح اَلْمُخْتَصَرُ مِنْ أُمُوْرِ رَسُوْلِ اللّٰه صلَّى اللّٰه عليه وَسلَّم وسُنَنِهٖ وَاَيَّامِهٖ

ဟဒီးဆ်တော်ပေါင်း (၇၃၉၈)

ကဏ္ဍပေါင်း (၇၉) အခန်းပေါင်း (၃၄၅၀)

အေမာမ်ဗုခါရီ ﵀ သခင်ကြီးသည် ဤကျမ်းကိုပြုစုရာတွင် (၁၆)နှစ်တာကြာခဲ့ပြီး၊ မိမိကျက်မှတ်ထားသော ဟဒီးဆ်ပေါင်း(၆)သိန်းကျော်မှ ဆရာ(၂၈၉)ပါး၏ဟဒီးဆ်တော်များကိုသာ ကောက်နှုတ်ပြုစုခဲ့သည်။ ကျမ်းမြတ်ကုရ်အာန်ပြီးနောက်တွင်ဤကျမ်းသည် အမှန်ကန်ဆုံးနှင့်မဂ်လာအရှိဆုံး ကျမ်းတစ်ဆူအဖြစ် ကမ္ဘာကလက်ခံခဲ့သည်။

သခင်သည် ဤကျမ်းကို မတ်စ်ဂျေ့ဒ်ဟရမ်ထဲတွင် ပြုစုခဲ့သည်။ ဟဒီးဆ်တစ်ပုဒ်ကိုမဖော်ပြမီ ရေးချိုးသည်။ အိစ်သေ့ခါရာနမားဇ် နှစ်ရကအသ်ဝတ်ပြုပြီးမှသာ ထိုဟဒီးဆ်ကို မိမိကျမ်းတွင် ရေးသားဖော်ပြခဲ့သည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ် ﷺ ၏ အတ္ထုပ္ပတ္တိ၊ ဆဟာဗာသာဝကကြီးများ၏ထွဋ်မြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ပညာရှင်(၇)သောင်းကျော်က သခင့်ထံမှ ဤကျမ်းကို တိုက်ရိုက်သင်ယူခဲ့ကြသည်။ ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများမှာ ယနေ့ထိ (၇၀၈)မျိုးထိရှိနေပြီးဖြစ်သည်။ ဤကျမ်းတွင် ثُلَاثِيَّـــات (ကိုယ်တော်နှင့်ကျမ်းရှင်ကြားတွင် ဆင့်ပြန်သူ(၃)ဦးသာရှိသည့်ဟဒီးဆ်) (၂၂)ပုဒ်ပါဝင်သည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ هدي الساري
مقدمة فتح الباري ☆ السنة ومكانتها في التشريع الإسلامي
☆ حديث اورفهم حديث ☆ صحاح ستہ اور انکے مصنفین

## ၂။ အေမာမ် မွတ္စ္လင္မ် (مُسْلِمُ بن الْحَجَّاجِ اَلْقُشَيْرِيُّ)

အမည္ႏွင့္ မ်ိဳးစဥ္ဆက္ مُسْلِمُ بن الْحَجَّاجِ اَلْقُشَيْرِيُّ النَّيْسَابُوْرِي

ကြန္နယသ္ (တင္စားေခၚေဝၚသည့္အမည္) أبو الحسين

ေမြးရပ္ေဒသ ခိုရာစားန္းျပည္နယ္၊ နိုင္စာပူးရ္ၿမိဳ႕

ေမြးသကၠရာဇ္ ဟစ္ဂ်ရီ (၂၀၆)ခုႏွစ္

ကြယ္လြန္ခ်ိန္ သက္ေတာ္(၅၅)ႏွစ္၊ရဂ်ဗ္လ(၂၅)ရက္၊ဟစ္ဂ်ရီ(၂၆၁)ခု

အေမာမ္မွတ္စ္လင္မ္ သခင္သည္ ႀကီးက်ယ္ေသာ ဟဒီးဆ္ဆိုင္ရာအေမာမ္ႀကီး တစ္ပါးျဖစ္သည္။ ဟစ္ဂ်ရီ(၂၁၈)ခုႏွစ္တြင္ ဟဒီးဆ္ပညာရပ္ကို စတင္သင္ယူခဲ့သည္။ ဟစ္ဂ်ရီ (၂၂၀)ခုႏွစ္တြင္ ပထမဆုံး ဟဂ််ျပဳလုပ္ခဲ့သည္။

သခင္သည္ အေမာမ္ဗိုခါရီ၊ အေမာမ္အဟ္မဒ္တို႔အျပင္ အျခားေသာ ကမၻာ ေက်ာ္ပညာရွင္ေပါင္း (၂၄၄)ပါးထံမွ ပညာသင္ယူခဲ့သည္။

အေမာမ္သိရ္မေဇီႏွင့္အျခားေသာ တပည့္ေက်ာ္အေျမာက္အမ်ားကိုေမြးထုတ္ ေပးခဲ့သည္။ မွတ္စ္လင္မ္က်မ္းအျပင္ ကမၻာေက်ာ္က်မ္းေပါင္း(၂၃)က်မ္းေက်ာ္ကိုလည္း ျပဳစုခဲ့သည္။ ဟဒီးဆ္ေတာ္ေပါင္း(၃)သိန္းေက်ာ္ကို ဆင့္ျပန္ထားသည့္စနဒ္အျပည့္ အစုံျဖင့္ က်က္မွတ္ထားနိုင္ခဲ့သည္။

အေလင္မ္ပညာကို တစိုက္မတ္မတ္ရွာေဖြေလ့လာခဲ့သည္။ ဟဒီးဆ္ေလ့လာ ေနခ်ိန္ မည္သူႏွင့္မွ်ေတြ႕ဆုံျခင္းမရွိပါ။

## မွတ်စ်လင်မ်ကျမ်း ( صَحِيْحُ مُسْلِمٍ )

အမည်အပြည့်အစုံ　　الْمُسْنَدُ الصَّحِيْحُ اَلْمُخْتَصَرُ مِنَ السُّنَنِ بِنَقْلِ الْعَدْلِ عَنِ الْعَدْلِ عَنْ رَسُوْلِ اللّٰه صلَّى اللّٰه عليه وَسلَّم

ဟဒီးဆ်တော်ပေါင်း　　(၇၂၇၅)

ကဏ္ဍပေါင်း　　(၅၄)

အေမာမ်မွတ်စ်လင်မ် ᷃ သခင်ကြီးသည် ဤကျမ်းကိုပြုစုရာတွင် (၁၅)နှစ်တာကြာခဲ့ပြီး၊ မိမိထံရှိဟဒီးဆ်ပေါင်း(၃)သိန်းကျော်မှ ကောက်နှုတ်ပြုစုခဲ့သည်။ ဗိုခါရီကျမ်းနောက်တွင် ဤကျမ်းသည် အမှန်ကန်ဆုံးနှင့် မင်္ဂလာအရှိအဆုံးကျမ်းဖြစ်သည်။

အစီအစဉ်ကျနမှုတွင် ဤကျမ်းသည်ပြိုင်စံရှားဖြစ်ခဲ့သည်။ ထို့ကြောင့် ဤကျမ်းတွင်ဟဒီးဆ်တော်များကို လေ့လာရှာဖွေလိုသူတို့အတွက် အလွန်လွယ်ကူလှသည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွဋ်မြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ဟဒီးဆ်ပညာရှင်အမြောက်အမြားကသခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင်ယူခဲ့ကြသည်။ ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြုကျမ်းများမှာ ယနေ့ထိ (၁၀၀)ကျော်ရှိနေပြီဖြစ်သည်။

☆ سير أعلام النبلاء　☆ تهذيب الكمال للمزي　☆ مذكرات معلم في صحيح مسلم
☆ السنة ومكانتها في التشريع الإسلامي　☆ قرة عين المحتاج
☆ حدیث اور فہم حدیث　☆ صحاح ستہ اور ان کے مصنفین

## ၃။ အေမာမ် အဗူဒါဝူးဒ် (سُلَيْمَان بن الأَشْعَثُ اَلسِّجِسْتَانِيُّ )

အမည်နှင့် မျိုးစဉ်ဆက် سُلَيْمَانُ بنُ الأَشْعَثْ بنِ إسحقَ اَلسِّجِسْتَانِيُّ السَّجَزِيُّ

ကွန္နသ်(တင်စားခေါ်ဝေါ်သည့်အမည်) أبو داود

မွေးရပ်ဒေသ အာဖဂန်နစ္စတန်နိုင်ငံ၊ စေ့ဂျစ္စသားန်ပြည်နယ်

မွေးသက္ကရာဇ် ဟစ်ဂျ်ရီ (၂၀၂)ခုနှစ်

ကွယ်လွန်ချိန် ဟစ်ဂျ်ရီ(၂၇၅)ခု၊ ရှောင်ဝလ်လ (၁၆)ရက်၊ ဗဆွရဟ်မြို့တွင်

အေမာမ်အဗူဒါဝူးဒ်သခင်ကြီးသည် ဟဒီးဆ်နှင့်ဖေကဟ်နှစ်ရပ်လုံးတွင် တစ်ဘက်ကမ်းခပ်ကျွမ်းကျင်သည့် အေမာမ်ကြီးတစ်ပါးဖြစ်သည်။ ငယ်ရွယ်စဉ်ကပင် ဟဒီးဆ်ပညာရပ်ကို စတင်သင်ယူခဲ့သည်။ ဘဂ်ဒါးဒ်၊ကူဖာ၊ဟေဂျားဇ်၊အီဂျစ်၊ဆီးရီးယား စသည့် ပညာအလင်းခမြို့တော်များသို့သွားရောက် ဆည်းပူးခဲ့သည်။

သခင်သည် အေမာမ်ဗိုခါရီ၊ အေမာမ်အဟ်မဒ်တို့အပြင် အခြားသော ကမ္ဘာကျော်ပညာရှင်ကြီး(၃၀၀)ကျော်ထံမှ ပညာသင်ယူခဲ့သည်။

အေမာမ်သိရ်မေ့ဇီ၊အေမာမ်နစာအီနှင့်အခြားသော တပည့်ကျော်အမြောက်အများကိုမွေးထုတ်ပေးခဲ့သည်။ အဗူဒါဝူးဒ်ကျမ်းအပြင် ကမ္ဘာကျော်ကျမ်းပေါင်း(၁၅) ကျမ်းခန့်ကိုလည်းပြုစုခဲ့သည်။ ဟဒီးဆ်တော်ပေါင်း(၅)သိန်းကျော်ကို ဆင့်ပြန်ထားသည့် စနဒ်အပြည့်အစုံဖြင့် ကျက်မှတ်ထားနိုင်ခဲ့သည်။

အေမာမ်ဟရ်ဗီ၏ အဆိုအရ"အလ္လာဟ်အရှင်မြတ်သည် ဟဇရသ်ဒါဝူးဒ် عليه السلام အတွက် သံကိုဖော့ဖယောင်းပြုပေးသည့်အတိုင်း အေမာမ်အဗူဒါဝူးဒ်အတွက် ဟဒီးဆ်ပညာရပ်များကို လွယ်ကူစေခဲ့သည်။"

## အဗူဒါဝူးဒ်ကျမ်း ( سُنَنُ أَبِي دَاود)

အမည်အပြည့်အစုံ　　　كِتَابُ السُّنَنِ لِلإِمَامِ أَبِيْ دَاوُد

ဟဒီးဆ်တော်ပေါင်း　　　(၅၂၇၄)

ကဏ္ဍပေါင်း　　　(၃၅)　　　အခန်းပေါင်း (၁၈၇၁)

အေမာမ်အဗူဒါဝူးဒ် သခင်ကြီးသည် ဤကျမ်းကို မိမိထံရှိဟဒီးဆ်ပေါင်း(၅)သိန်းကျော်မှ နှစ်(၂၀)အတွင်းကောက်နုတ်ပြုစုခဲ့သည်။ ဟဒီးဆ်တော်များမှ ဖေကဟ်ဆိုင်ရာပညတ်ချက်များကို ထုတ်နုတ်တင်ပြရာတွင် ပထမဆုံးပြိုင်စံရှားစွယ်စုံကျမ်းတစ်ဆူဖြစ်သည်။

အစ္စလာမ့်ပညတ်ချက်များနှင့်အတူ အစ္စလာမ့်ရိုသေသမှုများကိုဦးစားပေးဖော်ပြထားသည်။ အေမာမ်ကြီး(၄)ပါး၏အထောက်အထားများကို စနစ်တကျဖော်ပြထားသည်။ သခင်သည်ဤကျမ်းကို ငယ်ရွယ်စဉ်၌ပင် အပြီးသတ်ပြုစုခဲ့ပြီး မိမိ၏ဆရာ အေမာမ်အဟ်မဒ်အား တင်ပြရာ ဆရာသည် အထူးနှစ်ထောင်းအားရခဲ့သည်။

ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွန်းမြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ဟဒီးဆ်ပညာရှင်အမြောက်အများကသခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင်ယူခဲ့ကြပြီးအလွတ်ပင်ကျက်မှတ်ခဲ့ကြသည်။ ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများမှာ ယနေ့ထိ ရာကျော်နေပြီဖြစ်သည်။

☆ سير أعلام النبلاء　☆ تهذيب الكمال للمزي　☆ الدر المنضود

☆ السنة ومكانتها في التشريع الإسلامي ☆ *حديث اور فہم حديث*　☆ *صحاح ستہ اور انکے مصنفین*

☆ بذل المجهود في حل أبي داود

## ၄။ အေမာမ် နစာအီ (أحمد بن شعيب النسائي)

အမည်နှင့် မျိုးစဉ်ဆက်　　أحمدُ بنُ شعيبِ بنِ عليِّ بنِ سِنَانِ بنِ بَحْرٍ النَّسَائِيْ

ကွန္နယသ်　　أبو عبدِ الرحمن

မွေးရပ်ဒေသ　　ခိုရားစာန်ပြည်နယ်၊ နစာအ်မြို့

မွေးသက္ကရာဇ်　　ဟစ်ဂျ်ရီ (၂၁၅)ခုနှစ်

ကွယ်လွန်ချိန်　　ဟစ်ဂျ်ရီ(၃၀၃)ခု၊ ဆွဖရ်လ(၁၃)ရက်၊ သက်တော်(၈၈)နှစ် ဆွဖာတောင်နှင့်မရ်ဝါတောင်ကြားတွင်မြုပ်နှံခဲ့ရသည်။

အေမာမ်နစာအီသခင်ကြီးသည် ဟဒီးဆ်၊ဖေကဟ်နှင့်ဟဒီးဆ်ဆင့်ပြန်သူများ၏အတ္ထုပ္ပတ္တိတို့တွင် ပါရဂူမြောက်ကျွမ်းကျင်သည့် အေမာမ်တစ်ပါးဖြစ်သည်။ (၁၅) နှစ်သားအရွယ်၌"ဘဂ်လာန်"မြို့ရှိ ကမ္ဘာကျော်ပညာရှင်ကြီး ကုသိုင်ဗဟ်ဗင်န်စအီးဒ်ထံတွင်(၁၄)လနေထိုင်ပြီး ဟဒီးဆ်ပညာရပ်များကို စတင်သင်ယူခဲ့သည်။ ဘဂ်ဒါးဒ်၊ ကူဖာ၊ ဟေဂျာဇ်၊အီဂျစ်၊ဆီးရီးယားစသည့် ပညာအလင်းခ မြို့တော်များသို့လည်း ပညာဆည်းပူးရန် ကြွမြန်းခဲ့သည်။

သခင်သည် အေမာမ်ဗိုခါရီ၊ အေမာမ်အိစ်ဟားက်တို့အပြင် အခြားသောကမ္ဘာကျော်ပညာရှင်ကြီး(၃၀၀)ကျော်ထံမှ ပညာသင်ယူခဲ့သည်။

အေမာမ်သွဟာဝီ၊အေမာမ်အိဗ်နေ့စွန္နီနှင့်အခြားသောတပည့်ကျော် အမြောက်အများကိုမွေးထုတ်ပေးခဲ့သည်။ နစာအီကျမ်းအပြင် ကမ္ဘာကျော်ကျမ်းပေါင်းများစွာကိုလည်းပြုစုခဲ့သည်။

အေမာမ်ဟာကင်မ် နိုင်စာပူရီက "အေမာမ်နစာအီသည် ဟဒီးဆ်၊ဖေကဟ်နှင့်ဟဒီးဆ်ဆင့်ပြန်သူများ၏အတ္ထုပ္ပတ္တိကိုနားလည်ရာတွင်အေမာမ်အဆင့်ရှိပြီး၊ ဟဒီးဆ်တော်များမှ သခင်ကြီးထုတ်နှုတ်ပြသသော အလှတရားများ၊ မှတ်သားဖွယ်ရာများမှာ အံ့မခန်းဖြစ်သည်" ဟု မိန့်ဆိုခဲ့သည်။

## နစာအီကျမ်း ( سُنَنُ النَّسَائِيْ )

အမည်အပြည့်အစုံ　　اَلْمُجْتَبٰى / اَلْمُجْتَنٰى / اَلسُّنَنُ الصُّغْرٰى لِلنَّسَائِيْ
ဟဒီးဆ်တော်ပေါင်း　　(၅၇၇၄)
ကဏ္ဍပေါင်း　　(၅၈)　　အခန်းပေါင်း (၂၇၅)

အေမာမ်နစာအီ သည် صحاح ستة ကျမ်းရှင်များတွင် နောက်ဆုံးမှကွယ်လွန်ခဲ့သည်။ သခင်သည် အေမာမ်ဗိုခါရီ နှင့်အေမာမ်မွတ်စ်လင်မ်တို့၏ ကျမ်းများရှိထူးခြားချက်များကို မိမိကျမ်းပြုစုရာတွင် ထည့်သွင်းနိုင်ခဲ့သည်။ ထို့ကြောင့်ပညာရှင်များက နစာအီကျမ်းကို တတိယအမှန်ဆုံးကျမ်းဖြစ်သည်ဟု ဆိုကြသည်။

အေမာမ်နစာအီ သည် ဦးစွာ اَلسُّنَنُ الْكُبْرٰى အမည်ရှိကျမ်းကို ပြုစုခဲ့သည်။ ထို့နောက် "ရမ်လဟ်"ဘုရင်ခံကိုတင်ပြရာ ဘုရင်ခံက"ဤကျမ်းမှ စနဒ်အရခိုင်လုံသော ဟဒီးဆ်များကိုသာ ထပ်မံစီစစ် ရွေးထုတ်ပေးပါ"ဟု တောင်းဆိုရာ ဤ اَلسُّنَنُ الصُّغْرٰى ကျမ်းကို စီစစ်ပြုစုခဲ့ခြင်းဖြစ်သည်။

ပညာရှင်များက"ဤကျမ်းသည်ဆန်းကျယ်သောကျမ်းတစ်ဆူဖြစ်သည်။ စီမံမှုကောင်းသောကြောင့် စံမီနေပြီး ဟဒီးဆ်၊ ဖေကဟ်၊ဆင့်ပြန်သူများနှင့်ပတ်သက်သည့် မှတ်ချက်များနှင့်အတူ တန်ဖိုးမဖြတ်နိုင်သည့် ဟဒီးဆ်ဆိုင်ရာ သုတများပါဝင်နေသော စွယ်စုံကျမ်းတစ်ဆူဖြစ်သည်" ဟု အဆိုပြုကြသည်။

အစ္စလာမ့်ပညတ်များနှင့်အတူ အေမာမ်ကြီး(၄)ပါး၏ အထောက်အထားများကို စနစ်တကျဖော်ပြထားသည်။ ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွဋ်မြတ်မှု၊ ကေယာမသ်မတိုင်မီ ထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ဟဒီးဆ်ပညာရှင်အမြောက်အများကသခင့်ထံမှ ဤကျမ်းကိုတိုက်ရိုက်သင်ယူခဲ့ကြပြီးအလွတ်ပင်ကျက်မှတ်ခဲ့ကြသည်။ ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြုကျမ်းများလည်း ရှိသည်။ ယင်းတို့အနက် شيخ محمد بن علي الإيتيوبي သခင်ကြီး၏ ذخيرة العقبى ကျမ်းသည် အတွဲ(၄၀)ရှိသည်။

☆ سير أعلام النبلاء　☆ تهذيب الكمال للمزي　☆ ذخيرة العقبى
☆ السنة ومكانتها في التشريع الإسلامي ☆ حديث اور فهم حديث　☆ صحاح ستہ اور انکے مصنفین

## ၅။ အေမာမ် သိရ်မေဇီ (محمد بن عيسى التِّرْمِذِيْ)

အမည်နှင့် မျိုးစဉ်ဆက် محمدُ بنُ عيسى بنِ سَوْرَة التِّرْمِذِيْ اَلْبُوْغِيْ

ကွန္နယသ် (တင်စားခေါ်ဝေါ်သည့်အမည်) أبوعِيْسٰى

မွေးရပ်ဒေသ ဂျီဟူးန်မြစ်ကမ်းပေါ်ရှိသိရ်မိဇ်မြို့

မွေးသက္ကရာဇ် ရှောင်ဝလ်လ(၁၃)ရက်၊ ဟစ်ဂျ်ရီ (၂၀၉)ခုနှစ်၊ သောကြာနေ့

ကွယ်လွန်ချိန် သက်တော်(၇၀)၊ ရဂျဗ်လ(၁၃)ရက်၊ဟစ်ဂျ်ရီ(၂၇၉)ခု

အေမာမ်သိရ်မေဇီ ﵀ သခင်ကြီးသည် အလွန်ပင်ဉာဏ်ရည်ထက်မြက်သည့် အေမာမ်တစ်ပါးဖြစ်သည်။ အေမာမ်ဗိုခါရီ ﵀ သခင်၏ လက်ဦးတပည့်ကျော်လည်းဖြစ်သည်။ သို့သော်အေမာမ်ဗိုခါရီ ﵀ က "ကျွန်ုပ်ထံမှ အသင်အကျိုးခံစားသည်ထက် ကျွန်ုပ်က အသင့်ထံမှ ပိုမိုအကျိုးရရှိနေသည်"ဟုပင် မိန့်ဆိုခဲ့ဖူးသည်။ အေမာမ်ဗိုခါရီအပြင် အခြားသောပညာရှင်ပေါင်းမြောက်များစွာထံမှပညာဆည်းပူးခဲ့သည်။ အေမာမ်ဗိုခါရီ ﵀ သခင်ကိုယ်တိုင် သခင့်ထံမှ ဟဒီးဆ်တော်များကို ဆင့်ပြန်ခဲ့သည်။

ဘဂ်ဒါးဒ်၊ ကူဖာ၊ဟေဂျားဇ်စသည့် ပညာအလင်းခ မြို့တော်များသို့ ပညာဆည်းပူးရန် ကြွမြန်းခဲ့သည်။

သခင်သည် ဖေကဟ်၊ဟဒီးဆ်နှင့်အခြားသော အစ္စလာမ့်ပညာရပ်ပေါင်းစုံကို ပါရဂူမြောက်တတ်မြောက်ခဲ့သည်။ ဦးစွာပထမ اَلْفِقْهُ الْمُقَارَنُ(မဇ်ဟဗ်ကြီးလေးပါး၊ အခြားပညာရှင်တို့၏ရပ်တည်ချက်များကိုငင်းတို့၏ အထောက်အထားများနှင့် နှိုင်းယှဉ်ဖော်ပြသည့်ဘာသာရပ်)ကို မျိုးစေ့ချခဲ့သည်။

ကိုယ်တော်သခင် ﷺ၏ ရုပ်ဆင်းအင်္ဂါတော်များ၊ကိုယ်ကျင့်တရားများနှင့် အလှုဝိသေသတို့ကို ဖော်ကျူးသည့် اَلشَّمَائِلُ ကျမ်းပြုစုခြင်းမှာ အွမ္မသ်အတွက် မေ့မရနိုင်သည့် လက်ဆောင်တစ်ခုဖြစ်သည်။

ကမ္ဘာကျော်ကျမ်းပေါင်း(၁၀)ကျော်ကိုလည်းပြုစုခဲ့သည်။

## သိရ်မေ့ဇီကျမ်း ( سُنَنُ التِّرْمِذِيْ )

အမည်အပြည့်အစုံ سُنَنُ التِّرْمِذِيْ / جَامِعُ التِّرْمِذِيْ /
اَلْجَامِعُ الْمُخْتَصَرُ مِنَ السُّنَنِ عَنْ رَسُوْلِ اللّٰه صلى اللّٰه عليه و سلم
و مَعْرِفَةُ الصَّحِيحِ و الْمَعْلُوْلِ وَمَاعَلَيْهِ الْعَمَلُ

ဟဒီးဆ်တော်ပေါင်း (၃၉၅၆) ကဏ္ဍပေါင်း (၄၆)

ဤကျမ်းတွင် အေမာမ်သိရ်မေ့ဇီ သခင်သည် ပညာရပ်ပေါင်း(၄၀)ကို ထည့်သွင်းဖော်ပြထားသည်။ "ဤကျမ်းရှိသည့်အိမ်သည် လိုအပ်သည်များကိုလမ်းညွှန် မှာကြားနေသော နဗီတမန်တော်တစ်ပါးရှိနေသည့်အတိုင်းဖြစ်မည်"ဟု သခင်ကိုယ်တိုင်က မိန့်ကြားခဲ့သည်။ ဤကျမ်းပြုစုပြီးချိန် သခင်ကြီးသည် ဟေဂျားဇ်၊အိရားက်၊ခိုရာစာန်မှ ပညာရှင်ကြီးများကို တင်ပြရာ အားလုံးက သဘောတူနှစ်သက်ခဲ့ကြသည်။

ဤကျမ်းသည် လေ့လာသူများအတွက်လွယ်ကူစေသည်။ လေ့လာသူများကို ဟဒီးဆ်၊ဖိကဟ်နှင့်ပတ်သက်သည့် ကဏ္ဍအလုံးစုံဖြင့် မိတ်ဆက်ပေးသည်။

ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွန်မြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သောဟဒီးဆ်တော်များကို ဆင့်ပြန်သူများ၊ အေမာမ်ကြီးများ၏အဆိုအမိန့်များ၊ ရပ်တည်ချက်များ၊အထောက်အထားများနှင့်ပူးတွဲတင်ပြထားသည်။ ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများမှာလည်း အမြောက်အများရှိသည်။ ဤကျမ်းတွင် ثُلَاثِيَّـــات (ကိုယ်တော်နှင့် ကျမ်းရှင်ကြားတွင် ဆင့်ပြန်သူ(၃)ဦးသာရှိသည့်ဟဒီးဆ်) တစ်ပုဒ်ပါဝင်သည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ تحقيق اسمي الصحيحين
☆تحفة الأحوذي ☆ السنة ومكانتها في التشريع الإسلامي ☆ **حدیث اور فہم حدیث**
☆ *صحاح ستہ اور انکے مصنفین*

## ၆။ အေမာမ် အိဗ်နေ့ မာဂျာ ( مُحَمَّدُ بْنُ يَزِيْدَ ابنِ مَاجَهْ)

အမည်နှင့် မျိုးစဉ်ဆက် مُحَمَّدُ بْنُ يَزِيْدَ ابنِ مَاجَهْ اَلْقَزْوِيْنِيْ اَلرَّبْعِيّ

ကွန္နယသ် (တင်စားခေါ်ဝေါ်သည့်အမည်) أبو عبدِ الله

မွေးရပ်ဒေသ အီရတ်နိုင်ငံ၊ကတ်ဇ်ဝီးန်မြို့

မွေးသက္ကရာဇ် ဟစ်ဂျ်ရီ (၂၀၉)ခုနှစ်

ကွယ်လွန်ချိန် ဟစ်ဂျ်ရီ(၂၇၃)ခု၊ ရမ်ဇာန်လ(၂၂)ရက်၊ သက်တော်(၆၄)နှစ်

အေမာမ်အိဗ်နေ့မာဂျာ سّ သခင်ကြီးသည်လည်း ဟစ်ဂျ်ရီ(၃)ရာစုနှစ်၏ ကမ္ဘာကျော်အေမာမ်ကြီးတစ်ပါးဖြစ်သည်။ ထိုအချိန်တွင် ကတ်စ်ဝီးန်မြို့သည် ကမ္ဘာကျော်ပညာရှင်ကြီးများကို မွေးထုတ်ပေးခဲ့သည်။ သခင်သည် မိမိမြို့ရှိပညာရှင်များထံမှ (၂၂) နှစ်သားထိ ဟဒီးဆ်ပညာရပ်များကို သင်ယူခဲ့သည်။ ထို့နောက် ဘဂ်ဒါးဒ်၊ ကူဖာ၊ ဟေဂျားဇ်၊အီဂျစ်၊ဆီးရီးယားစသည့် ပညာအလင်းခ မြို့တော်များသို့လည်းပညာဆည်းပူးရန် ကြွမြန်းခဲ့သည်။

အေမာမ်အိဗ်နေ့မာဂျာ سّ သခင်ကြီးသည် ဟဒီးဆ်၊ဖေကဟ်၊ ဟဒီးဆ်ဆင့်ပြန်သူများ၏အတ္ထုပ္ပတ္တိ၊သမိုင်းနှင့်သဖ်စီးရ်ပညာရပ်တို့တွင် ပါရဂူမြောက်ကျွမ်းကျင်သည့် အေမာမ်ကြီးတစ်ပါးဖြစ်သည်။

သခင်သည် အေမာမ်အဗ်နေ့အဗီရှိုင်ဗဟ်၊ အေမာမ်ဒါရေ့မီတို့အပြင် အခြားသော ကမ္ဘာကျော်ပညာရှင်ကြီးများထံမှ ပညာသင်ယူခဲ့သည်။

ပညာရှင်များက "အေမာမ်အိဗ်နေ့မာဂျာ سّ သည် ဟဒီးဆ်၊ဖေကဟ်၊ဟဒီးဆ်ဆင့်ပြန်သူများ၏အတ္ထုပ္ပတ္တိ၊ သမိုင်းနှင့်သဖ်စီးရ်တို့ကိုနားလည်ရာတွင် အေမာမ်အဆင့်ရှိပြီး၊ ကျွမ်းကျင်လိမ္မာသူဖြစ်သည်ဟု တညီတညွတ်တည်း လက်ခံဆုံးဖြတ်ခဲ့ကြသည်။

## အိဗ်နေ့မာဂျာကျမ်း (سُنَنُ ابْنِ مَاجَهْ)

အမည်အပြည့်အစုံ سُنَنُ ابْنِ مَاجَهْ ဟဒီးဆ်တော်ပေါင်း ၄၃၄၁

ကဏ္ဍပေါင်း ၃၇ အခန်းပေါင်း ၁၅၅

အေမာမ်အိဗ်နေ့မာဂျာ ﷫ သခင်သည် မိမိထံရှိ သိန်းချီသောဟဒီးဆ်တော်များမှ ဤကျမ်းကို ကောက်နှုတ်ပြုစုခဲ့ခြင်းဖြစ်သည်။ သခင်သည်ဤကျမ်းပြုစုပြီးချိန် မိမိဆရာ အေမာမ်အဗူဇုရ်အဟ်ရာဇီ ﷫ ကိုတင်ဆက်ရာဆရာက“ဒီကျမ်းသာလူတွေလက်ထဲရောက် သွားရင်တော့ဖြင့် တခြားကျမ်းတွေမလိုအပ်တော့ဘဲဖြစ်သွားလိမ့်မယ်”ဟုမိန့်ခဲ့သည်။

ဤကျမ်းတွင် ထူးခြားချက်နှစ်ခုရှိသည်။

၁။ ကောင်းမွန်သော အစီအစဉ် (သခင်သည်မိမိကျမ်းကို အများနှင့်မတူဘဲ ဆွဟာဗာကြီးများ၏ ထွင်္ခမြတ်မှုနှင့်ဆိုင်သောဟဒီးဆ်တော်များနှင့် ဖွင့်ထားသည်။)

၂။ صحاح سته ၏အခြား(၅)ကျမ်းတွင် မပါသော ဟဒီးဆ်တော် အများအပြား ဤကျမ်းတွင်ပါဝင်နေသည်။

ထို့အတူဤကျမ်းတွင် ثُلَاثِيَّات (ကိုယ်တော်နှင့်ကျမ်းရှင်ကြားတွင် ဆင့်ပြန်သူ (၃)ဦးသာရှိသည့်ဟဒီးဆ်) (၅)ပုဒ်ပါဝင်သည်။

အစ္စလာမ့်ပညတ်များနှင့်အတူ အေမာမ်ကြီး(၄)ပါး၏ အထောက်အထားများကို စနစ်တကျဖော်ပြထားသည်။ ဤကျမ်းတွင် ယုံကြည်ချက်ပိုင်း၊ ပညတ်ချက်ပိုင်း၊ ကျမ်းမြတ်ကုရ်အာန်၏ သဖ်စီးရ်၊ သမိုင်း၊ စိတ်ဓါတ်ပြုပြင်ရေး၊ ရိုသေသမှု၊ ကိုယ်တော်မြတ်ﷺ၏ အတ္ထုပ္ပတ္တိ၊ ဆွဟာဗာသာဝကကြီးများ၏ထွင်္ခမြတ်မှု၊ ကေယာမသ်မတိုင်မီထိဖြစ်ပျက်မည့်အကြောင်းစုံတို့နှင့် သက်ဆိုင်သည့် ဟဒီးဆ်တော်များပါဝင်သည်။

ဤကျမ်း၏ အကျယ်ဖွင့်ဋီကာကျမ်းများ၊ ရှင်းလင်းချက်များ၊ အခြေပြကျမ်းများလည်းရှိသည်။ ယင်းတို့အနက် شيخ محمد بن علي الإيتيوبي သခင်ကြီး၏ مشارق الأنوار ကျမ်းသည် အလွန်ပင်အကျိုးရှိလှသည်။

☆ سير أعلام النبلاء ☆ تهذيب الكمال للمزي ☆ مشارق الأنوار

☆ السنة ومكانتها في التشريع الإسلامي ☆ حديث اور فهم حديث ☆ صحاح سته اور انکے مصنفين

☆ ماتمس إليه الحاجة

بسم الله الرحمن الرحيم

# الحديث الأول

## (၁) အစ္စလာမ့်မဏ္ဍိုင်ကြီး (၅) ခု

عـن ابنِ عُمَرَ رضي الله عنهما قال: قال رسول الله صلى الله عليه وسلم: "بُنِـيَ الإسـلامُ على خَمْسٍ؛ شهادةِ أن لا إلهَ إلا اللهُ، وأن محمدا رسولُ الله، وإقامِ الصلاةِ، وإيتاءِ الزكاة، والحجِّ، وصومِ رمضانَ." (متفق عليه) (١)

ဟဇရတ်အဗ္ဗဒုလ္လာဟ်ဗင်န်အုမရ် رضي الله عنهما သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်။ အစ္စလာမ်သာသနာတော်သည် မဏ္ဍိုင်ကြီး (၅)ခု ပေါ်တွင်တည်ရှိသည်။

(၁)အရှင်မြတ်မှတပါး အခြားကိုးကွယ်ခြင်းခံထိုက်သူမရှိ၊ ကိုယ်တော်မြတ် ﷺ သည် အရှင်မြတ်၏ စေလွှတ်တော်မူသော စေတမန်တော်ဖြစ်သည်ဟု သက်သေခံခြင်း၊
(၂) နမားဇ်ဆောက်တည်ခြင်း၊ (၃) ဇကားသ်ဒါနကြေးပေးဆောင်ခြင်း၊
(၄) ဟဂျ်ပြုခြင်း (၅) ရမ်ဇာန်လမြတ်တွင် ရိုဇာဥပုသ်စောင့်ထိန်းခြင်းတို့ဖြစ်ပါသည်။

### အကျိုးကျေးဇူး

အစ္စလာမ်သာသနာတော်၏ မဏ္ဍိုင်ကြီး (၅)ရပ်အားလေ့လာကြည့်သော် အီမာန်သည် နှလုံးသား၏ ယုံကြည်ချက်ဖြစ်သည်။ နမားဇ်နှင့်ရိုဇာတို့သည် ခန္ဓာကိုယ်နှင့်ရင်း၍၊ ဇကားသ်သည် ဥစ္စာနှင့်ရင်း၍၊ ဟဂျ်သည် ခန္ဓာ ဥစ္စာနှစ်မျိုးလုံးဖြင့်ရင်း၍ ဆောက်တည်ရသော အေဗာဒသ်များဖြစ်သည်။ မွတ်စ်လင်မ်တိုင်းသည် အထက်ပါ အချက်များကို အပြည့်အဝယုံကြည်လက်ခံရမည်။ တာဝန်ရှိသူတိုင်းသည်လည်းတာဝန်ချရမည်။ တစ်ခုခုအား လက်မခံ ငြင်းဆန်ခဲ့လျှင် လုံးဝ မွတ်စ်လင်မ်မဖြစ်နိုင်ပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| တည်ဆောက်ခံရခြင်း | بُنِيَ ( مجهول) [بَنٰى (ض)بِنَاءً ا] |
| သက်သေခံခြင်း | شَهَادَةٌ (مص) [شهد (س) شَهَادَةً] |
| ကိုးကွယ်ရာအရှင် | إِلٰهٌ (ج) آلِهَةٌ |
| စေတမန်တော် | رَسُوْلٌ (ج) رُسُلٌ |
| ဆောက်တည်ခြင်း | إِقَامٌ [أقام (إفعال) إقامَةً، و إقامًا] |
| ပေးဆောင်ခြင်း၊ ချီးမြှင့်ခြင်း | إِيْتَاءٌ [آتٰى (إفعال)] |
| ဟဂျ်ပြုခြင်း ၊ ဦးတည်ခြင်း | حَجٌّ [حجَّ (ن) حَجًّا] |
| ဥပုသ်စောင့်ထိန်းခြင်း ၊ ထိန်းချုပ်ခြင်း | صَوْمٌ [صام (ن) صَوْمًا، وصِيَامًا] |
| ရမ်ဇာန်လမြတ် ၊ လောင်ကျွမ်းစေသောအရာ | رَمَضَانُ |
| ဆွဟာဗီတစ်ပါးတည်းထံမှ အေမာမ်ဗိုခါရီ နှင့် အေမာမ်မွတ်စ်လင်မ်တို့နှစ်ဦးလုံး တညီတညွတ် တည်းမိမိတို့ကျမ်းများတွင် ဖော်ပြထားသော ဟဒီးဆ် | مُتَّفَقٌ عَلَيْهِ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**ابن عمر : عبد الله بن عمر** رضي الله عنهما

ابن عمر ဆိုသည်မှာ ခလီဖာကြီးဟဇရသ်အုမရ်၏သားတော် عبد الله သခင်ကိုဆိုလိုသည်။ ကုရိုင်းရှ်မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ သခင်၏ကွန္နယသ်(ဂုဏ်ထူးဆောင်အမည်)မှာ أبو عبد الرحمن ဖြစ်သည်။ عَبَادِلَة(၄) ပါးအနက်တစ်ပါးဖြစ်သည်။

ကိုယ်တော်မြတ်ﷺ ၏ စွန္နသ်တော်ကို အပြည့်အဝ လိုက်နာသူလည်းဖြစ်သည်။ ခန်ဒတ်က်စစ်ပွဲနောက်ဖြစ်ပွားခဲ့သည့် စစ်ပွဲတိုင်းတွင် ပါဝင်ဆင်နွှဲခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံမှဟဒီးဆ်ထောင်ချီ ဆင့်ပြန်ခဲ့သောဆွဟာဗီ(၇)ပါးအနက်

ဒုတိယတစ်ပါးဖြစ်သည်။ ဟဒီးဆ်တော်ပေါင်း (၂၆၃၀)ပုဒ်ဆင့်ပြန်ခဲ့သည်။

ဟစ်ဂျ်ရီ (၇၄)ခုနှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။

ကိုယ်တော်မြတ်ﷺ က” عبـــدالله သည် သူမွန်သူမြတ်တစ်ဦးဖြစ်သည်”ဟု မိန့်တော်မူခဲ့သည်။ [2]

မှတ်သားရန်။ ။ عبادلة (၄) ဦး ဆိုသည်မှာ -

| | |
|---|---|
| عبدالله بن مسعود (၂) | (၁) عبدالله بن عُمَر |
| عبدالله بن عَمْرٍو (၄) | (၃) عبد الله بن عباس |

رضي الله عنهم တို့ဖြစ်ကြသည်။

ပညာရှင်များက عُمَرُ နှင့် عَمْرو ခွဲခြားနိုင်ရန် عَمْرو တွင် (و) ထည့်ပေးကြသည်။

**လေ့ကျင့်ခန်း**

၁။ အစ္စလာမ့်မဏ္ဍိုင်ကြီး(၅)ခုကိုရေးသားပါ။

၂။ ဟဇရသ်အိဗ်နေ့အုမရ်သခင်ဆင့်ပြန်ခဲ့သည့် ဟဒီးဆ်အရေအတွက်နှင့်သခင်ကြီး ကွယ်လွန်သည့်ခုနှစ်ကို ရေးပါ။

၃။ عبادلة (၄) ဦးဆိုသည်မှာ မည်သူတို့နည်း။

၄။ متفق عليه ဆိုသည်မှာ မည်သို့သော ဟဒီးဆ်ဖြစ်သနည်း။

❁❁❁

(١) أخرجه البخاري في صحيحه؛ باب "دعائكم إيمانكم". ر: ٨. ومسلم في صحيحه؛ " باب بيان أركان الإسلام ودعائمه العظام". ر: ١٦.

(٢) انظر "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر. أسماء الصحابة الرواة ومالكل واحد منهم من العدد.

## الحديث الثاني

## (၂) သောင်ဟီးဒ်တရားသည် ပထမ

عـن ابـنِ عبـاسٍ رضـي اللّٰه عـنهـما يقول : لَمَّا بَعَثَ النبيُّ صلى اللّٰه عليه وسـلم معاذَ بْنَ جَبَلٍ رضي اللّٰه عنه إلى نحْوِ أهلِ الْيَمَنِ ؛ قال له : "إنك تَقْدَمُ على قـومٍ مـن أهـل الـكتـاب ، فَـلْيَكُنْ أَوَّلَ ما تَدْعُوْهُمْ إلى أَنْ يُوَحِّدُوا اللّٰهَ تَعَالٰى ، فإذا عَـرَفُـوْا ذلكَ فَـأَخْبِـرْهُـمْ أنَّ اللّٰهَ قَـدْ فَـرَضَ عـليهِـمْ خَـمْـسَ صلواتٍ في يَوْمِهِمْ ولَيْلَتِهِمْ". (متفق عليه) (١)

ဟဇရသ်အိဗ်နေ့အဗ္ဗါးစ်သခင် ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သည် မုအားဇ်သခင်အား ယီမင်နိုင်ငံသားများထံသို့ စေလွှတ်တော်မူသောအခါ ဤသို့ မိန့်မှာခဲ့သည်။ ''အသင်သည် ကျမ်းရမျိုးနွယ်စုတစ်စုထံ သွားနေသည်။ ထို့ကြောင့် ထိုသူတို့အား အသင်၏ဦးစွာဖိတ်ခေါ်မှုမှာ အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းကို ကိုးကွယ်ခြင်းဘက်သို့ သာဖြစ်ပါစေ။ ထိုသောင်ဝ်ဟီးဒ်တရားကို ၎င်းတို့ သိရှိသောအခါမှသာ အရှင်မြတ်သည် နေ့နှင့်ညတွင် ထိုသူတို့အပေါ် နမားဇ်(၅)ကြိမ်ကို ဖရဇ်(မပြုမနေရတာဝန်)အဖြစ်သတ်မှတ်ထားကြောင်း သတင်းပေးပါလေ။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်အရ သောင်ဝ်ဟီးဒ်သည်အရေးကြီးဆုံးဖြစ်ကြောင်း သိရှိရသည်။ ထို့အတူ အစ္စလာမ်သာသနာတော်မြတ်သည် အရေးကြီးသော အရာကို ဦးစားပေးတင်ပြစေသည်။ ဤသည် ဒါအီများအဖို့ တန်ဖိုးမဖြတ်နိုင်သည့် လမ်းညွှန်ချက်ဖြစ်သည်။ သောဝ်ဟီးဒ်တရားနောက်တွင် အရေးအကြီးဆုံးမှာ နမားဇ်ဝတ်ပြုခြင်းဖြစ်ကြောင်းသည်လည်း ထင်ရှားလှပါသည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| စေလွှတ်ခြင်း | بعث (ف) بَعْثًا،وبِعْثَةً |
| ယီမင်နိုင်ငံ | اَلْيَمَنُ |
| ဖိတ်ခေါ်ခြင်း | دعا(ن) دَعْوَةً [إلى] |
| တစ်ခုတည်းကိုဦးတည်ခြင်း၊ တစ်ပါးတည်းသော အရှင်ကို ယုံကြည်ကိုးကွယ်ခြင်း | وَحَّدَ (تفعيل) |
| သိရှိခြင်း | عرف (ض) عِرْفَانًا، ومَعْرِفَةً |
| သတင်းပေးခြင်း | أخبر (إفعال) |
| သတ်မှတ်ပြဋ္ဌာန်းခြင်း | فرض (ض) فَرْضًا [على] |
| ဘက်သို့ | نَحْوٌ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**ابن عباس : عبد الله بن عباس** رضي الله عنهما

عبد الله بن عباس သည် ကိုယ်တော်မြတ်ﷺ၏ ဘကြီးတော် ဟဇရသ် အဗ္ဗါးစ်၏ သားတော်ဖြစ်သည်။ ကွန္နယသ်(ဂုဏ်ထူးဆောင်အမည်)မှာ အဗွလ် အဗ္ဗါးစ်ဖြစ်သည်။ عبادلة(၄) ပါးအနက်တစ်ပါးဖြစ်သည်။ ကိုယ်တော်မြတ် ﷺ သည် သခင့်အတွက်သာသနာတော်ကိုဂဃနဏနားလည်သဘောပေါက်ပြီး ကျမ်းမြတ် ကုရ်အာန်ကို ခရေစေ့တွင်းကျနားလည်နိုင်ရန် ဒိုအာတောင်းပေးခဲ့သည်။ ထို့ကြောင့် သခင့်ကို تُـرْجُـمَـانُ الْقُـرْآنِ (ကုရ်အာန့်ပါရဂူ) ၊ حِبْـرُ الْأُمَّةِ (အွမ္မသ်၏ သုခမိန်)ဟု ဘွဲ့တပ်ခေါ်ဆိုကြသည်။ ကိုယ်တော်မြတ်ကြီး ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၁၆၆၀) ပုဒ် ဆင့်ပြန်ခဲ့သည်။ ဟစ်ဂျ်ရသ်မတိုင်မီ (၃)နှစ်တွင် ဖွားမြင်ခဲ့သည်။ ဟစ်ဂျ်ရီ(၆၈) ခုနှစ်၊ သက်တော် (၇၂)နှစ်၌ သွာအိဖ်မြို့တွင် ကွယ်လွန်ခဲ့သည်။ [၂]

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးကို ရေးသားပါ။

၂။ عبد الله بن عباس رضي الله عنهما သခင်အကြောင်း အနည်းငယ်ရေးပါ။

၃။ ဟဒီးဆ်တော်တွင်ပါရှိသည့်အတိုင်း အချင်းချင်း လက်တွေ့ဖိတ်ခေါ်ပါ။

❁❁❁

(١) أخرجه البخاري "باب ما جاء في دعاء النبي صلى الله عليه وسلم أمته إلى توحيد الله تبارك وتعالى" ر:٧٣٧٢. ومسلم "باب الدعاء إلى الشهادتين وشرائع الإسلام".

(٢) "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر. وأسماء الصحابة ومالكل واحد منهم من العدد.

# الحديث الثالث

## (၃) ဂျန္နသ် ၏သော့တံ

عن جابرِ بْنِ عبدِ الله رضي الله عنهما قال : قال رسول الله صلى الله عليه و سلم : "مِفْتَاحُ الْجَنَّةِ الصَّلَاةُ ، و مِفْتَاحُ الصَّلاةِ الْوُضُوْءُ". (رواه الترمذي) [1]

ဟဇရသ်ဂျာဗိရ် رضـــي الله عـــنـــه ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည်။ ''ဂျန္နသ်၏သော့တံသည် နမားဇ်ဖြစ်သည်။ နမားဇ်၏သော့တံသည် ဝိုဇူ ရေသန့်စင်ခြင်း ဖြစ်သည်။ ''

### အကျိုးကျေးဇူး

အထက်ပါ ဟဒီးဆ်တော်အရ ဂျန္နသ်ဝင်လိုသူသည် နမားဇ်ဆောက်တည်ရမည်။ နမားဇ်ဆောက်တည်ရာတွင်လည်း ကိုယ်ခန္ဓာ၊အဝတ်၊နေရာ စသည်တို့ကို သန့်ပြန့်စွာထားရန်မှာဖရဇ်ဖြစ်သည်။ ထို့အတူ ဝိုဇူရေသန့်စင်ခြင်းသည်လည်း အလွန်အရေးကြီးသည်။ ဝိုဇူမပါဘဲ ဝတ်ပြုသော နမားဇ်ကို အရှင်မြတ် လက်ခံမည်မဟုတ်။

အရှင်မြတ်သည် မိမိအသနားတော်ဖြင့် ဂျန္နသ်သော့တံကို ဖွင့်ဟပြသထားသည်။ ထို့ကြောင့် ဂျန္နသ်သော့တံမေ့မကျန်စေရန် ကြွနိုပ်တို့ကြိုးပမ်းကြရမည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| သော့တံ | مفتاح (ج) مفاتيح (اسم الآلة) |
| သုခဘုံ | جَنَّةٌ (ج) جَنَّاتٌ |
| ဝိုဇူရေသန့်စင်ခြင်း | وُضُوْءٌ (اسم المصدر) |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## جابر بن عبد الله رضي الله عنهما

ဟဇရသ်ဂျာဗိရ် رضي الله عنه သည် ခဇ်ရဂ်မျိုးနွယ်ဝင် အန်ဆွာရီ ဆွဟာဗီ တစ်ပါးဖြစ်သည်။ ကွန္နယသ်(ဂုဏ်ထူးဆောင်အမည်)မှာ أبو عبد الله ဖြစ်သည်။ ဖခင်သည်လည်း ကျော်ကြားသော ဆွဟာဗီတစ်ပါးဖြစ်သည်။ ဟဇရသ်ဂျာဗိရ်သည် ဗဒရ်နှင့် အုဟုဒ်မှ အပအခြားသော စစ်ပွဲ(၁၉)ပွဲတွင် ပါဝင်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၁၅၄၀)ပုဒ်ဆင့်ပြန်ခဲ့သည်။ သခင်ကြီး၏ အကြောင်းခံဖြင့် အမွေဆိုင်ရာအာယသ်တော်များကျရောက်ခဲ့ပြီး အချို့သော မုအ်ဂျိဇာများလည်း ကိုယ်တော်မြတ်ထံတော်မှ ထွက်ပေါ်ခဲ့သည်။ ထိုမုအ်ဂျိဇာများမှာ အလွန်ပင်စိတ်ဝင်စားဖွယ်ကောင်းပြီး အစ္စလာမ်သာသနာတော်၏ မှန်ကန်ကြောင်းကို သက်သေထူနေပါသည်။

ဟစ်ဂျ်ရီ(၇၃)ခုနှစ်၊သက်တော်(၉၄)နှစ်အရွယ်၌ မဒီနာရွှေမြို့တော်တွင် ကွယ်လွန်ခဲ့သည်။ (٢)

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်မြတ်၏ အခြားသော အကျိုးကျေးဇူးများကို စဉ်းစား၍ (၅) ကြောင်းခန့် ရေးသားပါ။

၂။ ဟဇရသ်ဂျာဗိရ်၏ အကြောင်းကို အကျဉ်းရုံး၍ရေးသားပါ။

၃။ လက်တွေ့ဝိုင်းလုပ်ပြပါ။

❁❁❁

(١) أخرجه الترمذي في سننه : "باب أن مفتاح الصلاة الطهور". ر: ٤

(٢) "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر.
أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الرابع

## (၄) ခွန္နသ်နည်းကျ ဝိုဇူပြုလုပ်နည်းနှင့် အကျိုးကျေးဇူးများ

عثمانُ بنُ عَفَّانَ رضي الله عنهُ [أَنَّه] دعا بإناءٍ فأفْرَغَ على كَفَّيْهِ ثَلاثَ مِرَارٍ؛ فَغَسَلَهُمَا ثُمَّ أدْخَلَ يَمِيْنَهُ في الإناءِ، فَمَضْمَضَ واسْتَنْشَقَ، ثم غَسَلَ وَجْهَهُ ثلاثا، ويَدَيْهِ إلى المِرْفَقَيْنِ ثلاثَ مِرَارٍ، ثم مَسَحَ بِرَأْسِه، ثم غَسَلَ رِجْلَيْهِ ثلاثَ مِرَارٍ إلى الْكَعْبَيْنِ، ثم قال: " قال رسول الله صلى الله عليه وسلم: " مَنْ تَوَضَّأَ نَحْوَ وُضُوْئي هٰذَا؛ ثُمَّ صَلّٰى ركعتين لا يُحَدِّثُ فِيْهِمَا نَفْسَهُ، غُفِرَ لَهُ مَا تَقَدَّمَ مِنْ ذَنْبِه. " (رواه البخاري) (١)

ဟဇရသ်အွတ်ဆ်မာနိ رضـي اللّٰهعنـه သခင်သည် (ရေ) တစ်ခွက်မှာယူပြီး မိမိလက်နှစ်ဖက်ပေါ်(၃)ကြိမ်လောင်းချလိုက်သည်။ ထို့နောက် လက်နှစ်ဖက်ကို ဆေးကြောပြီး ညာဖက်လက်ကို ခွက်တွင်နှိုက်ကာ ပလုပ်ကျင်းခဲ့သည်။ ထို့နောက် နှာခေါင်းတွင်းသို့ ရေသွင်း၊ ရေထုတ်ပြုလုပ်သည်။ တဖန်မိမိမျက်နှာ၊ လက်နှစ်ဖက်တို့ကို တံတောင်ဆစ်အထိ(၃)ကြိမ် ဆေးကြောလိုက်သည်။ တဖန်ဦးခေါင်းကို တစ်ကြိမ်မစဟ်ပြု (ပွတ်သပ်)ပြီးခြေနှစ်ဖက်ကို ခြေမျက်စေ့အပါအဝင်(၃)ကြိမ်ဆေးကြောလိုက်သည်။ထို့နောက် သခင်က ကိုယ်တော်မြတ် ﷺ ၏မိန့်မှာချက်ကို ဤသို့ပြန်လည်ပြောကြားခဲ့သည်။

''မည်သူမဆို ငါကိုယ်တော်မြတ် ဝိုဇူပြုလုပ်သည့်အတိုင်း ဝိုဇူပြုလုပ်ပြီးနောက် နမားဇ်(၂)ရကအသ် ဝတ်ပြုမည်။ ထိုနမားဇ်(၂)ရကအသ်ဝတ်ပြုရာတွင်လည်း စိတ်ဖြင့် မတော်တရော်မတွေးခဲ့ပါက ထိုသူကျူးလွန်ခဲ့သော ဂိုနာဟ်အသေးဟူသမျှသည် ပလပ်ပေးခြင်းခံရမည်ဖြစ်သည်။

**အကျိုးကျေးဇူး**

အထက်ပါဟဒီးဆ်တော်အရ စွန္နသ်နည်းကျ ဝုဇူပြုလုပ်နည်းနှင့် အစိတ်အပိုင်းတိုင်းကို (၁)ကြိမ်ဆေးကြောခြင်းသည် ဖရဇ်ဖြစ်ပြီး (၃) ကြိမ်ဆေးကြောခြင်းသည် စွန္နသ်ဖြစ်ကြောင်း သိရသည်။ ဝုဇူပြုပြီးနောက် تحية الوضوء (ဝုဇူအား ကြိုဆိုသောနမားဇ် (၂)ရကအသ်) ဖတ်ခြင်းသည်လည်း ဂုနာများကျွတ်ရန်အကြောင်းခံဖြစ်သည်။ ဤသို့ပြုမူဆောင်ရွက်ခြင်းသည် လောကဥ္စပင် ဂျန္နသ်၏သတင်းကောင်းပေးခြင်းခံရကြောင်း ဗိုခါရီကျမ်းလာ ဟဇရသ်ဗေလားလ်၏ အကြောင်းအရာမှ သိရှိရသည်။

ထို့အတူ နမားဇ်ဖတ်နေစဉ် စိတ်ဖြင့် မတော်တရော်တွေးခြင်းသည်လည်း ရရှိမည့်မဂ်ဖိရသ်အတွက် အဟန့်အတားဖြစ်နိုင်သည်။

ဤဟဒီးဆ်တော်တွင်ပါရှိသော ဂုနာဟ်ဆိုသည်မှာ(ဆွဂီရဟ်) ဂုနာဟ်များကိုသာဆိုလိုပြီး (ဂုနာဟ်ကဗီရဟ်)များမှာမူ သောဝ်ဗဟ်ပြုမှသာ ပလပ်ပေးခြင်းခံရမည်။ ထို့အတူ ကိစ္စတိုင်းကို လက်တွေ့ကျကျသင်ကြားပေးခြင်းသည်လည်း သာသနာတော်တွင်လွန်စွာအရေးပါကြောင်းသိရှိရသည်။

ဥပမာ - လက်တွေ့နမားဇ် ဝတ်ပြုနည်း၊ လက်တွေ့ဝုဇူပြုလုပ်နည်း

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ရေခွက် | إناءٌ (ج) آنية |
| သွန်ချခြင်း၊လောင်းချခြင်း | أفرغ (إفعال) [على] |
| ပလုပ်ကျင်းခြင်း | مضمض (فعلل) |
| နှာခေါင်းတွင်း ရေသွင်းဆေးခြင်း | استنشق (استفعال) |
| တံတောင်ဆစ် | مِرْفَقٌ (ج) مَرَافِقُ |
| စိတ်ဖြင့် မတော်တရော်တွေးခြင်း | حدَّث (تفعيل) [نفسه] |

| | |
|---|---|
| غفر (ض) غُفْرَانًا ، ومَغْفِرَةً | ဖုံးအုပ်ပေးခြင်း ၊အပြစ်များကိုခွင့်လွှတ်ပေးခြင်း |
| تَقَدَّم (تفعل) | အတိတ်တွင်ဖြစ်ပျက်ခြင်း |
| ذَنْبٌ (ج) ذُنُوْبٌ | ပြစ်မှု ၊ အကုသိုလ် |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## **عثمان بن عفان** رضي اللّٰه عنه

عثمان رضي اللّٰه عنه သခင်သည် ကုရိုင်းရှ်မျိုးနွယ်ဝင် တစ်ဦးဖြစ်သည်။ ကွန်နယသ်(ဂုဏ်ထူးဆောင်အမည်)မှာ أبو عمرو ဖြစ်သည်။ သခင်သည် ကိုယ်တော် ﷺ ၏သမီးတော်နှစ်ပါးဖြစ်သော رقية သခင်မ أم کلثوم သခင်မတို့ နှင့် ထိမ်းမြားခွင့်ရခဲ့သည့် အတွက် ذوالنورين (အလင်းနှစ်ခုပိုင်ရှင်) ဟုလည်း ဂုဏ်ပေးခေါ်ဆိုခြင်းခံရသည်။ တတိယမြောက် ခလီဖှာကြီးဖြစ်သည်။ တစ်ကြိမ်တည်း ဂျန္နသ်၏ သတင်းကောင်းပေးခြင်းခံခဲ့ရသည့် ဆွဟာဗီ(၁၀)ဦးတွင်လည်း ပါဝင်သည်။ အစကနဦးပိုင်းတွင် အစ္စလာမ်လက်ခံခဲ့သည်။ ဆင်နှစ်ပြီးနောက်(၆)နှစ်အကြာတွင် မွေးဖွားခဲ့သည်။ အီသီယိုးပီးယားနိုင်ငံသို့ပထမဆုံး ဟိဂျ်ရသ်ပြုခဲ့သည်။ ရိုကိုင်ယာ သခင်မ နာမကျန်းဖြစ်နေသောကြောင့် ကိုယ်တော်မြတ်ကြီး ﷺ ၏ အမိန့်တော်ဖြင့် ဗဒရ်စစ်ပွဲတွင် ပါဝင်ခွင့်မရခဲ့ပါ။

ဟဇရသ်အုမရ်သခင်၏ أصحاب الشورى အတိုင်ပင်ခံပုဂ္ဂိုလ်(၆)ဦး အနက် တစ်ဦးဖြစ်ခဲ့သည်။ မွတ်စ်လင်မ်အများသောက်သုံးနိုင်ရန် ရူမဟ်ရေတွင်းအား ယဟူဒီ ထံမှဒိရ်ဟမ်(၂၀၀၀၀)ဖြင့်ဝယ်ယူလှူဒါန်းခဲ့သည်။ သဗူးက်စစ်ပွဲတွင် ကုလားအုပ်အ ကောင်(၉၅၀)နှင့် မြင်းအကောင်(၅၀)ကိုလည်း လှူဒါန်းခဲ့သည်။

သခင်ကြီးသည် မိမိ၏ ညဥ့်ယံများကို ကုရ်အာန်ကျမ်းတော်မြတ် ဖတ်ရွတ်ခြင်း

ဖြင့်ရှင်သန်စေခဲ့သည်။ မိမိအုပ်ချုပ်စဉ်ကာလတွင်လည်း ကျမ်းတော်မြတ်ကုရ်အာန်ကို စနစ်တကျ ရေးသားစုစည်းစေပြီး ကမ္ဘာအနှံ့ ဖြန့်ဝေခဲ့သည်။

သခင်ကြီးခလီဖွာဖြစ်သောနေ့မှာ ဟစ်ဂျ်ရီ (၂၄)ခုႇမုဟရ်ရမ်လဆန်း စနေနေ့ ဖြစ်ခဲ့သည်။

ဟစ်ဂျ်ရီ (၃၅) ခု၊ ဇိလ်ဟိဂျ်ဂျာလ (၁၇)ရက်၊ ဂျုမ်အဟ်နေ့၊ သက်တော်(၈၂) နှစ်တွင်မသမာသူလူတစ်စု၏ ရှဟီးဒ်ပြုခြင်းကိုခံခဲ့ရသည်။ သခင်ကြီးသည် ရှဟီးဒ်ပြု ခံရစဉ် ﴿فسيكفيكهم الله﴾ ဟူသော အာယသ် တော်သို့ရောက်ရှိပြီး ထိုအာယသ်တော် ရေးသားထားသောအရာပေါ်တွင် သွေးများစွန်းထင်းနေပါသည်။ ဂျန္နသွလ်ဗကီးအ်တွင် မြှုပ်နှံခြင်းခံရသည်။ သခင်ကြီး၏ အုပ်ချုပ်မှုသက်တမ်းမှာ(၁၁နှစ်၊၁၄ရက်)ဖြစ်သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၁၄၆)ပုဒ် ဆင့်ပြန်ခဲ့သည်။

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို အရဗီလိုရေးပါ။

၂။ အောက်ပါစကားလုံးများကို အသုံးပြု၍ ဝါကျဖွဲ့ပါ။

حدث نفسه - أفرغ [على] - استنشق

၃။ ဟဇရသ်အွတ်စ်မားန်သခင်အကြောင်းကို အကျဉ်းရုံးရေးပါ။

၄။ ဤဟဒီးဆ်တော်မှ အသင်သိရှိလိုက်ရသည့် အခြား အကျိုးကျေးဇူးများကို အနည်း ငယ်ရေးသားပါ။

၅။ စွန္နသ်နည်းကျ လက်တွေ့ဝိုဇူပြုလုပ်ပြပါ။

❁❁❁

(١) أخرجه البخاري في صحيحه ."باب الوضوء ثلاثا" ر: ١٥٩

(٢) "رواة التهذيبين" تهذيب الكمال للمزي ، وتهذيب التهذيب لابن حجر .
أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الخامس

## (၅) သယမ်မွမ် ပြုလုပ်နည်း

عن عَمَّارِ بن ياسِرٍ رضي اللّٰهعنه [أَنَّهُم] حِيْنَ تَيَمَّمُوْا مَعَ رسولِ اللّٰهِ صلى اللّٰه عـليه و سلم ؛ فأمَرَ المسلمين فَضَرَبُوْا بِأَكُفِّهِمْ التُّرَابَ، ولم يَقْبِضُوْا من التراب شيئـا ، فَمَسَحُوْا بوُجوهِهم مَسْحَةً واحدة، ثم عَادُوا فضَرَبُوا بأكفهم الصَّعِيْدَ مَرَّةً أُخرى، فَمَسَحُوْا بأَيْدِيْهِم ". (رواه ابن ماجة ) (١)

ဟဇရသ်အမ္မားရ်ဗင်န် ယာစိရ်သခင်ထံမှ ၎င်းတို့သည်ကိုယ်တော်မြတ် ﷺ နှင့် အတူသယမ်မွမ်ပြုလုပ်နေချိန် ကိုယ်တော်မြတ် ﷺက မွတ်စ်လင်မ်တို့အား မြေကြီးကို လက်ဖဝါးဖြင့်ပုတ်လိုက်ရန် အမိန့်ပေးခဲ့သည်။ ထိုအခါမွတ်စ်လင်မ်တို့သည် မြေကြီးကို လက်ဖဝါးဖြင့် ရိုက်ပုတ်ခဲ့ကြသည်။ သို့သော် မြေကြီးမှ တစ်စုံတရာ ဆုပ်ကိုင်ခြင်းမပြုကြ။ ထို့နောက် မိမိတို့မျက်နှာများကို တစ်ကြိမ်ပွတ်သပ်လိုက်ကြသည်။ တစ်ဖန် မြေကြီးကို ဒုတိယအကြိမ် လက်ဖဝါးဖြင့်ရိုက်ပုတ်ပြီးနောက် လက်များကို(တစ်တောင်ဆစ်)အပါအဝင် ပွတ်သပ်ခဲ့ကြသည်။

### အကျိုးကျေးဇူး

နမားဇ်အချိန်အတွင်းရေမရရှိနိုင်လျှင်သော်လည်းကောင်း၊ ရေသုံးလျှင် ရောဂါ ပိုမိုစိုးရိမ်ဖွယ်ရှိလျှင်သော်လည်းကောင်း၊ရေသွားယူလျှင်ပြန်လည်ဖြည့်စွက်၍မရနိုင် သည့် နမားဇ်လွတ်သွားမည်ကို စိုးရိမ်ရလျှင်သော်လည်းကောင်း သယမ်မွမ်ပြုလုပ်နိုင် ကြောင်း ဤဟဒီးဆ်တော်မြတ် တွင် လမ်းညွှန်ထားပေသည်။ ထိုသို့ သယမ်မွမ်ပြုလုပ် ရာတွင် မြေကြီးအမျိုးအစား တစ်ခုခုကို ရည်စူးချက်နှင့်တကွ လက်ဖဝါးဖြင့် နှစ်ကြိမ် ရိုက်ခတ်ရန် အရေးကြီးသည်။ တစ်ကြိမ်သည် မျက်နှာအတွက်ဖြစ်ပြီး၊ ဒုတိယတစ်ကြိမ် မှာ လက်နှစ်ဖက်ကိုတံတောင် ဆစ်အပါအဝင်သုတ်သပ်နိုင်ရန်ဖြစ်သည်။ ထိုသို့ပွတ် သပ်နေစဉ် လက်ဖဝါးတွင် မြေကြီးများကျန်ရှိနေရန်လည်း လုံးဝ မလိုအပ်ပါ။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| ရည်စူးခြင်း၊ သယမ်မ်မ်ပြုလုပ်ခြင်း | تَيَمَّمَ (تفعل) |
| ဆုပ်ကိုင်ခြင်း | قبض (ض) قَبْضًا [على] |
| မြေကြီး | تُرَابٌ (ج) أَتْرِبَةٌ |
| မြေမျက်နှာပြင်၊သန့်ပြန်သောမြေကြီး | صَعِيْدٌ (ج) أَصْعِدَةٌ ، وَصُعُدٌ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**عمار بن ياسر رضي الله عنه**

عمار သခင်သည် ယီမင်နိုင်ငံ عنس မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ أبو اليقظان ဟုတင်စားခေါ်ဝေါ်ကြသည်။ ဟစ်ဂျ်ရသ်မတိုင်မီ (၅၇)နှစ် တွင် မွေးဖွားခဲ့သည်။ ဟစ်ဂျ်ရီ(၃၇)ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ ရဲရင့်သည့် ဆွဟာဗီတို့ အနက်တစ်ဦးဖြစ်သည်။ ကိုယ်ပိုင်အတွေးရှိ သူတစ်ဦးလည်းဖြစ်သည်။ အစ္စလာမ် သာသနာတော်ကို ဦးစွာလက်ခံကာ ကြေငြာခဲ့သူလည်းဖြစ်သည်။ ဗဒရ်၊အုဟုဒ်၊ ခန်ဒတ်က်၊ ဟိုဒိုင်ဗီယဟ်စသည့် သာသနာ့ကြိုးပမ်း မှုများတွင် ပါဝင်ဆင်နွှဲခဲ့သည်။ ကိုယ်တော်သည်သခင့်အား “ اَلطَّيِّبُ الْمُطَيَّبُ ” (သန့်စင်မွန်၊ခြောက်ပြစ်ကင်းသဲလဲစင်)ဟု ဘွဲ့ပေးခဲ့သည်။ ထို့အတူ“အမွှားရ်အား ကိစ္စနှစ်ခုနှင့်ပတ်သက်၍ ရွေးချယ်ပိုင်ခွင့်ပေးသောအခါ ပိုမိုမှန်ကန်သော ကိစ္စရပ်ကိုသာ ရွေးချယ်လေ့ရှိသည်”ဟုလည်း ချစ်နဗီက မိန့်ဆိုခဲ့သည်။ အစ္စလာမ် သာသနာတော်တွင် ပထမဆုံးဗလီဝတ်ကျောင်းတော်ကို တည်ဆောက်ခဲ့သည်။ မဒီနာမြို့ရှိ ကုဗာဗလီကြီးသည် သခင်၏ လက်ရာမွန်ဖြစ်သည်။ ဟဇရသ်အုမရ်သည် ကူဖွာမြို့ဝန်အဖြစ် သခင့်အား ခန့်အပ်ခဲ့သည်။ ဟဇရသ်အလီနှင့်အတူ ဂျမလ်နှင့်ဆီဖ္ဖီးန် စစ်ပွဲတို့တွင် ပါဝင်ခဲ့သည်။ သက်တော် (၉၀) တွင် ဆီဖ္ဖီးန်စစ်ပွဲ၌ပင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံမှ

ဟဒီးဆ်တော်ပေါင်း (၆၂) ပုဒ် ဆင့်ပြန်ခဲ့လေသည်။ (٢)

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများနှင့် سيدناعمار အကြောင်းကိုရေးပါ။

၂။ လက်တွေ့သယမ်မွမ်လုပ်ပြပါ။

၃။ မည်သို့သောအခြေအနေမျိုးတွင် သယမ်မွမ်လုပ်ခြင်းပိုင်သနည်း။

❀❀❀

(١) أخرجه ابن ماجة في سننه " باب في التيمم ضربتين " . ر: ٥٧١

(٢) الأعلام للزركلي ، ٣٦/٥.ط: دارالعلم للملايين. أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث السادس

## (၆) နမားဇ် အချိန်များ

عن أبي هريرة رضي الله عنه قال : قال رسول الله صلى الله عليه و سلم : " إن لـلصلاة أوَّلًا وآخِرا ، وإن أولَ وقتِ صلاةِ الظهرِ حينَ تَزُوْلُ الشمسُ ؛ وآخرَ وقتِهـا حيـن يـدخلُ وقتُ العصرِ، وإن أولَ وَقْتِ صلاةِ العصرِ حين يدخلُ وقتُها ؛ وإن آخرَ وقتِها حينَ تَصْفَرُّ الشمسُ ، وإن أولَ وقتِ المغربِ حين تَغْرُبُ الشَّمسُ ؛ وإن آخـرَ وقتِهـا حيـنَ يَـغِيْـبُ الأُفُـقُ، وإن أولَ وقتِ العِشاءِ الآخِرَةِ حين يغيب الأفـق ؛ وإن آخـر وقتِهـا حيـن يَـنْتَـصِفُ اللَّيْلُ ، وإن أولَ وقتِ الْفَجْرِ حين يَطْلُعُ الْفَجْرُ ؛ وإن آخرَ وقتِها حين تَطْلُعُ الشَّمْسُ" . (رواه الترمذي ) [1]

ဟဇရသ် အဗူဟုရိုင်ရဟ် رضـي الله عـنـه သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူခဲ့သည်။''နမားဇ်တွင် အစချိန်နှင့်အဆုံးချိန်ဟူ၍ရှိသည်။ ဇုဟုရ် နမားဇ်သည် မွန်းလွဲပြီးမှစ၍ နောက်ဆုံးအချိန်မှာ အစွရ်ဝင်ချိန်(အရိပ်နှစ်ပြန်အရင်းလွတ်ချိန်)ထိဖြစ်သည်။အစွရ်ချိန်သည်(အရိပ်နှစ်ပြန်အရင်းလွတ်ချိန်)မှစ၍ နေလုံးဝါသွားသည့် အချိန်မှာ အစွရ်၏နောက်ဆုံးအချိန်ဖြစ်သည်။ မဂ်ရိဗ်ချိန်သည် နေဝင်ချိန်တွင်စတင်ပြီး မိုးကုတ်စက်ဝိုင်းမှ(ရောင်ဖြူတန်းများ)ပျောက်ကွယ်သွားချိန်ဆုံးသည်။ အေရှာချိန်သည် ကောင်းကင်တွင်ရောင်ဖြူတန်းများပျောက်ကွယ်ပြီး အမှောင်လွှမ်းချိန်မှစတင်ပြီး ညဥ့်တစ်ဝက်တွင်ဆုံးသည်။ ဖဂျ်ရ်အချိန်သည် နံနက်မိုးသောက်လင်းချိန်မှ စတင်ပြီး နေထွက်ချိန်တွင်ကုန်ဆုံးသည်။

### အကျိုးကျေးဇူး

**ကုရ်အာန်ကျမ်းလာ အာယသ်တော်** ﴿إن الصـــلاة كانت على المؤمنين كتابا مـوقـوتا﴾ **အရ နမားဇ်တွင်အချိန်သိခြင်းသည်ဖရဇ်ဖြစ်သည်။ အချိန်ဖြင့်နမားဇ် ဝတ်ပြုခြင်းသည် အမြတ်ဆုံးလုပ်ရပ်ဖြစ်သည်ဟုလည်း ဗိုခါရီကျမ်း ဟဒီးဆ်အမှတ်(၅၂၇) တွင်**

လာရှိသည်။ ဟဇရသ်ဂျိဗ်ရာအီးလ် عليه السلام သည် နှစ်ရက်တိတိ နမားဇ်၏အစချိန်နှင့်အဆုံးချိန်ကို သိရှိစေရန် လက်တွေ့ပြသခဲ့သည်။ ဤဟဒီးဆ်တော်မြတ်သည်လည်း နမားဇ်၏ အစချိန်နှင့်အဆုံးအချိန်များကို ဖော်ပြနေသည်။ ဟန္နဖီမဇ်ဟဗ်တွင်မဂ်ရိဗ်မှ အပနမားဇ်တိုင်းကိုနောက်ဆုံးအချိန်တွင် ဖတ်ခြင်းမှာ ကောင်းသည်။ ဤသို့နောက်ဆိုင်းလိုက်ခြင်းဖြင့် လူအများဂျမာအသ်တွင် ပါဝင်လာနိုင်မည်။ သို့သော်အချိန် ကုန်လုဆဲဆဲရောက်မှဖတ်ခြင်းမျိုးမဖြစ်ရပေ။ ဤဟဒီးဆ်တော်တွင် ဖော်ပြထားသောအချိန်တို့မှာမွတ်စ်သဟာဗ်အချိန်များကို ဆိုလိုသည်။ အကြောင်းမှာ အစွရ်နမားဇ်ကို နေဝင်ချိန်ထိဖတ်ပိုင်သော်လည်း မက္ကရူးဟ်ဖြစ်သည်။ အေရှာနမားဇ်ကိုလည်းနံနက်မိုးသောက်လင်းချိန် မတိုင်မီအထိ ဖတ်ပိုင်သော်လည်း မက္ကရူးဟ်ဖြစ်သည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| زال (ن) زَوَالاً [عن ] | တိမ်းသွားခြင်း/စောင်းသွားခြင်း |
| اِصْفَرَّ (افعلال) | ဝင်းဝါသွားခြင်း |
| أُفُقٌ (ج) آفَاقٌ | မိုးကုတ်စက်ဝိုင်း |
| انتصف (افتعال) | တစ်ဝက်ကျိုးသွားခြင်း |
| فَجْرٌ | မိုးသောက်လင်းချိန် |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

## أبوهريرة (عبدالرحمن بن صخر الدوسي) رضي الله عنه

أبوهريرة သခင်ကြီး၏ အမည်တွင် အဆိုအမျိုးမျိုးကွဲသည်။ အနီးစပ်ဆုံး အဆိုမှာ عبد الرحمن ဖြစ်သည်။ သခင်ကြီးသည် ယီမင်နိုင်ငံ ဒေါင်းစ် မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ ဟစ်ဂျ်ရီ(၇)ခုနှစ် မုဟရ်ရမ်လမြတ်တွင်အစ္စလာမ်လက်ခံခဲ့သည်။ ကြောင်မလေးကိုအလွန်ချစ်တတ်သောကြောင့်ကိုယ်တော်မြတ် ﷺ က သခင့်အား "ကြောင်မ

လေး၏ဖခင်”ဟု တင်စားခေါ်ဝေါ်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ၏ အပါးတော်ရှိ ဆွဖ်ဖာကျောင်းတွင် အမြဲတစေနေထိုင်ပြီး ဟဒီးဆ်တော်များကို ကြားနာခဲ့သည်။ ကိုယ်တော်မြတ်ကြီး ﷺသည်လည်း သခင်ကြီးကို ဟဒီးဆ်တော်များ ကျက်မှတ်နိုင်ပြီး မေ့မသွားစေရန် အထူးဒိုအာပြုပေးခဲ့သည်။ ဆွဟာဗာတို့အနက် ဟဒီးဆ်အများဆုံး ဆင့်ပြန်ခဲ့သူဖြစ်သည်။ ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၅၃၇၄)ပုဒ် ဆင့်ပြန်ခဲ့သည်။

သခင်သည် အလွန်ဥာဏ်ရည်ထက်မြက်သူဖြစ်သည်။ မွတ်ဖ်သီတစ်ပါလည်း ဖြစ်ခဲ့သည်။ ထို့အတူ နေ့တွင်ရှိဇာထားလေ့ရှိပြီး ညကို အရှင်မြတ်၏ အေဗာဒသ်တွင် ကုန်ဆုံးစေသည်။ ဟစ်ဂျ်ရီ (၅၇) ခုနှစ်တွင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။ [2]

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အလွတ်ရေးပါ။

၂။ ဟဒီးဆ်၏ အကျိုးကျေးဇူးကို အကျဉ်းရုံး ရေးပါ။

၃။ ဟဇရသ်အဗူဟုရိုင်ရဟ် သခင်ကြီး၏အကြောင်းအနည်းငယ်ရေးသားပါ။

၄။ ဟန္နဖီမဇ်ဟဗ်အရ မည်သည့်အချိန်များတွင် နမားဇ်ဝတ်ပြုခြင်းမှာ ပိုမြတ်သနည်း။

၅။ နမားဇ်၏ အစအချိန်၊အဆုံးချိန်တို့အား လက်ရှိအချိန်ဇယားကိုချပြီးလက်တွေ့ သတ်မှတ်ကြည့်ပါ။

❁ ❁ ❁

---

(١) أخرجه الترمذي في سننه "باب منه [أي] باب ما جاء في مواقيت الصلاة عن النبي صلى الله عليه و سلم". ر: ١٤٩

(٢) "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر. أسماء الصحابة الرواة ومالكل واحدمنهم من العدد.

## الحديث السابع

## (၇) အဓာန်စတင်ပုံ

عـن عبدِ اللّٰه بنِ زيدٍ رضي اللّٰه عنه قال : "كان رسولُ اللّٰه صلى اللّٰه عليه و سلـم قَدْ هَمَّ بِالْبُوْقِ ، وأَمَرَ بالنَّاقُوْسِ فَنُحِتَ ؛ فأُرِيَ عبدُ اللّٰه بنُ زيدٍ في المَنَامِ ، قـال: " رأيـتُ رجلا عليه ثَوْبانِ أَخضرانِ ؛ يَحْمِلُ ناقُوْسا "، فقلت له: " يا عبدَ اللّٰه أَتَبِيْـعُ الـنـاقـوس ؟ قال:" وما تَصْنَعُ به" ؟ قلتُ : "أُنَادِي به إلى الصلاة ". قال : " أفـلا أَدُلُّك عـلـى خيـرٍ مـن ذلك" ؟ قلت:" وما هو؟" قال : " تقول اللّٰه أكبر اللّٰه أكبـر اللّٰه أكبـر اللّٰه أكبر ، أشهد أن لا إله إلا اللّٰه أشهد أن لا إله إلا اللّٰه ، أشهد أن مـحـمـدا رسـول اللّٰه أشهـد أن مـحـمـد رسول اللّٰه ، حي على الصلاة حي على الـصـلاة ، حي على الفلاح حي على الفلاح ، اللّٰه أكبر اللّٰه أكبر ، لا إله إلا اللّٰه". قـال فـخـرج عبـدُ اللّٰه بن زيد حتى أتى رسولَ اللّٰه صلى اللّٰه عليه و سلم ؛ فأَخْبَرَهُ بما رَأى ." (رواه ابن ماجة ) (١)

ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်နိဇိုင်ဒ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်သည်(ဆွဟာဗာများဗလီကိုသူ့အချိန်နှင့်သူစုရုံးရောက်ရှိလာနိုင်ရန်)အချက်ပေးခေါင်းလောင်းတစ်ခုပြုလုပ်ရန် ဆန္ဒပြုတော်မူသည့်အလျောက်အမိန့်ပေးခဲ့ရာ မောင်းတစ်ခုထုဆစ်ပြီးစီးသွားခဲ့သည်။ ထိုကာလတွင် ဟဇရသ်အဗ်ဒွလ္လာဟ်သည် အိပ်မက်တစ်ခုမြင်မက်ခဲ့သည်။ သခင်က ထိုအိပ်မက်အကြောင်းကိုဤသို့ပြောပြခဲ့သည်။‘‘ကျွန်တော်သည် အိပ်မက်ထဲတွင် မောင်းထမ်းထားသည့် အစိမ်းရောင်ဝတ်ဆင်ထားသူတစ်ဦးအား တွေ့မြင်ခဲ့လေသည်။ ကျွန်တော်သည်ထိုသူ့အား မောင်းကိုရောင်းပေးမည်လောဟုမေးရာ ထိုသူက အသင်ထိုမောင်းဖြင့်မည်သည့်ကိစ္စကို ဆောင်ရွက်လိုသနည်းဟု ပြန်လည်မေးခဲ့သည်။ ကျွန်ုပ်က ထိုမောင်းဖြင့်(လူတို့အား)သတ်မှတ်ချိန်အတိုင်းနမားဇ်ကို လာဖတ်ရန်ကြေညာလိုပါသည်ဟု ဖြေကြားလိုက်သည်။ ထိုပုဂ္ဂိုလ်က မောင်းထက် ပိုကောင်းသောအရာ ညွှန်ပြရမည်လောဟု ပြော

သည်။ ကျွန်ုပ်က ထိုအရာ မည်သည့် အရာပါနည်းဟုမေးမြန်းရာ ထိုသူက အသင်သည်
الله أكبر الله أكبر الله أكبر الله أكبر ، أشهد أن لا إله إلا الله أشهد أن لا إله إلا الله ، أشهد أن محمدا رسول الله أشهد أن محمد رسول الله ، حي على الصلاة حي على الصلاة ، حي على الفلاح حي على الفلاح ، الله أكبر الله أكبر ، لا إله إلا الله
ဟူသော စကားလုံးများကို ရွတ်ဆိုဖိတ်ခေါ်ပါလေ။ (ဟဇရသ်အဗ္ဗဒုလ္လာဟ်ထံမှ ပြန်လည်ဆင့်ပြန်သူကပြောသည်မှာ) ''အဗ္ဗဒုလ္လာဟ်ဗင်န်ဇိုင်ဒ်သည် မိမိအိပ်မက်ကို တင်ပြရန် ကိုယ်တော်မြတ် ﷺ ထံသို့ ထွက်သွားခဲ့သည်။''

**အကျိုးကျေးဇူး**

ဤဟဒီးဆ်တော်မှ အဇာန်၏ နောက်ခံသမိုင်းကိုသိရှိရသည်။ နမားဇ်အချိန်တိုင်းတွင် အချိန်မှီရောက်ရှိလာရန်နှိုးဆော်သောအရာသည် အခြားသူများ၏ အထိမ်းအမှတ် မဖြစ်စေဘဲ အရှင်မြတ်၏ ကြီးကျယ်ကြောင်းများနှင့်သာ အတိပြီးနေသော သစ္စာစကားများကိုအရှင်မြတ်က ချီးမြှင့်ပေးခဲ့သည်။ အွမ္မသီတစ်ဦး၏အိပ်မက်သည်လည်း အလေးထားထိုက်ကြောင်းသိရှိရသည်။ ထို့အတူ အဇာန်ဆိုရာတွင် ဝါကျပေါင်း (၁၅)ခုသာရှိကြောင်းလည်းထင်ရှားသည်။

**ကျက်မှတ်ရန် စကားဆက်များ**

| | |
|---|---|
| ဆန္ဒပြုခြင်း | هَمَّ (س) هَمًّا[ب] |
| ပုလွေ၊အခေါင်းပါသောတူရိယာ | بُوْقٌ (ج)بُوْقَاتٌ وأَبْوَاقٌ |
| ထုဆစ်ပုံဖော်ခြင်း | نَحَتَ (ف) نَحْتًا،نَحِيْتًا |
| အိပ်မက်မက်ခြင်း | أُرِيَ فِيْ الْمَنَامِ |
| ကြေညာမောင်း၊ပုလွေ | نَاقُوْسٌ (ج)نَوَاقِيْسُ |
| လာပါ | حَيَّ عَلٰى (اسم فعل ) |

| | |
|---|---|
| فَلَاحٌ (اسم مفرد) | အောင်မြင်မှု၊အောင်မြင်ခြင်း |
| أخبر (إفعال) | သတင်းပေးခြင်း၊တင်ပြခြင်း |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## عبدالله بن زيد رضي الله عنهما

عبد الله بن زيد သခင်သည် ခဇ်ရဂျ်မျိုးနွယ်ဝင် အန်ဆွာရီ ဆွဟာဗီ တစ်ပါး ဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာအဗူမုဟမ္မဒ်ဖြစ်သည်။ အကဗဟ်ညဉ့်၊ဗဒရ်စစ်ပွဲနှင့် သာသနာ့ ကြိုးပမ်းမှုအများစုတွင် ပါဝင်ဆင်နွှဲခဲ့သည်။ မတ်စ်ဂျေ့ဒ်နဗဝီ ဆောက်လုပ်ပြီးချိန် ဟစ်ဂျ်ရီ(၁)ခုနှစ်၌ အိပ်မက်တွင် အဇာန်ကိုမြင်မက်ခဲ့သည်။ ဟစ်ဂျ်ရီ (၃၂) ခုနှစ်တွင်ကွယ်လွန်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၄၈)ပုဒ်ဆင့်ပြန်ခဲ့သည်။

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အလွတ်ရေးပြီးနောက် အဇာန်တစ်ခုလုံးကို ဘာသာပြန်ဆိုပါ။

၂။ ဟဒီးဆ်တော်မှသိရှိရသောအခြား အကျိုးကျေးဇူးများကို မြန်မာလိုရေးပါ။

၃။ ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်းကို အကျဉ်းရုံး၍ အရဗီလိုရေးပါ။

၄။ လက်တွေ့အဇာန်ဆိုပြပါ။



(١) أخرجه ابن ماجة في سننه "باب بدء الأذان" ر:٧٠٦

(٢) "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر.
أسماء الصحابة الرواة مالكل واحد منهم من العدد.

## الحديث الثامن

## (၈) အေကာမသ်

عن أبي مَحْذُوْرَةَ رضـي الله عنه قال : "عَلَّمَنِيْ رسولُ الله صلى الله عليه و سلم الإقامةَ سبعَ عشرةَ كلمةً ؛ الله أكبر الله أكبر الله أكبر الله أكبر ، أشهد أن لا إله إلا الله أشهد أن لا إله إلا الله ، أشهد أن محمدا رسول الله أشهد أن محمدا رسول الله، حَيَّ عـلـى الـصـــلاةِ حي على الصـلاة ، حي على الفلاح حي على الفلاح، قد قامَتِ الصلاةُ قد قامتِ الصلاةُ ، الله أكبر الله أكبر ، لا إله إلا الله" . (رواه ابن ماجة ) (١)

ဟဇရသ် အဗူမဟ်ဇူရဟ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ သည် ကျွန်ုပ်အား အေကာမသ်ကို စာလုံး(၁၇)လုံးဖြင့်ဆိုရန် သင်ကြားပေးခဲ့သည်။
الله أكبـر الله أكبـر الله أكبر الله أكبر ، أشهد أن لا إله إلا الله أشهد أن لا إله إلا الله ، أشهد أن محمدا رسول الله أشهد أن محمدا رسول الله، حي على الصلاة حي على الصلاة ، حي عـلـى الـفلاح حي على الفلاح ، قد قامت الصلاة قد قامت الصلاة ، الله أكبر الله أكبر ، لا إله إلا الله.

### အကျိုးကျေးဇူး

အထက်ပါဟဒီးဆ်တော်မြတ်မှ ဟနဖီမဇ်ဟဗ်အရ အေကာမသ်ဆိုနည်းကို သိရှိရသည်။ စုစုပေါင်းအေကာမသ်တွင်စာလုံး(၁၇)လုံးရှိရမည်။ အေကာမသ်တွင် قـد قـامـت الـصلاة "မုချဂျမာအသ်ရပ်ပြီ" ဟုအပိုဆိုရမည်။ အဇာန်သည် အဝေး၌ ရှိနေသူများကို စုရုံးရန်ဖြစ်ပြီး အေကာမသ်သည် အနီးရှိသူများကို သတိပေးရန် ဖြစ်သည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| قام (ن) قِيَامًا،وقَوْمًا | ထခြင်း၊ရပ်ခြင်း |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## أبو محذورة (سَمُرَةُ بْنُ مِعْيَرٍ رضي الله عنه)

أبـومحذورة သခင်၏ အမည်မှာ سـمرة ဖြစ်သည်။ ကိုရိုင်းရှ်မျိုးနွယ် ဂျုမဟ် မျိုးစုမှဖြစ်ပြီး အသံအလွန်ကောင်းသူတစ်ဦးဖြစ်သည်။ ကိုယ်တော်မြတ် ﷺ ၏ ဖိတ်ခေါ်မှုဖြင့်အစ္စလာမ်ကိုလက်ခံခဲ့သည်။ ကိုယ်တော်မြတ် ﷺကိုယ်တိုင်မက္ကာအောင်နိုင်သည့်နေ့တွင် သခင့်အား ကအ်ဗာကျောင်းတော်၏ မုအဇ်ဇင်နိအဖြစ်ခန့်အပ်ခဲ့သည်။

သခင့်ဦးခေါင်းရှိ အချို့သော ဆံကေသာများမှာ ရှည်လျားပြီး ထိုင်သောအခါ မြေတိုက်နေရာ လူတို့က ညှပ်ပစ်ရန်ပြောသောအခါ သခင်က "ဤဆံကေသာများပေါ် ချစ်နဗီက မိမိ၏လက်တော်ဖြင့် ပွတ်သပ်ခဲ့သောကြောင့် ကျွန်ုပ်ကွယ်လွန်သည်အထိ ညှပ်လိမ့်မည်မဟုတ်" ဟု ပြန်လည်ဖြေကြားခဲ့သည်။ သခင်သည် ဟိဂျ်ရသ်မပြုဘဲ မက္ကာ၌မြို့တော်၌ပင် အဇာန်ဆိုခြင်းတာဝန်ကို ကွယ်လွန်သည်အထိ ထမ်းဆောင်ကာ ဟစ်ဂျ်ရီ (၅၉) ခုနှစ်တွင် အရှင်မြတ်အမိန့်တော် ခံယူသွားခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၁၀)ပုဒ် ဆင့်ပြန်ခဲ့သည်။[2]

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အလွတ်ရေးပါ။ ထို့နောက် အေကာမသ်တစ်ခုလုံး၏ အဓိပ္ပါယ်ပြန်ဆိုပါ။

၂။ အဇာန်နှင့်အေကာမသ်၏ ကွာခြားချက်ကိုရေးပါ။

၃။ ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်းကို အကျဉ်းရုံး၍ရေးပါ။

၄။ လက်တွေ့အေကာမသ်ဆိုပြပါ။

❁❁❁

(١) أخرجه ابن ماجة في سننه "باب الترجيع في الأذان"، ر: ٧٠٩

(٢) "رواة التهذيبين" تهذيب الكمال للمزي، وتهذيب التهذيب لابن حجر.
معرفة الصحابة لأبي نعيم. الأعلام للزركلي
أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث التاسع

## (၉) အဓာန်ဆိုစဉ် အဖြေပေးနည်း

عـن عـمـرَ بـنِ الخطاب رضي الله عنه قال:قال رسول الله صلى الله عليه وسلم :"إذا قال المؤذِّنُ : "الله أكبر الله أكبر " فقال أحدُكم : "الله أكبر الله أكبر " ،ثـم قـال: " أشهـد أن لا إلـه إلا الله" ؛ قـال : "أشهـد أن لا إله إلا الله" ، ثم قال أشهـد أن مـحمدا رسولُ الله ؛ قـال:" أشهـد أن مـحـمدا رسولُ الله" ، ثم قال : "حــي عـلـى الـصـــلاة " ؛ قال :"لا حَوْلَ ولا قوة إلا بالله"، ثم قال : "حي على الـفلاح" ؛ قال:" لا حول ولا قوة إلا بالله"، ثم قال : "الله أكبر الله أكبر " ؛ قال : "الله أكبـر الله أكبـر" ، ثـم قـال:" لا إله إلا الله " ؛ قال : "لا إله إلا الله" مِنْ قَلْبِه ؛ دخلَ الجنةَ ". (رواه مسلم ) (١)

ဟဇရသ် အုမရ် رضـي الله عـنــه ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺမိန့်တော်မူသည်"မုအဇ်ဇင်နက " "الله أكبر الله أكبر " ဆိုသောအခါ အသင်တို့အနက် တစ်ဦးဦးသည်လည်း နှလုံးသားဖြင့် နှစ်နှစ်ကာကာ " "الله أكبر الله أكبر " တုလည်း ကောင်း၊ "أشهد أن لا إلـه إلا الله" ဆိုသောအခါ " أشهـد أن لا إلـه إلا الله" တုလည်း ကောင်း၊ " أشهـد أن مـحـمدا رسول الله " ဆိုသောအခါ " أشهد أن مـحـمـدا رسول الله" တု လည်းကောင်း၊ "حي على الصلاة " ဆိုသောအခါ " لا حول ولا قـوة إلا بالله" တု လည်းကောင်း၊ "حي عـلـى الـفلاح" ဆိုသောအခါတွင်လည်း " لا حـول ولا قـوة إلا بـالله" တု လည်းကောင်း ၊ "الله أكبـر الله أكبر " ဆိုသောအခါ "الله أكبـر الله أكبر"တုလည်း ကောင်း၊ " لا إله إلا الـلّـه " ဆိုသောအခါ " لا إلـه إلا الله " တုလည်းကောင်း ပြန်လည်အဖြေပေးပါက ထိုသူသည် ဂျန္နသ်ကိုဝင်ရောက်ရမည်ဖြစ်သည်။

### အကျိုးကျေးဇူး

အရှင်မြတ်ဘက်သို့ဖိတ်ခေါ်သံတိုင်းကို ပြန်လည်အဖြေပေးခြင်းသည် အပြစ်

များ ခွင့်လွတ်ချမ်းသာမှုရရန်နှင့် ဂျဟန္နမ်မှ လွတ်ငြိမ်းချမ်းသာခွင့်ရပြီး ဂျန္နသ်ဝင်ရောက်နိုင်ရန် အကြောင်းခံတစ်ခုဖြစ်သည်။ အကယ်၍ ပြန်လည်အဖြေမပေးပါက ထင်ရှားသောလမ်းမှားမှု၌ရှိကြောင်း စူရဟ်အဟ်ကာဖ် (၃၁-၃၂)တွင် အမိန့်တော်လာရှိထားသည်။ ဤသို့အဖြေပေးလိုက်ခြင်းသည် နမားဇ်အတွက် နှုတ်အရအသင့်ဖြစ်ကြောင်းသက်သေထူလိုက်ခြင်းဖြစ်သည်။ဤမျှအကျိုးထူးလှသည့် အမလ်ကိုယနေ့ခေတ်တွင် ကျွန်ုပ်တို့ဥပေက္ခပြုကျောခိုင်းကာ အဇာန်ဆိုစဉ် လောကီရေးကိစ္စများတွင် သာမွေ့လျော် ပျော်ပိုက်နေခြင်းမှာ ဝမ်းနည်းစရာပင်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| حَوْلٌ(ج) أَحْوَالٌ | အင်အား၊ပရိယာယ် |
| قُوَّةٌ (ج) قُوًى | အင်အား၊စွမ်းအား |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**عمر بن الخطاب (رضي الله عنه)**

عمر بن الخطاب رضي الله عنه သခင်သည် ကိုရိုင်းရှ်မျိုးနွယ်ဝင်ဖြစ်သည်။ ဒုတိယမြောက်ခလီဖ္ဖာကြီးဖြစ်ပြီးဂျန္နသ်၏ သတင်းကောင်းပေးခြင်းခံခဲ့ရသည့် ဆွဟာဗာ(၁၀)ပါးအနက်တစ်ပါးလည်းဖြစ်သည်။ ဘွဲ့သညာမှာأبو حفصဖြစ်သည်။ ဆင်နှစ်အပြီး(၁၃)နှစ်တွင် မက္ကာမြို့တော်၌ ဖွားမြင်ခဲ့သည်။ အစ္စလာမ်လက်ခံရန် ကိုယ်တော်မြတ် ﷺ က ဒိုအာပြုပေးခဲ့ရာ ကနဦးပိုင်းတွင်ပင်အစ္စလာမ်လက်ခံခဲ့သည်။ ထို့နောက် ကအ်ဗာကျောင်းတော်တွင် ပေါ်တင်နမားဇ်ဝတ်ပြုခဲ့သည်။ ကြေညာမောင်းခတ်ကာ မဒီနာသို့ ဟစ်ဂျ်ရသ်ပြုခဲ့သည်။ သာသနာ့ကြိုးပမ်းမှုတိုင်းတွင် ပါဝင်ခွင့်ရခဲ့သည်။ ဟဇရသ်အဗူဗက်ရ်သခင်ကွယ်လွန်ပြီးနောက်ပိုင်း ဟစ်ဂျ်ရီ(၁၃)ခုနှစ်တွင် ခလီဖ္ဖာဖြစ်လာခဲ့သည်။ မျှတစွာအုပ်ချုပ်မှုတွင် ဘုရင်အပေါင်းတို့အဖို့ စံနမူဖြစ်ခဲ့သည်။ ကမ္ဘာကြီး

ကို မျှတစွာ (၁၀နှစ်၅လ) တိုင်အုပ်ချုပ်ခဲ့သည်။

သခင်၏ဆန္ဒတော်အတိုင်း အာယသ်တော်အချို့ကျရောက်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ က "ငါကိုယ်တော်၏ နောက်တွင် နဗီပွင့်ရန်ရှိလျှင် အုမရ်သာ နဗီဖြစ်မည်" ဟု မိန့်ခွဲ့ခဲ့သည်။

သက်တော် (၆၃) နှစ် ၊ ဟစ်ဂျ်ရီ (၂၃)ခု ဇီလ်ဟိဂျ်ဂျာလ (၂၇) ရက် နေ့တွင် မဂျူစီတစ်ယောက်၏ ရှဟီးဒ်ပြုခြင်းခံခဲ့ရသည်။ ကိုယ်တော်မြတ်ﷺ၏ ရောင်သွာတော်အတွင်း၌ပင် မြှုပ်နှံခြင်းခံခဲ့ရသည်။

ကိုယ်တော်မြတ်ကြီးﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၅၂၇) ပုဒ်ဆင့်ပြန်ခဲ့သည်။

သခင်ကြီးအား ချစ်မြတ်နိုးခြင်းသည် အီမာန်ပြည့်ဝခြင်း၏ လက္ခဏာ ဖြစ်သည်။ သခင်ကြီး၏ ဘဝသက်တမ်းသည် အစ္စလာမ်သာသနာတော် မှန်ကန်ကြောင်းကို သက်သေထူနေပါသည်။ မွတ်စ်လင်မ်များပင်မက မွတ်စ်လင်မ်မဟုတ်သူများပင်လျှင် ဤအချက်ကို ဝန်ခံကြပေသည်။ [٢]

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်မြတ်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

၂။ ဟဇရသ် အုမရ်အကြောင်း ကို (၁၅) မျက်နှာခန့် (၁၀) ရက်အချိန်ယူ လေ့လာပြီး စာတမ်းတစ်ခုပြုစုပါ။

၃။ တစ်ယောက်ကလက်တွေ့အဇာန်ဆိုပြပြီး၊ အခြားတစ်ယောက်က လက်တွေ့ အဖြေပေးပြပါ။

۞۞۞

(١) أخرجه مسلم في صحيحه : " باب باب استحباب القول مثل قول المؤذن" ر: ٣٨٥

(٢) "رواة التهذيبين" تهذيب الكمال للمزي ، وتهذيب التهذيب لابن حجر .
أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث العاشر

## (၁၀) အေကာမသ်ကို ပြန်လည်အဖြေပေးနည်း

عـن أبـي أُمـامةَ رضي الله عنه ؛ أن بِلالا أَخَذَ في الإقامةِ ؛ فلَمَّا أنْ قال : " قد قامتِ الصلاة " قال النبي صلى الله عليه و سلم :" أقامَها الله وأدامها ، وقال في سائر الإقامة كنَحْوِ حديثِ عمرَ رضي الله عنه في الأذان". (رواه أبو داود ) (١)

ဟဇရသ်အဗူအုမာမားဟ် رضـي الله عنه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဟဇရသ်ဘေလားလ်ﷺသခင်သည် အေကာမသ်စတင်ဆိုပြီး قـد قامت الصـلاة(မုချဂျမာအသ်ရပ်သွားပြီ)သို့ရောက်သောအခါ ကိုယ်တော်မြတ်ﷺ သည် "أقـامها الله و أدامها" (အရှင်မြတ်ထိုနမားဇ်ကိုတည်တံ့ခိုင်မြဲစေတော်မူပြီးအခွန့်ရှည် စေတော်မူပါ။)ဟု ရွတ်ဆိုတော်မူသည်။ ထို့နောက်အခြားသော အေကာမသ်၏စာလုံးများကို ဟဇရသ် အုမရ်ﷺဆင့်ပြန်သောဟဒီးဆ်တော်ရှိအဇာန်တွင် အဖြေပေးခဲ့သည့်အတိုင်းအဖြေပေးလေသည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်သည် အေကာမသ်တွင်လည်း အဖြေပေးရမည့်အကြောင်းဖော်ပြနေသည်။ နမားဇ်နှင့်ပတ်သက်ပြီး ကိုယ်တော်မြတ် ပေးခဲ့သော أقـامها الله و أدامها (ကမ္ဘာတည်သရွေ့ အရှင်မြတ်ထိုနမားဇ်ကို ရှင်သန်စေတော်မူပါ) ဟူသောဒိုအာသည် မည်သူနမားဇ်ဖတ်သည်ဖြစ်စေ၊ မဖတ်သည်ဖြစ်စေ အရှင်မြတ်သည် နမားဇ်ကို ကမ္ဘာတည်သရွေ့ ထိန်းသိမ်းထားတော်မူမည်ဖြစ်သည်။

### ကျက်မှတ်ရန် စကားစုများ

| | |
|---|---|
| أخذ (ن) أَخْذا [في] | အစပြုခြင်း |
| أدام (إفعال) | အခွန့်ရှည်စေခြင်း |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## أبو أمامة (صُدَيٌّ بنُ عَجْلاَنَ) الباهلي رضي الله عنه

أبو أمامة သခင်၏ အမည်မှာ صُدَيٌّ بنُ عَجْلاَنَ ဖြစ်သည်။ ဘာဟေ့လဟ် မျိုးနွယ်ဝင်တစ်ဦးဖြစ်သည်။ ကျော်ကြားသောဆွဟာဗီတစ်ပါးလည်းဖြစ်သည်။ ဆီးရီးယားနိုင်ငံတွင် ရွှေ့ပြောင်းနေထိုင်ခဲ့သည်။ ဆီးရီးယားနိုင်ငံတွင် နောက်ဆုံးကွယ်လွန်ခဲ့သည့်ဆွဟာဗီဖြစ်သည်။ သက်တော်(၉၁)နှစ် ဟစ်ဂျ်ရီ(၈၆)ခုနှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၂၅၀) ဆင့်ပြန်ခဲ့သည်။ [٢]

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တွင်ဖော်ပြထားသော ဟဇရသ်အုမရ်သခင်ဆင့်ပြန်ထားသည့် ဟဒီးဆ်ဆိုသည်မှာ မည်သည့်ဟဒီးဆ်တော်ဖြစ်သည်ကို ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အခြားသော အကျိုးကျေးဇူးများကို စဉ်းစားပြီး ရေးပါ။

၃။ ဟဇရသ်အဗူအိုမာမားဟ် အကြောင်းကို ရေးပါ။

၄။ တစ်ယောက်က အေကာမသ်ဆိုပြီး အခြားတစ်ယောက်က လက်တွေ့ အဖြေပေးပြပါ။

❁❁❁

(١) أخرجه أبوداود في سننه " باب ما يقول إذا سمع الإقامة" ر: ٥٢٨

(٢) رواة التهذيبين "تهذيب الكمال" للمزي، و "تهذيب التهذيب" لابن حجر.
أسماء الصحابة الرواة و مالكل واحد منهم من العدد.

# الحديث الحادي عشر

## (၁၁) အဇာန်ဆိုပြီးသည့်နောက် ကိုယ်တော့်အပေါ် မေတ္တာပို့သခြင်း

عـن جـابـرِ بن عبدِ الله رضي الله عنه أن رسول الله صلى الله عليه وسلم قـال: " مَـنْ قالَ حينَ يَسْمَعُ النداءَ ((اللّٰهم رَبَّ هذهِ الدَّعوَةِ التامة والصلاةِ القائمة آتِ مـحـمـدًا الـوسيـلةَ والـفضيلةَ وابْعَثْهُ مَقَامًا مَحْمُوْدًا الذي وَعَدْتَّهٗ )) حَلَّتْ لَهٗ شَفَاعَتِيْ يوْمَ الْقِيَامَةِ". (رواه البخاري) (١)

ဟဇရသ်ဂျာဗိရ်ﷺသခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ အမိန့်ရှိတော်မူသည်မှာ "မည်သူမဆိုအဇာန်သံကြားရပြီးနောက် အောက်ပါဒိုအာ ((اللّٰهـم رَبَّ هـذهِ الـدَّعـوَةِ التامة والصلاةِ القائمة آتِ محمدًا الوسيلةَ والفضيلةَ وابْعَثْهُ مَقَامًا مَحْمُوْدًا الذي وَعَدْتَّهٗ ))

**(အို-ဤပြည့်ဝသောဖိတ်ခေါ်သံနှင့်အမြဲတည်တံ့နေမည့် နမားဇ်ကို ဖန်ဆင်းတော်မူသောအရှင်မြတ်၊ မုဟမ္မဒ်သခင်အားအရှင်မြတ်နှင့်နီးကပ်မှု၊ မြင့်မြတ်မှုတို့ကိုချီးမြှင့်တော်မူပါ။ ၎င်းပြင်ထိုမုဟမ္မဒ်သခင်ကို အရှင်မြတ်ကတိပြုထားတော်မူသော** مـقـام مـحـمـود **(ချီးကျူးခြင်းအတိပြီးသည့်အဆင့်အတန်းကို) လည်းရောက်ရှိစေတော်မူပါ။)**ကိုရွတ်ဆိုပါမူ ကေယာမသ်နေ့တွင် ထိုသူ့အတွက်ငါကိုယ်တော်၏ အသနားခံပေးမှု ထိုက်သက်သွားပေမည်။

### အကျိုးကျေးဇူး

အဇာန်သံကိုဂရုတစိုက်နားထောင်ပြီးနောက်ဟဒီးဆ်တွင်ဖော်ပြထားသည့် ဒိုအာကိုရွတ်ဆိုခြင်းမှာ ကိုယ်တော်မြတ်ﷺ၏ အသနားခံပေးမှုကိုရရှိရန် အကြောင်းခံဖြစ်သည်။ ဒိုအာပါအချက်အလက်များအား အရှင်မြတ်ကိုယ်တိုင် ချစ်နဗီကိုချီးမြှင့်ရန် ကတိပေးပြီးဖြစ်သည်။ ကျွန်ုပ်တို့ဖတ်ရန်မိန့်ဆိုထားခြင်းမှာ ကျွန်ုပ်တို့သည်လည်း ဤကောင်းမှုတွင်ပါဝင်နိုင်ရန်ဖြစ်သည်။ အချုပ်မှာကျွန်ုပ်တို့အကျိုးအတွက်၊ ကျွန်ုပ်တို့အားလုံး နဗီကြီး၏အသနားခံပေးမှုရရန်အတွက်သာ ရွတ်ဆိုနေခြင်းဖြစ်သည်။

ထို့အတူ ခိုင်မာသော ဟဒီးဆ်တော်များအရ အဇာန်ပြီးဒိုအာမှာ الذي وعدته တွင်ဆုံးပြီး الدرجة الرفيعة ဟူသောဝါကျမပါရှိပါ။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| نِدَاءٌ (مصدر نادى ) | ဟစ်ခေါ်ခြင်း |
| وَسِيْلَةٌ (ج) وَسَائِلُ | နီးကပ်မှု |
| فَضِيْلَةٌ (ج) فَضَائِلُ | ထွတ်မြတ်မှု၊မြင့်မားသောအဆင့်အတန်း |
| مَقَامٌ (ج) مَقَامَاتٌ | အဆင့်အတန်း |
| حل (ض) حِلًّا ، حَلَالًا | ထိုက်သက်သွားခြင်း၊ပိုင်သွားခြင်း |
| شَفَاعَةٌ (ف) [إلى] | အသနားခံပေးခြင်း |

**လေ့ကျင့်ခန်း**

၁။ အဇာန်ဆိုပြီးသောအခါ ဖတ်ရသည့်ဒိုအာကို အဓိပ္ပါယ်နှင့်တကွရေးပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ပြောပြပါ။

၃။ ဟဇရသ်ဂျာဗိရ်အကြောင်းကို လေ့လာပြီး (၃) မျက်နှာခန့် (၁၀)ရက်တာ အချိန်ယူကာ စာတမ်းတစ်ခုပြုစုပါ။

၄။ အဇာန်ဆိုပြီးနောက် ဖတ်ရသည့်ဒိုအာကို တစ်ဦးချင်းလက်တွေ့ဆိုပြပါ။



(١) أخرجه البخاري في صحيحه " باب الدعاء عند النداء"؛ ر: ٦١٤

## الحديث الثاني عشر

## (၁၂) လွတ်သွားသောနမားဇ်အတွက် အဇာန်နှင့်အေကာမသ်

قال عبدُ الله بنُ مسعود رضي الله عنه :" إن المشركين شَغَلُوْا رسولَ الله صلى الله عليه و سلم عن أربعِ صلواتٍ يومَ الْخَنْدَقِ؛ حتى ذَهَبَ مِنَ اللَّيْلِ ما شاءَ اللهُ، فأمرَ بلالا فأذَّن؛ ثم أقام ؛ فَصَلَّى الظهرَ، ثم أقام ؛ فصلى العصرَ، ثم أقام ؛ فصلى المغربَ، ثم أقام ؛ فصلى العشاءَ . " (رواه الترمذي ) (١)

ဟဇရသ် အဗ္ဗဒုလ္လာဟ်ဗင်နိမတ်စ်အူးဒ် رضـي الله عـنـه သခင်ဆင့်ပြန်ခဲ့သည်။ မုချမုရှ်ရိက်တို့သည် ခန်ဒတ်က်စစ်ပွဲဖြစ်ပွားသည့်နေ့တွင် ကိုယ်တော်မြတ်ﷺ အား နမားဇ်(၄)ကြိမ်မဖတ်နိုင်ရန် အနှောက်အယှက်ပေးခဲ့သည်။အရှင်မြတ်အလိုတော် အလျောက် ညဥ့်ယံအချို့ကုန်ဆုံးသွားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ်ﷺ က ဟဇရသ်ဘေလားလ် ﷛အား အဇာန်နှင့်အေကာမသ်ဆိုရန် အမိန့်ပေးပြီးနောက် ဇုဟိုရ်နမားဇ်ကိုစတင်ဝတ်ပြုခဲ့သည်။ ထို့နောက်အေကာမသ်သာဆိုစေပြီး အစွရ်နမားဇ်ကို ဝတ်ပြုခဲ့သည်။ ထို့နောက် အေကာမသ်သာဆိုစေပြီး မဂ်ရိဗ်နမားဇ်ကို ဝတ်ပြုခဲ့သည်။ ထို့နောက်အေကာမသ်သာ ဆိုစေပြီး အေရှာနမားဇ်ကို ဝတ်ပြုတော်မူခဲ့သည်။

### အကျိုးကျေးဇူး

ခန်ဒတ်က်စစ်ပွဲသည် ဟစ်ဂျ်ရီ(၅)ခုနှစ် ရှောင်ဝါးလ်လမြတ်တွင် ဖြစ်ပွားခဲ့သည်။ စစ်ပွဲပြင်းထန်လွန်းသောကြောင့် ဤသို့နမားဇ်များလွတ်သွားခဲ့ရသည်။ လွတ်သွားသော နမားဇ်များအားပြန်လည် ဖြည့်စွက်နည်းများကို ဤအဖြစ်အပျက်ဖြင့် အွမ္မသ်ကိုသင်ပေးလိုက်ခြင်းလည်းဖြစ်သည်။

အကယ်၍ တစ်ဦးတစ်ယောက်သည် လွတ်ခဲ့သောနမားဇ်များကို တစ်နေရာ တည်းတွင်ပြန်လည်ဖြည့်စွက်လိုပါက နမားဇ်အားလုံးအတွက် အဇာန်တစ်ကြိမ်သာ ဆိုပြီး နမားဇ်အကြိမ်တိုင်းအတွက် အေကာမသ်ဆိုရမည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| كتوتကျင်း၊ ကျင်း | خَنْدَقٌ(ج) خَنَادِقُ |
| မေ့လျော့စေခြင်း၊ အာရုံလွှဲခြင်း | شغل (ف)شَغْلًا، شُغْلًا [عن] |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**عبد الله بن مسعود (رضي الله عنه)**

ဟဇရသ် အဗ္ဗဒွလ္လာဟ်ဗင်န်မတ်စ်အူးဒ်သခင်သည် ဟုဇိုင်းလ်မျိုးနွယ်ဝင်ဖြစ်သည်။ ကွန္နယသ်(ဂုဏ်ထူးဆောင်အမည်)မှာ အဗူအဗ္ဗဒွရ်ရဟ်မာနဲဖြစ်သည်။ ကိုယ်တော်မြတ်၏ ဖိနပ်တော်ကမ်းဖြစ်သည်။ အစ္စလာမ်ကို ဆဋ္ဌမမြောက် လက်ခံခဲ့သူဖြစ်သည်။ ဟဗ်ရှာ(အီသီယိုးပီးယားနိုင်ငံ)နှင့်မဒီနာ(၂)နေရာလုံးသို့ ဟစ်ဂျ်ရသ်ပြုခဲ့သည်။ ဗဒရ်နှင့် အခြားသော သာသနာ့ကြီးပမ်းမှုတိုင်းတွင်လည်း ပါဝင်ဆင်နွဲခဲ့သည်။

عبادلة (၄)ပါးအနက်တစ်ပါးဖြစ်သည်။ ကိုယ်တော်မြတ်ﷺသည် သခင့်အားမည်သည့်အချိန်မဆို မိမိအိမ်တော်တွင် ဝင်ထွက်သွားလာခွင့် အပြည့်ချီးမြှင့်ထားသည်။ ထို့အတူ "အသင်သည် မသင်ယူမီကြိုတင်တတ်မြောက်ထားသူဖြစ်သည်" ဟုလည်း ကိုယ်တော်မြတ် ﷺ ကအမိန့်ရှိခဲ့သည်။အစ္စလာမ့်သမိုင်းတွင် သခင်ကြီး၏ စိတ်ဝင်စားဖွယ်အကြောင်းအရာများအတွက် သီးသန့်စာမျက်နှာများ ရှိပါသည်။

သက်တော်(၆၀)ကျော်၊ ဟစ်ဂျ်ရီ(၃၂)ခုနှစ်တွင်မဒီနာရွှေမြို့တော်၌ ကွယ်လွန်ခဲ့သည်။ ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း(၈၄၈)ပုဒ် ဆင့်ပြန်ခဲ့သည်။

**လေ့ကျင့်ခန်း**

၁။ ဟဒီးတော်မြတ်၏အခြားသော အကျိုးကျေးဇူးများကိုရေးသားပါ။
၂။ ခန်ဒတ်က်စစ်ပွဲအကြောင်းကိုလေ့လာပြီး (၄)မျက်နှာခန့်ရေးသားပါ။
၃။ လွတ်သွားသောနမားဇ်ကို အဇာန်နှင့်အေကာမသ်ဆိုပြီးလက်တွေ့ဖြည့်ပြပါ။
၄။ عبد الله بن مسعود သခင်အကြောင်းကို ရေးသားပါ။

❁❁❁

(١) أخرجه الترمذي في سننه " باب ما جاء في الرجل تفوته الصلوات بأيتهن يبدأ" ر: ١٧٩
(٢) رواة التهذيبين، و أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الثالث عشر

## (၁၃) နမားဇ်တွင် နိယသ်ဖရ်ဖြစ်ခြင်း

عـن عمرَ بن الخطاب رضي الله عنه يقول: قال رسول الله صلى الله عليه وسلم :" إنما الأعمالُ بالنِّيَّاتِ ، وإنما لِكلِّ امرِئٍ ما نَوٰى، فمن كانت هِجْرَتُه إلى الله ورسولِه ، فهجرتُه إلى الله ورسوله، ومن كانت هجرتُه لِدُنْيَا يُصِيْبُهَا أوْ اِمْرَأَةٍ يَتَزَوَّجُهَا ، فهجرتُه إلى ما هَاجَرَ إليه " . (رواه أبوداود والبخاري) (١)

ဟဇရသ်အုမရ် رضـــي الله عـنـــه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺအမိန့်ရှိတော်မူခဲ့သည်။ ‘‘လုပ်ရပ်တိုင်းသည် ရည်စူးချက်အပေါ်မူတည်သည်။ လူသားတိုင်းအတွက် မိမိရည်စူးသည့်အရာသာရရှိမည်ဖြစ်သည်။ တစ်ဦးတစ်ယောက်၏ (ဟစ်ဂျ်ရသ်)ဇာတိမြေကိုစွန့်ခွာခြင်းသည် အလ္လာဟ်နှင့်အလ္လာဟ့်ရစူလ်အတွက်ဖြစ်မူ ထိုသူ၏ ဇာတိမြေကိုစွန့်ခွာခြင်းသည် အလ္လာဟ်နှင့်အလ္လာဟ့်ရစူလ်အတွက်ဖြစ်သွားမည်။ အကယ်၍ လောကီအကျိုးရှာဖွေရန်အတွက်ဖြစ်မူ ထိုသူသည်လောကီအကျိုးကိုသာရရှိသွားမည်။ အမျိုးသမီးတစ်ဦးကို ပိုင်ဆိုင်နိုင်ရန် ဇာတိမြေကိုစွန့်ခွာပါမူ ၎င်းအမျိုးသမီးနှင့်ထိမ်းမြားခြင်းသာပြုနိုင်မည်။ အချုပ်ဆိုရသော်လူတိုင်း၏ ဇာတိမြေစွန့်ခွာမှုသည် မိမိရည်စူးသည့်အတိုင်းသာအကျိုးပေးမည်ဖြစ်သည်။

### အကျိုးကျေးဇူး

**အေမာမ်ရှာဖေ့အီ ﷀ သခင်အမိန့်ရှိသည်။ “ဤဟဒီးဆ်တော်သည် ဒီးန်သာသနာ၏(၃)ပုံတစ်ပုံဖြစ်သည်။ လူသားတို့၏လုပ်ရပ်တိုင်းကို နိယသ်ရည်စူးချက်က ထိန်းချုပ်နေသည်။ နိယသ်အတိုင်းအကျိုးဖြစ်သည်။ ထို့ကြောင့် အေမာမ်ဗိုခါရီ ﷀ အေမာမ်ဘဂဝီ ﷀ စသည့်ပညာရှင်များက မိမိတို့ကျမ်းများကို ဤဟဒီးဆ်ဖြင့် နိဒါန်းပျိုးကာ မိမိတို့နိယသ်ကို ဆန်းစစ်လိုက်ကြသည်။ ကျွန်ုပ်တို့သည်လည်း လုပ်ရပ်တိုင်းတွင်နိယသ်ကို စ၊လယ်၊ဆုံး ဆန်းစစ်နေရမည်။ သို့မှသာစံချိန်မှီသောအမလ်ရှင်များဖြစ်နိုင်မည်။**

နမားဇ်ကဲ့သို့အေဗာဒသ်တို့၏ခေါင်းဆောင်ကို ထမ်းဆောင်ရာတွင်လည်း နီယသ်ကို အထူးဂရုစိုက်ရမည်။ ဖေကဟ်ပညာရှင်ကြီးများက နမားဇ်တွင် နီယသ်သည် ဖရဇ်ဖြစ်ကြောင်း တညီတညွတ်တည်းမိန့်ဆိုထားသည်။

နိယသ်၏တည်နေရာသည် နှလုံးသားဖြစ်သည်။ နှလုံးသားမှရည်စူးလိုက်ရုံဖြင့် အထမြောက်သွားမည်။ နှုတ်မှနိယသ်ဆိုခြင်းသည် မွတ်စ်သဟာဗ်အဆင့်သာဖြစ်သည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| إنَّما (حرف التوكيد والحصر) | လေးနက်စေရန်လာသောပုဒ် |
| نِيَّةٌ (ج) نِيَّاتٌ (نوى (ض)نِيَّةً) | ရည်စူးခြင်း ၊ ရည်စူးချက် |
| هجْرَةٌ (هجر (ن) هِجْرَةٌ) | စွန့်ခွာခြင်း၊ ဇာတိမြေကိုစွန့်ခွာခြင်း |
| أصاب (إفعال) | ရရှိခြင်း၊ ထိမှန်ခြင်း |
| تزوج (تفعل) | ထိမ်းမြားခြင်း |
| هاجر (مفاعلة) | မွေးမြေရပ်ကို စွန့်ခွာခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အခြားအကျိုးကျေးဇူးများကို စဉ်းစားပြီးရေးသားပါ။

၂။ إنما ကိုသုံး၍ ဝါကျ(၄) ခုရေးသားပါ။

၃။ အုမရ် رضي الله عنه အကြောင်းကို အရဗီဘာသာဖြင့်(၂)မျက်နှာခန့် ရေးသားပါ။

၄။ လုပ်ရပ်တိုင်းကို မလုပ်မီ နိယသ်ဆန်းစစ်ခြင်းအား လက်တွေ့ပြုကြည့်ပါ။

❋❋❋

(١) أخرجه أبوداود في سننه " باب فيما عني به الطلاق والنيات" ر:٢٢٠٣، والبخاري في صحيحه "كيف كان بدء الوحي" ر: ١

## الحديث الرابع عشر

## (၁၄) နေရာသန့်ခြင်း

عن ابن عمر رضي اللهعنهما: أن رسول الله صلى الله عليه و سلم نهى أن يُصَلّى في سبعةِ مَوَاطِنَ : في الْمَزْبَلَةِ والْمَجْزَرَةِ والمَقْبَرَةِ وقارِعَةِ الطريق وفي الحَمَّامِ و في مَعَاطِنِ الإبِلِ وفَوْقَ ظَهْرِ بَيْتِ اللّٰهِ" (رواه الترمذي) (١)

ဟဇရသ် အိဗ်နေ့အုမရ် عنه رضي الله သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ သည် နေရာ(၇)ခုတွင် နမားဇ်ဝတ်ပြုခြင်းမှ တားမြစ်တော်မူခဲ့သည်။

(၁)အညစ်အကြေးစွန့်ပစ်သောနေရာ (၂)သားသတ်ရုံ (၃) သင်္ချိုင်း (၄) လမ်းမပေါ် (၅) ရေချိုးခန်း (၆) ကုလားအုပ်စောင်းတဲ (၇) ကအ်ဗဟ်ကျောင်းတော်ပေါ်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်သည် နမားဇ်ဝတ်ပြုရာတွင် နေရာသန့်ခြင်းသည်လည်းဖရဇ် ဖြစ်ကြောင်း ညွှန်ပြနေသည်။ သားသတ်ရုံတွင် သွေး၊အညစ်အကြေးများပေကျံနေ တတ်သည်။ ကဗရ်တွင်ဝတ်ပြုပါက ကဗရ်ကိုအေဗာဒသ်ပြုရာရောက်နိုင်သည်။ လမ်းမ ပေါ်နှင့်လူအများဝင်ထွက်သွားလာသော နေရာများတွင်ဝတ်ပြုပါက လမ်းသွားလမ်း လာများကိုပိတ်ဆို့စေပြီး၊ သွားလာသူများကြောင့် နမားဇ်တွင်အာရုံအပြည့်မရှိနိုင်ပါ။ ရေချိုးခန်းသည် ရှိုင်သွာန်မိစ္ဆာများစုရုံးရာနေရာဖြစ်သည်။ကုလားအုပ်သည် မည်သည့် အခြေအနေ၌မဆို လူသားအားတိုက်ခိုက်နိုင်သည်ဆိုသော အတွေးများ နမားဇ်ဖတ် သူ၏စိတ်ဝယ်စွဲနေတတ်သည်။ ထို့ပြင် အညစ်အကြေးများလည်း ထိုနေရာတွင်ရှိတတ် သည်။ ကအ်ဗာဟ်ကျောင်းတော်ပေါ်တွင်ဖတ်ပါက ကအ်ဗဟ်ဘက်သို့ မျက်နှာမူခြင်း ဆိုသည့်အချက်ပျောက်သွားပေမည်။ ကအ်ဗာဟ်၏အမိုးပေါ် နမားဇ်ဝတ်ပြုခြင်းသည် မက္ကရူးဟ်ဖြစ်သည်။ သို့သော် နမားဇ်အထမြောက်သွားမည်။ တားမြစ်သည့် အကြောင်း မှာ မရိုမသေပြုမူခြင်းဖြစ်သည်။ ထို့ကြောင့်အဆိုပါနေရာများတွင် နမားဇ်ဝတ်ပြု ခြင်းမှရှောင်ရှားရမည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| တားမြစ်ခြင်း | نهى (ف) نهيا |
| နေရာ | مَوْطِنٌ (ج) مَوَاطِنُ (اسم المكان) |
| အညစ်အကြေးစွန့်ပစ်သောနေရာ | مَزْبَلَةٌ (ج) مَزَابل (المكان) |
| အသားသတ်ရုံ | مَجْزَرَةٌ (ج) مَجَازِرُ(المكان) |
| သင်္ချိုင်း | مَقْبَرَةٌ (ج) مَقَابِرُ(المكان) |
| အလယ်ခေါင် | قَارِعَةٌ (ج) قَوَارِعُ |
| ရေချိုးခန်း | حَمَّامٌ (ج) حَمَّامَاتٌ |
| ကျော၊အပေါ်ယံ | ظَهْرٌ (ج) ظُهُوْرٌ |
| ကုလားအုပ်ထိုင်သောနေရာ | مَعْطِنٌ (ج) مَعَاطِنُ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အခြားသော အကျိုးကျေးဇူးများကို စဉ်းစားပြီးရေးပါ။

၃။ ဟဇရသ် အိဗ်နေ့အုမရ်အကြောင်းကို မိမိဘက်မှ ဖြည့်စွက်၍ (၅)ရက် အချိန်ယူပြီး (၇) မျက်နှာခန့် အရဗီဘာသာဖြင့် စာတမ်းပြုစုပါ။

၄။ အောက်ပါစာလုံးများဖြင့် ဝါကျဖွဲ့ပါ။

مَزْبَلَةٌ ـ مجزرة ـ معاطن الإبل ـ مواطن



(١) أخرجه الترمذي في سننه (باب ما جاء في كراهية ما يصلى إليه وفيه". ر: ٣٤٦)

## الحديث الخامس عشر

## (၁၅) နမားဇ်တွင် သက္ကဗီးရ် သဟ်ရီမဟ်နှင့် ကိရာအသ်

عن أبي سعيد رضي الله عنه قال : قال رسول الله صلى الله عليه و سلم : "مفتاحُ الصلاةِ الطُّهُوْرُ؛ وتحريمُها التَّكْبِيْرُ ؛ وتحليلُها التَّسْليمُ ؛ ولا صلاةَ لِمَنْ لَمْ يَقْرَأْ بِالْحمدِ وسورةٍ في فَرِيْضَةٍ أو غَيْرِهَا ". (رواه الترمذي) (١)

ဟဇရသ်အဗူစအီးဒ်ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺအမိန့်ရှိတော်မူသည်။ နမားဇ်၏သော့တံသည် သန့်ရှင်းစင်ကြယ်မှုရယူခြင်းဖြစ်သည်။ သက္ကဗီးရ်အူလာဆိုခြင်းသည် နမားဇ်တွင်(စားသောက်ခြင်း၊စကားပြောခြင်း)တို့ကို ဟရာမ်ပြုလုပ်ပေးသောအရာဖြစ်သည်။ ထိုအရာများကိုစလာမ်လှည့်လိုက်ခြင်းက ပြန်လည်ပြုပိုင်စေသည်။ ဖရဇ်နမားဇ်ဖြစ်စေ၊အခြားနမားဇ်ဖြစ်စေ စူရဟ်ဖာသေဟာဟ်နှင့်အခြားစူရဟ်တစ်ခုမတွဲပါက အထမမြောက်ပေ။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်တွင် နမားဇ်၏ ဖရဇ်အချို့နှင့် ဝါဂျိဗ်ဖြစ်သော အချက်အချို့ကိုတွေ့ရသည်။ နေရာ၊ခန္ဓာ၊အဝတ်စသည်တို့၏ သန့်ပြန့်ခြင်း၊ သက္ကဗီးရ်သဟ်ရီမဟ်ဆိုခြင်း၊ ကေရာအသ်ဖတ်ခြင်းတို့သည် ဖရဇ်တာဝန်များဖြစ်သည်။ စလာမ်နှင့်အဆုံးသတ်ခြင်း၊ စူရဟ်ဖာသေဟာဟ်ဖတ်ခြင်းတို့သည် ဝါဂျိဗ်တာဝန်ဖြစ်သည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| ဟရာမ်ပြုခြင်း | حرّم (تفعيل) |
| အရှင်မြတ်၏ ကြီးကျယ်ကြောင်းကို မြွက်ဆိုခြင်း | كبَّرَ (تفعيل) |
| ဟလာလ်ပြုပေးခြင်း | حَلَّلَ (تفعيل) |
| စလာမ်လှည့်ခြင်း | سلَّمَ (تفعيل) |
| ပြဌာန်းထားသော မလုပ်မနေရ တာဝန် | فريضة (ج) فَرائض |

## ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်း

## أبو سعيد الخدري (سعد بن مالك بن سنان ـ رضي الله عنه )

ဟဇရသ်အဗူစအီးဒ်ﷺ၏ အမည်မှာ စအဒ်ဖြစ်သည်။ ခဇ်ရဂ်မျိုးနွယ်ဝင် အန်ဆွာရီတစ်ပါးလည်းဖြစ်သည်။ အုဟုဒ်စစ်ပွဲတွင် အသက်ငယ်ရွယ်သူဖြစ်နေသောကြောင့်ပါဝင်ခွင့်မရခဲ့ပါ။ အုဟုဒ်စစ်ပွဲနောက်တွင်ဖြစ်ပွားခဲ့သည့် စစ်ပွဲပေါင်း(၁၂)ခုတွင် ပါဝင်ခွင့်ရခဲ့သည်။ ဆွဟာဗာတို့အနက် ဖေကဟ်ပညာတွင် အကျွမ်းကျင်ဆုံးစာရင်းဝင်သည်။ ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၁၁၇၀)ပုဒ် ဆင့်ပြန်ခဲ့သည်။

မဒီနာရွှေမြို့တော်၌ပင် နေထိုင်တော်မူပြီး မဒီနာရွှေမြို့တော်တွင်ပင် သက်တော်(၈၄)နှစ် ဟစ်ဂျ်ရီ(၇၄)ခု၊ ဂျုမုအဟ်နေ့တွင်ကွယ်လွန်တော်မူခဲ့သည်။ ဂျန္နသွလ်ဗကီးအ် အမည်ရှိ သင်္ချိုင်းတွင် မြုပ်နှံခံခဲ့ရသည်။ (٢)

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ ရေးသားပါ။

၂။ နမားဇ်တွင် ဖရဇ်ဖြစ်စေသောအချက်(၁၃)ချက်ကို လေ့လာပြီးရေးပါ။

၃။ ဟဇရသ်အဗူစအီးဒ်ခွဒ်ရီ رضي الله عنه အကြောင်းကို အရဗီလို ရေးသားပါ။

၄။ သက္ကဗီးရ် သဟ်ရီမဟ်ကို လက်တွေ့ဆိုပြပါ။



(١) أخرجه الترمذي في سننه : "باب ما جاء في تحريم الصلاة وتحليلها" .ر: ٢٣٨

(٢) رواة التهذيبين ، أسماء الصحابة الرواة ومالكل واحد منهم من العدد
معرفة الصحابة لأبي نعيم

## الحديث السادس عشر

## (၁၆) သက္ကဗီးရ်သဟ်ရီမဟ်ဆိုချိန် လက်မြှောက်ရမည့်ပုံစံ

عن مالك بن الحُوَيْرِثِ رضي الله عنه أن رسول الله صلى الله عليه وسلم كان إذا كَبَّرَ رَفَعَ يَدَيْهِ حتى يُحَاذِيَ بِهِمَا أُذُنَيْهِ". (رواه مسلم) (١)

ဟဇရတ်မာလိက်ဗင်နှုဟုဝိုင်ရိဆ်ﷺသခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ သည်သက္ကဗီးရ် သဟ်ရီမဟ်ဆိုသောအခါ မိမိလက်နှစ်ဖက်အား နားနှင့်တည့်ညီသည်အထိ မြှောက်တော်မူခဲ့ပါသည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်အရ သက္ကဗီးရ်သဟ်ရီမဟ်ဆိုစဉ် လက်နှစ်ဖက်ကို နားရင်းအထိမြှောက်ခြင်းသည် မွတ်စ်သဟဗ်ဖြစ်ကြောင်းသိရှိရသည်။ ဤသို့နားရင်းအထိ မြှောက်လိုက်ခြင်းဖြင့် ပုခုံးထိ၊ရင်ဘတ်ထိမြှောက်သည်ဟူသော ဆင့်ပြန်ချက်များပေါ်တွင်လည်း အမလ်လုပ်ပြီး ဖြစ်သွားမည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| رفع (ف) رَفْعًا | မ'ခြင်း / မြှောက်ခြင်း |
| حاذى (مفاعلة) | တည့်ညီစွာထားခြင်း/ရင်ဘောင်တန်းခြင်း |

### ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်း

## مالك بن الحويرث (رضي الله عنه)

مالك بن الحويرث (رضي الله عنه) သခင်၏ ကွန္နယသ် (ဂုဏ်ထူးဆောင်အမည်)မှာ أبو سليمان ဖြစ်သည်။ الليثي ဟု ဘွဲ့တပ်ခေါ်ကြသည်။ ကိုယ်တော်မြတ် ﷺထံ အခစားဝင်ပြီး အစ္စလာမ်သာသနာကို လက်ခံခဲ့သည်။ ထို့နောက် ရက်အချို့နေထိုင်ပြီး မိမိဌာနေသို့ ပြန်ရန်ခွင့်ပန်ခဲ့ရာ ကိုယ်တော်မြတ် ﷺ

ကလည်း ခွင့်ပြုပေးလိုက်သည်။ ထို့နောက် ဘဆွရဟ်မြို့တွင် စတည်းချနေထိုင်ခဲ့ပြီး ထိုဘဆွရဟ်မြို့၌ပင် ဟစ်ဂျ်ရီ (၇၄) ခုနှစ်တွင် ကွယ်လွန်တော်မူခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၁၅)ပုဒ် ဆင့်ပြန်ခဲ့သည်။ [၂]

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို စဉ်းစားပြီးရေးပါ။

၂။ ဟဇရသ် မာလိက်ဗင်န် ဟိုဝိုင်ရိဆ်အကြောင်းအရဗီလိုရေးပါ။

၃။ အောက်ပါစကားလုံးဖြင့် ဝါကျဖွဲ့ပါ။ حاذى ـ كبر ـ رفع اليد

၄။ လက်တွေ့ သက္ကဗီးရ်သဟ်ရီမဟ်ဆိုပြီးလက်မြှောက်ပြပါ။

❁❁❁

(١) أخرجه مسلم في صحيحه : " باب استحباب رفع اليدين حذو المنكبين مع تكبيرة الإحرام......" ر:٣٩١.

(٢) رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب" لابن حجر.

أسماء الصحابة الرواة ومالكل واحدمنهم من العدد

## الحديث السابع عشر

## နမားဇ်တွင် ကိဗ်လာဘက်သို့မျက်နှာမူခြင်း

قال أبو هريرة رضي الله عنه : قال النبي صلى الله عليه و سلم : " اِسْتَقْبِلِ الْقِبْلَةَ وَكَبِّرْ" (روالبخاري ) (١)

ဟဇရသ်အဗူဟိုရိုင်ရဟ်ﷺသခင်ဆင့်ပြန်ခဲ့သည်။ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။(နမားဇ်တွင်)အသင်သည် ကိဗ်လာဘက်သို့မျက်နှာမူပြီးနောက်သက္ကဗီးရ်ဆိုပါ။

### အကျိုးကျေးဇူး

ကအ်ဗာကျောင်းတော်ဘက်သို့လှည့်ပြီး နမားဇ်ဝတ်ပြုရန် ကိုယ်တော်မြတ်ﷺ မဒီနာရွှေမြို့တော်သို့ဟစ်ဂျ်ရသ်ပြုပြီး( ၁၆)လအကြာတွင်( စူရဟ်ဗကရဟ်၊အာယသ်(၁၄၄))ရှိအမိန့်တော်ကျရောက်ခဲ့သည်။ ထို့ကြောင့် နမားဇ်တွင် ကိဗ်လာဘက်သို့မျက်နှာမူရန်မှာ ဖရဇ် တာဝန်ဖြစ်သည်။ စက္ကန့်အနည်းငယ်မျှ ကိဗ်လာဘက်မှ ရင်ဘတ်လွဲသွားပါက နမားဇ်ပျက်သွားပေမည်။ သက္ကဗီးရ်ဆိုချိန် ခန္ဓာကိုယ်နှင့်လက်ချောင်းလေးများပါမကျန် ကိဗ်လာဘက်သို့လှည့်ထားရမည်။

### ကျက်မှတ်ရန် စကားစုများ

| | |
|---|---|
| استقبل (استفعال) | မျက်နှာမူခြင်း |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်၏ အလိုသဘောကို ရှင်းပြပြီး။ အကျိုးကျေးဇူးအချို့ကိုရေးပါ။

၂။ ကိဗ်လာဘက်သို့လှည့်ရန်အမိန့်တော်ပါရှိသည့် အာယသ်တော်ကိုရေးပါ။

၃။ မည်သည့်ဗလီ၊နေရာတွင် အာယသ်တော်ကျရောက်ခဲ့သနည်း။

၄။ လက်တွေ့ကိဗ်လာဘက်သို့မျက်နှာမူပြီး နမားဇ်ဝတ်ပြုပြပါ။

❁❁❁

(١) أخرجه البخاري في صحيحه : " باب التوجه نحو القبلة حيث كان " : تعليقا .

## الحديث الثامن عشر

## (၁၈) ချက်အောက်တွင် လက်ပိုက်ခြင်း

عن أبي جحيفة رضي اللّٰه عنه أن عليا رضي الله عنه قال : " السُّنَّةُ وَضْعُ اْلكَفِّ عَلىٰ الكَفِّ في الصلاةِ تَحْتَ السُّرَّةِ." (رواه أبوداود) (١)

ဟဇရသ်အဗူဂျုဟိုင်ဖဟ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဟဇရသ်အလီ သခင်အမိန့်ရှိခဲ့သည်။ "နမားဇ်အတွင်းချက်အောက် လက်ပိုက်ခြင်းသည် စွန္နသ်ဖြစ်သည်။"

### အကျိုးကျေးဇူး

ချက်အောက်တွင်လက်ပိုက်ခြင်းသည် နဗီတမန်တော်များ၏ စွန္နသ်ဖြစ်ကြောင်း بدائع الصنائع ကျမ်းတွင်လည်းဖော်ပြထားသည်။ အဘယ့်ကြောင့်ဆိုသော် နမားဇ်ဟူသည်ခယရိုကျိုးမှုကို ပြသသောအဗောဒသ်တစ်ခုဖြစ်သည်။ ချက်အောက်လက်ပိုက်ခြင်းဖြင့် ခယရိုကျိုးမှုကိုပိုမိုဖြစ်စေသည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| كَفٌّ (ج) أَكُفٌّ | လက်ဖဝါး |
| سُرَّةٌ (ج) سُرَرٌ، وَسُرَاتٌ | ချက် |

### ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

### أبو جُحَيْفَةَ (وَهْبُ بنُ عبدِ اللهِ السُّوَائِيُّ) رضي الله عنه

ဟဇရသ် အဗူဂျုဟိုင်ဖဟ် ၏ အမည်မှာ وهب ဖြစ်သည်။ ငယ်ရွယ်သော ဆွဟာဗာများအနက်မှဖြစ်သည်။ ကိုယ်တော်မြတ်ကွယ်လွန်ချိန် အရွယ်ပင်မရောက်သေးပါ။ ကူဖာမြို့တွင်စတည်းချနေထိုင်ခဲ့သည်။ ကိုယ်တော်မြတ်ထံမှ ဟဒီးဆ်တော်ပေါင်း(၄၅)ပုဒ်ဆင့်ပြန်ခဲ့သည်။ ထို့အတူဟဇရသ်အလီနှင့်ဟဇရသ်ဗရာအ်ဗင်န်အာဇိဗ်နှစ်ပါးထံမှလည်း ဟဒီးဆ်တော်များဆင့်ပြန်ခဲ့သည်။ ဟဇရသ်အလီသည်

သခင့်အား ပြည်သူ့ဘဏ္ဍာတိုက်၏ တာဝန်ခံအဖြစ်ခန့်အပ်ခဲ့သည်။ ဟဇရသ်အလီﷺ၏ သက်တော်စောင့်တစ်ဦးလည်းဖြစ်ခဲ့သည်။ ဟဇရသ်အလီﷺက သခင့်အား وهب الخير(အကောင်းဆောင်ကြဉ်းသော ဝဟဗ်)ဟူသော ဘွဲ့ထူးချီးမြှင့်ခဲ့သည်။

ဟစ်ဂျ်ရီ(၇၄)ခုနှစ်၊ခရစ်သက္ကရာဇ်(၆၈၃)ခုနှစ်တွင် ကူဖာမြို့၌ပင် ကွယ်လွန်ခဲ့သည်။ ကူဖာမြို့တွင် နောက်ဆုံးမှကွယ်လွန်ခဲ့သည့် ဆွဟာဗီလည်း ဖြစ်သည်။[၁]

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏အလိုသဘောကို ရှင်းပြပါ။

၂။ ချက်အောက် လက်ပိုက်ခြင်းတွင် မည်သည့်အကျိုးများရှိသနည်း။

၃။ ဟဇရသ် အဗူဂျုဟိုင်ဖဟ်အကြောင်းကို အရဗီလိုရေးသားပါ။

၄။ လက်တွေ့စွန့်သည်နည်းကျ လက်ပိုက်ပြပါ။



(١) أخرجه أبو داود في سننه : " باب وضع اليمنى على اليسرى فى الصلاة" ر:٧٥٦

(٢) رواة التهذيبين : "تهذيب الكمال ـ للمزي" ، و "تهذيب التهذيب ـ لابن حجر" ،
الأعلام للزركلي ، أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث التاسع عشر

## (၁၉) ပထမဆုံးသက္ကဗီးရ်တွင်သာ လက်မြှောက်ခြင်း

عـن عـلقمة رحمه الله قال:قال عبد الله بن مسعود رضي الله عنه : " ألا أُصَلِّيْ بِكُمْ صلاةَ رسولِ الله صلى الله عليه و سلم ؟ فَصَلَّى فَلَمْ يَرْفَعْ يَدَيْهِ إلا في أَوَّلِ مَرَّةٍ" . (رواه الترمذي) (١)

ဟဇရသ်အလ်ကမဟ်ဆင့်ပြန်ခဲ့သည်။ ဟဇရသ် အဗ္ဗဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ် သခင်မိန့်တော်မူခဲ့သည်။ ''ငါသည်အသင်တို့အား ကိုယ်တော်မြတ် ﷺ ဝတ်ပြုခဲ့သည့် နမားဇ်မျိုး ဝတ်ပြုပြရမည်လော။''ဟုမေးမြန်းပြီး မိမိလက်နှစ်ဖက်အား ပထဆုံး (သက္ကဗီးရ်)တွင်သာ မြှောက်ခဲ့ပြီး နမားဇ်ဝတ်ပြုပြခဲ့သည်။

### အကျိုးကျေးဇူး

ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ်ရဿသည် ကိုယ်တော်မြတ်ﷺ ၏ စွန္နသ်တော်များကို အသိဆုံးဆွဟာဗီ၊ဖေကဟ်ပညာရှင်ဆွဟာဗီလည်းဖြစ်သည်။ ကိုယ်တော်မြတ်ﷺ၏စွန္နသ်တော်များကို သခင်ဆင့်ပြန်သည်ဆိုလျှင် ခိုင်မာမှုတွင် ဒွိဟသံသယ မရှိနိုင်ပေ။ ထို့ကြောင့် နမားဇ်တွင် ပထမဆုံးအကြိမ်တွင်သာ လက်မြှောက်ရမည်ဖြစ်သည်။ အကြိမ်ကြိမ်လက်မြှောက်နေခြင်းသည် တည်ငြိမ်မှုကို ပပျောက်စေသည်။

### ဟဒီးဆ်ဆင့်ပြန်သည့် သာဗေ့အီအကြောင်း

### علقمة بن قيس النخعي الكوفي (رحمه الله)

ဟဇရသ်အလ်ကမဟ်၏ (ဂုဏ်ထူးဆောင်အမည်)မှာ أبـــو شِبْـــلٍ ဖြစ်သည်။ ကြီးကျယ်သည့်သာဗေ့အီကြီးများအနက်တစ်ဦးဖြစ်သည်။

အေမာမ်အလီဗင်န်မဒီနီအမိန့်ရှိခဲ့သည်။"ဆွဟာဗာ(၃)ပါးတို့သည် ဖေကဟ်နှင့်စပ်လျဉ်း၍ တပည့်ကျော်များကိုယ်စီရှိကြသည်။ (၁) زيـد بـن ثـابت (၂) عبد الله بن مسعود (၃) ابن عباس ။ رضي الله عنهم أجمعين

ဟဇရသ်အဗ္ဗဒ္ဒလ္လာဟ်၏ တပည့်ကျော်မှာ ဟဇရသ် အလ်ကမဟ်ဖြစ်သည်။ ”

အဗူမအ်မရ် အမိန့်ရှိခဲ့သည်။ “ဟဇရသ်အိဗ်နေ့မတ်စ်အူးဒ်နှင့် လက်ရုံးရည်၊ နှလုံးရည်တွင်အတူဆုံးပုဂ္ဂိုလ်ထံကျွန်ုပ်တို့ သွားကြစို့ဟုဆိုကာ ဟဇရသ်အလ်ကမဟ်သခင်ထံသို့သွားရောက်ခဲ့သည်။” ဟဇရသ်အလ်ကမဟ်သည် အသံကောင်းသူတစ်ဦးဖြစ်သည်။ ထို့ကြောင့် ဟဇရသ်အိဗ်နေ့မတ်စ်အူးဒ်သည် သခင့်ထံမှ ကုရ်အာန်နားထောင်လေ့ရှိသည်။ ဟဇရသ်အလ်ကမဟ်သည် လူတို့အား ကုရ်အာန်၊ဟဒီးဆ်နှင့်အခြားသောပညတ်ချက်များကို သင်ကြားပေးခဲ့သည်။ သခင်သည် إبراهيم نخعي ၏ ဦးလေးဖြစ်သည်။ ဟစ်ဂျ်ရီ(၆၀ခုနှစ်(သို့)၇၀)ခုနှစ်နောက်ပိုင်းတွင် ကူဖာမြို့၌ပင် ကွယ်လွန်သွားခဲ့သည်။ (٢)

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကိုအလွတ်ရေးသားပြီး ရှင်းပြပါ။

၂။ ပထမဆုံးအကြိမ်တွင်သာလက်မြှောက်ခြင်းဖြင့် မည်သို့သော အကျိုးများ ရမည်နည်း။

၃။ ဟဇရသ် အဗ္ဗဒ္ဒလ္လာဟ်ဗင်န်မတ်စ်အူးဒ်အကြောင်းအရဗီလိုရေးပါ။

၄။ ဟဇရသ်အလ်ကမဟ်အကြောင်းရေးပါ။

❁❁❁

(١) أخرجه الترمذي في سننه : " باب ما جاء أن النبي صلى الله عليه و سلم لم يرفع إلا في أول مرة" ر : ٢٥٧.

(٢) رواة التهذيبين : " تهذيب الكمال ـ للمزي" ، "تهذيب التهذيب ـ لابن حجر".
أسماء الصحابة الرواة و مالكل واحد منهم من العدد

## الحديث العشرون

## (၂၀) နမားဇ်အစတွင် ဆနာ (ချီးမွမ်းခန်းဖွင့်ခြင်း)

عـن عائشة رضي الله عنها : أن النبي صلى الله عليه و سلم كان إذَا اِفْتَتَحَ الصــلاةَ قال:" سُبْحَانَكَ اللّٰهُمَّ وبِحَمْدِكَ و تَبَارَكَ اسْمُكَ ، وتَعَالىٰ جَدُّكَ ، ولا إلهَ غيرُك ". (رواه أبوداود) (١)

ဟဇရတ်အာအေ့ရှာ رضـي الله عـنـهـا သခင်မထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺသည် နမားဇ်စတင်သောအခါ အောက်ပါ'ဆနာ'(အရှင်မြတ်အား ချီးမွမ်းခန်းဖွင့်သောစာသားများ)ကိုရွတ်ဆိုလေ့ရှိသည်။

" سُبْحَانَكَ اللّٰهُمَّ وبِحَمْدِكَ و تَبَارَكَ اسْمُكَ ، وتَعَالىٰ جَدُّكَ ، ولا إلهَ غيرُك ".

**အိုအရှင်မြတ် - အရှင်မြတ်၏သန့်ရှင်းစင်ကြယ်ကြောင်းကိုမြွက်ဟပါ၏။ အရှင်မြတ်အားချီးမွမ်းခြင်း၏ သဟဲဖြင့်။ အရှင်မြတ်၏ နာမတော်သည် မင်္ဂလာရှိလှပါသည်။ အရှင်မြတ်၏ ဂုဏ်တော်သည် မြင့်မားလှပါသည်။ အရှင်မြတ်မှအပ အခြားကိုးကွယ်ရာဟူ၍ အလျှင်းမရှိပါ။**

### အကျိုးကျေးဇူး

နမားဇ်အတွင်း ဆနာဖတ်ခြင်းသည် စွန္နသ်ဖြစ်သည်။ အရှင်မြတ်အတွက် ဝတ်ပြုသော နမားဇ်အတွင်းအရှင်မြတ်ကိုစနစ်တကျချီးမွမ်းခြင်းဖြင့် ပိုမိုအကျိုးရှိမည်။ အရှင်မြတ်ကို ချီးမွမ်းခန်းဖွင့်သည့်အခြားသော ဆနာတော်များရှိသေးသော်လည်း ဤဆနာတော်သည် အထိရောက်ဆုံးဖြစ်ပါသည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| افتتح (افتعال) | အစပြုခြင်း |
| سُبْحَانٌ | သန့်ပြန်စင်ကြယ်ခြင်း |
| تبارك (تفاعل) | အလွန်မင်္ဂလာရှိခြင်း |
| تعالى (تعالى) | အလွန်မြင့်မြတ်ခြင်း၊ မွန်မြတ်ခြင်း |

| ဂုဏ်သိက္ခာ/မြင့်မြတ်ခြင်း | جَدٌّ (ج) جُدُوْدٌ |
|---|---|

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီယဟ်အကြောင်း

## عائشة بنت أبي بكر (رضي الله عنهما)

عائشة (رضي الله عنها) သခင်မ၏ ဘွဲ့သညာမှာ أم عبدالله ဖြစ်သည်။ မွတ်စ်လင်မ်တို့၏ မိခင်မွန်လည်းဖြစ်သည်။ ကိုယ်တော်မြတ် ﷺ သည်သခင်မအား ဟစ်ဂျ်ရှရည်မပြုမီ(၂)နှစ်ခန့်တွင် နေကဟ်ပြုခဲ့သည်။ဗဒရ်စစ်ပွဲမှအပြန် ဟစ်ဂျ်ရီ(၂)ခုနှစ် ရှောင်ဝလ်လမြတ်တွင် အခန်းအပ်ခဲ့သည်။

ဆွဟာဗီအမျိုးသမီးတို့တွင် သာသနာတော်ကို ဂယနဏ နားလည်သဘော ပေါက်သောအမျိုးသမီးကြီးဖြစ်သည်။ ဟဇရသ်အဗူမူစာက "သာသနာနှင့်ပတ်သက်ပြီး အခက်တစ်ခုကြုံလာလေတိုင်း ကျွန်ုပ်တို့ မိခင်မွန်အာအေရှာသခင်မထံ သွားရောက် လိုက်ပါက သဘောပေါက်နားလည်ပြီး အားလုံးအဆင်ပြေသွားခဲ့သည်။"ဟု မိန့်ခဲ့ သည်။ အမွေပြဿနာများ၊ အမျိုးသမီးများနှင့်သက်ဆိုင်သော မတ်စ်အလဟ်များကို ကိုယ်တော်မြတ်ﷺရှိနေစဉ်ပင် သခင်မ'က ဖြေရှင်းပေးလေ့ရှိခဲ့သည်။ သခင်မ၏ အကြောင်းခံဖြင့် သယမ်မွမ်၏အမိန့်တော်၊ သိက္ခာရှိသောအမျိုးသမီးများအား စွပ်စွဲသူ များကို ကြိမ်ဒဏ်ပေးခြင်းနှင့် အခြားသော အမိန့်တော်များကျရောက်ခဲ့သည်။ သက်တော်(၁၈)နှစ်အရွယ်တွင် ကိုယ်တော်မြတ်ﷺကွယ်လွန်တော်မူခဲ့သည်။

သခင်မသည်လည်း ဟဒီးဆ်ထောင်ချီဆင့်ပြန်သော ဆွဟာဗာ(၇)ဦးအနက် တစ်ဦးဖြစ်သည်။ ကိုယ်တော့်ထံမှဟဒီးဆ်တော်ပေါင်း (၂၂၁၀)ပုဒ် ဆင့်ပြန်ခဲ့သည်။

ဟစ်ဂျ်ရီ(၅၇)ခုနှစ်တွင် မဒီနာရှေမြို့တော်၌ပင် ကွယ်လွန်တော်မူခဲ့ရာ ဂျန္နသွလ်ဗကီးအ်တွင် သခင်မအား မြှုတ်နှံလိုက်သည်။ ဟဇရသ်အဗူဟုရိုင်ရဟ်သခင် သည် သခင်မ၏ ဂျနာဇာကိုဖတ်ပေးခဲ့သည်။

သခင်မ၏ ဘဝသက်တမ်းသည် အမျိုးသမီးတို့အဖို့ ဂုဏ်ယူဖွယ်ရာဖြစ်ပြီး

မြောက်မြားစွာသော စံနမူများကိုမွတ်စ်လင်မ်အမျိုးသမီးတို့အား လက်ဆောင်အဖြစ်ပေးတော်မူခဲ့သည်။ (١)

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကိုအလွတ်ရေးသားပြီး ဆနာ၏ အဓိပ္ပါယ်ကို ပြန်ဆိုပါ။

၂။ နမားဇ်၌ ဆနာဖတ်ခြင်းသည် မည်သို့သောအမိန့်ဖြစ်သနည်း။

၃။ ဟဇရသ်အာအေရှာသခင်မကြီး၏ အတ္ထုပ္ပတ္တိကို ရေးသားပါ။

၄။ နမားဇ်အစတွင် ဖတ်ရသော အခြားဒိုအာများကို လေ့လာပြီး ရေးပါ။

၅။ ဆနာကို လက်တွေ့ရွတ်ဆိုပြပါ။



(١) أخرجه أبو داود في سننه : " باب افتتاح الصلاة"، ر: ٨٠٦

(٢) رواة التهذيبين : " تهذيب الكمال ـ للمزي"، "تهذيب التهذيب ـ لابن حجر".
أسماء الصحابة الرواة ومالكل واحد من العدد ، الأعلام للزركلي

## الحديث الحادي والعشرون

## (၂၁) နမားဇ်တွင် بسم الله ကို ကျယ်လောင်စွာ မဆိုရ။

عن أنس رضي الله عنه قال : "صَلَّيْتُ خَلْفَ رسولِ الله ـ صلى الله عليه و سلم ـ وأبي بكر وعمر وعثمان ـ رضي الله عنهم ـ ، فَلَمْ أَسْمَعْ أَحَدًا منهم يَجْهَرُ ببسم الله الرحمن الرحيم". (رواه النسائي) (١)

ဟဇရသ်အနတ်စ်ﷺသခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျွန်ုပ်သည် ကိုယ်တော်မြတ်ﷺ ၊ဟဇရသ်အဗူဗက်ရ်၊ဟဇရသ်အုမရ်၊ဟဇရသ်အွတ်စ်မားန်ﷺအားလုံး တို့၏နောက်မှ နမားဇ်လိုက်ဖတ်ခဲ့သည်။ သို့ရှိရာသခင်တို့အနက်တစ်ဦးတစ်ယောက်ထံကမှ بسم الله الرحمن الرحيم ကျယ်လောင်စွာရွတ်ဆိုခဲ့သည်ကို မကြားခဲ့ရပေ။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်သည် နမားဇ်တွင် بسم الله ကို အသံထုတ်၍ မဖတ်ရန်ညွှန်ပြနေပါသည်။ ကိုယ်တော်မြတ်ﷺနှင့် အတူခလီဖွာကြီး(၃)ပါး၊ အခြားဆွဟာဗာတို့၏ အပြုအမူသည်လည်း ဤအတိုင်းပင်ဖြစ်သည်။ ထို့ကြောင့် အသံထုတ်ဖတ်ရသောနမားဇ်များတွင် စူရဟ်ဖာသေဟာမှ စတင်အသံထုတ်ဖတ်ရမည်ဖြစ်ပြီး بسم الله ကိုမူ တိုးတိုးစွာရွတ်ဆိုရမည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| جهر (ف) جَهْرًا،و جِهَارًا [ب] | ကြေညာခြင်း၊ ပြောင်တင်၊ပေါ်တင်လုပ်ခြင်း ကျယ်လောင်စွာလုပ်ခြင်း |

### ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

### أنس بن مالك (رضي الله عنه)

أنس بن مالك (رضي الله عنه) - သခင်သည် ဟစ်ဂျ်ရသ်မပြုမီ(၁၀)နှစ် ခရစ်နှစ်(၆၁၂)ခုနှစ်တွင် မဒီနာမြို့၌ မွေးဖွားခဲ့သည်။ သခင်၏ဂုဏ်ထူးဆောင် အမည်

မှာ أبـو حـمــزة ဖြစ်သည်။ ဗနူနဂျ်ဂျားရ်မျိုးနွယ်ဝင် အန်ဆွာရီတစ်ပါးဖြစ်သည်။ မိခင် أم سُـــلَيْـــمْ သခင်မသည် သခင်(၁၀)နှစ်သားအရွယ်တွင် ကိုယ်တော်မြတ်ﷺအား ဝတ်ကြီး ဝတ်ငယ်ပြုရန် အပ်နှံခဲ့သည်။

ကိုယ်တော်မြတ်ﷺကို(၁၀)နှစ်တိုင်တိုင် ဝတ်ကြီးဝတ်ငယ်ပြုခွင့်ရခဲ့သည်။ ဤကာလတွင် သခင်သည်ချစ်နဗီﷺထံမှ မြောက်မြားစွာသောဟဒီးဆ်တော်များနှင့် သာသနာရေးဆိုင်ရာ အသိပညာများကို ဆည်းပူးသင်ယူခဲ့သည်။ ကိုယ်တော်မြတ်ﷺသည်လည်း သခင့်အတွက်မြောက်မြားစွာသောဒိုအာများပြုပေးခဲ့သည်။ ယင်းဒိုအာများအနက်(၃)ခုမှာ စိတ်ဝင်စားဖွယ်ကောင်းလှသည်။ ဟဇရသ်အနတ်စ်ကိုယ်တိုင် မိန့်တော်မူသည်။ "ကိုယ်တော်မြတ်ﷺသည် ကျွန်ုပ်အဖို့ သားသမီးရတနာ၊ ဥစ္စာနှင့်သက်တမ်းတို့တွင်ဘရ်ကသ်ရရှိရန် ဒိုအာပြုပေးခဲ့သည်။ ကျွန်ုပ်သည် အန်ဆွာရီအပေါင်းတွင် အချမ်းသာဆုံးဖြစ်ခဲ့သည်။ ကျွန်ုပ်အတွက် သားသမီးရတနာ(၁၀၆)ပါး ထွန်းကားခဲ့သည်။"သက်တော်သည်လည်း(၁၀၃)နှစ်တိုင် ရှည်လျားခဲ့သည်။ ဗဆွရဟ်မြို့တွင် နောက်ဆုံးမှ ကွယ်လွန်ခဲ့သည့်ဆွဟာဗီဖြစ်သည်။ ဟစ်ဂျ်ရီ (၉၃)ခု၊ ခရစ်သက္ကရာဇ် (၇၁၂)ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၂၂၈၆)ပုဒ် ဆင့်ပြန်ခဲ့သည်။ (٢)

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို ရှင်းပြပြီး အချို့သော အကျိုးကျေးဇူးများကိုရေးပါ။

၂။ ဟဇရသ်အနတ်စ်အကြောင်းရေးသားပါ။

၃။ ဟဇရသ်အနတ်စ်အား ကိုယ်တော်မြတ်သင်ပေးခဲ့သော ဒိုအာကိုပြောပြပါ။

၄။ မည်သည့်မတ်ဇ်ဟဗ်ဝင်တို့သည် နမားဇ်တွင် بسم الله ကို အသံထုတ် ဖတ်ကြသနည်း။

❁❁❁

(١) أخرجه النسائي في سننه : "باب ترك الجهر ببسم الله الرحمن الرحيم". ر:٩٠٧

(٢) رواة التهذيبين : " تهذيب الكمال ـ للمزي" ، "تهذيب التهذيب ـ لابن حجر".
أسماء الصحابة الرواة ومالكل واحد منهم من العدد ، الأعلام للزركلي

## الحديث الثاني والعشرون

### (၂၂) နမားဇ်တွင် ဖတ်ရသော သရှဟ်ဟွဒ်အကြောင်း

قال عبدُ الله رضي الله عنه : " كُنَّا نُصَلِّي خَلفَ النبيِّ صلى الله عليه وسلم ، فنقول: السلامُ على الله، فقال النبي صلى الله عليه وسلم : " إن اللهَ هو السلامُ ؛ ولكنْ قُوْلُوا التحياتُ لله والصلوات والطيبات ، السلامُ عليك أيها النبي ورحمةُ الله وبركاته ؛ السلام علينا وعلى عباد الله الصالحين أشهد أن لا إله إلا الله وأشهد أن محمدا عبده ورسوله" (رواه البخاري) (١)

ဟဇရသ်အဗ္ဗဒ္ဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ်ﷺသခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ကျွန်ုပ်တို့သည် ကိုယ်တော်မြတ်ﷺ၏နောက်တွင်နမားဇ်ဖတ်ကြပြီး ''အရှင်အမြတ် အပေါ် သို့ငြိမ်းချမ်းသာယာမှုအပေါင်းခညောင်းပါစေ''ဟုဆုတောင်းကြသည်။ ထိုအခါ ကိုယ်တော် မြတ်ﷺက အရှင်မြတ်သည် ငြိမ်းချမ်းမှုအပေါင်းနှင့် အတိပြီးသောအရှင်ဖြစ်သည်။ သို့ရှိရာ အသင်တို့သည် (အောက်ပါဒိုအာ)

"التحيات لله والصلوات والطيبات السلام عليك أيها النبي ورحمة الله وبركاته ؛ السلام علينا وعلى عباد الله الصالحين أشهد أن لا إله إلا الله وأشهد أن محمدا عبده ورسوله".

ကို နမားဇ်တွင် ရွတ်ဆိုကြလေကုန်ဟု မိန့်တော်မူခဲ့သည်။

**ကြီးကျယ်မြတ်ထွတ်မှုအပေါင်း၊ ငြိမ်းချမ်းသာယာမှုပေးခြင်းအပေါင်း ၊ ကာယကံမြောက် လုပ်ဆောင်သော အေဗာဒသ်အပေါင်းနှင့် စင်ကြယ်သော သစ္စာစကားအပေါင်းတို့သည် အရှင်မြတ် အဖို့သာဖြစ်၏။ အို-နဗီတမန်တော် အသင့်အပေါ်သို့လည်း ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်း ဖြိုး အရှင့်ကရုဏာမိုးများနှင့် မင်္ဂလာမိုးများအစဉ် ရွာသွန်းဖြိုးပါစေ။ ကျွန်ုပ်တို့နှင့် အရှင်မြတ်၏ သူတော်စင်ကျေးကျွန်အပေါင်းအပေါ်လည်း ငြိမ်းချမ်းသာယာမှုများ ကျရောက်ပါစေ။ အရှင်မြတ်မှ တစ်ပါးအခြားဝတ် ကိုးကွယ်ရာခံထိုက်သည့်အရှင် မရှိကြောင်းနှင့် မုဟမ္မဒ် သခင်သည် အရှင်မြတ်၏ကျေးကျွန်နှင့် ထိုအရှင်မြတ်၏စေတမန်တော်ဖြစ်ကြောင်းကို ကျွန်တော်မျိုး**

**သက်သေခံပါသည်။**

**အကျိုးကျေးဇူး**

နမားဇ်တွင် သရှုတ်ဟွဒ်ဖတ်ခြင်းသည် ဝါဂျိဗ်ဖြစ်သည်။ ဟနဖီ မဇ်ဟဗ်တွင် ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န်မတ်စ်အူးဒ်ဆင့်ပြန်သောအထက်ပါသရှုတ်ဟွဒ်ကိုဖတ်ရသည်။ ကိုယ်တော်မြတ်ﷺသည် ဟဇရသ်အဗ္ဗဒုလ္လာဟ်သခင်၏ လက်ကိုဆုပ်ကိုင်ကာ ကုရ်အာန်ကျမ်းတော်မြတ်၏စူရဟ်တစ်ပုဒ်သင်ပေးသကဲ့သို့ ဤသရှုတ်ဟွဒ်ကိုသင်ပေးတော်မူခဲ့သည်။

ဤသရှုတ်ဟွဒ်တော်တွင် လူသားသည်မိမိ၏ ကိုယ်၊ နှုတ်၊နှလုံး (၃)ပါးလုံးဖြင့် ပြုကျင့်သမျှသောအဗောဒသ်တိုင်းသည် အရှင်မြတ်အဖို့သာဖြစ်ကြောင်း၊ ကျွန်ုပ်တို့၏ ကျေးဇူးရှင်တမန်တော်မြတ်ﷺအပေါ် ဒရူးဒ်မေတ္တာပို့သခြင်း၊အားလုံးသောမွတ်စ်လင်မ်ထုတစ်ရပ်လုံးအတွက်ပါမကျန် မေတ္တာပို့သခြင်းများလည်းခြုံငုံပါဝင်နေပါသည်။

**မှတ်ချက်။** ။ ဟဒီးဆ်ကျမ်းများတွင် عبداللّٰه ဟု လာရှိလျှင် سيدنا عبداللّٰه بن مسعود ကိုသာဆိုလိုသည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ငြိမ်းချမ်းသာယာမှု၊ ငြိမ်းချမ်းမှုပေးခြင်း | السلام |
| နှုတ်ခွန်းဆက်သခြင်း၊နှုတ်ဖြင့်ပြုလုပ်သောအဗောဒသ် | تَحِيَّةٌ (ج) تَحِيَّاتٌ |
| မေတ္တာပို့သခြင်း၊ ခန္ဓာကိုယ်ဖြင့်ရင်း၍ပြုလုပ်ရသောအဗောဒသ် | صلاة (ج) صلواتٌ |
| သန့်စင်မွန်မြတ်သောအရာ၊ ဥစ္စာနှင့်ရင်း၍ပြုလုပ်ရသော အဗောဒသ် | طَيِّبَةٌ (ج) طَيِّبَاتٌ |

**လေ့ကျင့်ခန်း**

၁။ သရှုပ်ဟွဒ်၏အဓိပ္ပါယ်ကိုအလွတ်ရေးသားပြီးလက်တွေ့ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

၃။ سيدنا عبدالله بن مسعود အကြောင်းကိုရေးပါ။



(١) أخرجه البخاري في صحيحه : " باب قول الله تعالى السلام المؤمن " ر : ٧٣٨١

## الحديث الثالث والعشرون

## (၂၃) ကိုယ်တော်မြတ်ﷺ ပေါ် ဒရူးဒ်မေတ္တာပို့သခြင်း

عن عبد الرحمن بن أبي ليلى رحمه الله قال : " لَقِيَنِيْ كَعْبُ بنُ عُجْرَةَ رضي الله عنه فقال : " ألا أُهْدِيْ لَكَ هدية سمعتُها من النبي صلى الله عليه وسلم ؟ فقلتُ : " بَلىٰ ؛ فأهداها لِيْ، فقال : " سَأَلْنَا رسولَ الله صلى الله عليه وسلم ؛ فقُلْنَا : " يا رسولَ الله كيف الصلاةُ عليكم أهلَ البيتِ ؟ فإن الله قد عَلَّمَنَا كيف نُسَلِّمُ عليكم؛ قال : " قولوا اللّٰهم صل على محمد وعلى آل محمد كما صليت على إبراهيم وعلى آل إبراهيم إنك حميد مجيد . اللّٰهم بارك على محمد وعلى آل محمد كما باركت على إبراهيم وعلى آل إبراهيم إنك حميد مجيد."

(رواه البخاري) (١)

တဗေရည် အဗ္ဗဒ္ဒုရ်ရဟ်မာန်းဗင်န်အဘီလိုင်လာ رحمه الله သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ တဗေရည်ကအဗ်ဗင်န်အွဂျ်ရဟ် رضي الله عنه သခင်သည် ကျွန်ုပ်နှင့်တွေ့ဆုံသောအခါ''ကျွန်ုပ်အသင့်ကို ကိုယ်တော်မြတ်ﷺထံမှ ကြားသိခဲ့ရသော လက်ဆောင်တစ်ခုပေးရမည်လော''ဟုမိန့်သည်။ ထိုအခါ ကျွန်ုပ်ကမုချချီးမြှင့်တော်မူပါဟု ပန်ကြားလိုက်သည်။ (ထိုအခါသခင်က အို-အလ္လာဟ်အရှင်မြတ်၏ရစူလ်၊ ကိုယ်တော်မြတ်နှင့် အိမ်တော်သူအိမ်တော်သားအပေါင်းတို့အပေါ် မည်သို့မည်ပုံ ဒရူးဒ်မေတ္တာပို့သရမည်နည်း၊ အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်နှင့် အိမ်တော်သူအိမ်တော်သားများ အပေါ် စလာမ်(ငြိမ်းချမ်းသာယာမှု)ပို့သနည်းကို ကျွန်ုပ်တို့အား သင်ကြားပေးထားသည်။ ထိုအခါ ကိုယ်တော်မြတ်ﷺ က အသင်တို့သည် အောက်ပါအတိုင်း ဒရူးဒ်မေတ္တာပို့သကုန်ဟု မိန့်တော်မူခဲ့သည်။

"اللّٰهم صل على محمد وعلى آل محمد كما صليت على إبراهيم وعلى آل إبراهيم إنك حميد مجيد . اللّٰهم بارك على محمد وعلى آل محمد كما باركت على

إبراهيم وعلى آل إبراهيم إنك حميد مجيد."

**အိုအရှင်မြတ် မုဟမ္မဒ်သခင်နှင့်သခင်၏ အိမ်တော်သူ၊သားများအပေါ် ဟဇရသ် အီဗ်ရာဟီးမ်** عـليـــه السـلام **နှင့် သခင်၏ အိမ်တော်သူ၊ သားများအပေါ် ဒရူးဒ်မေတ္တာများပို့သပေးခဲ့သည့်အတိုင်း ပို့သပေးသနားတော်မူပါ။ မုချအသင်အရှင်မြတ်သည် မွန်မြတ်လွန်းလှပြီး ချီးကျူးခြင်းခံထိုက်တော်မူသော အရှင်မြတ်ဖြစ်တော်မူပေသည်။ အိုအရှင်မြတ်-မုဟမ္မဒ်သခင်နှင့် သခင်၏ အိမ်တော်သူ၊သားများအပေါ် ဟဇရသ်အီဗ်ရာဟီးမ်** عـليــه السلام **နှင့် သခင်၏ အိမ်တော်သူ၊သားများအပေါ် ဘရ်ကသ် မင်္ဂလာ မိုးများရွာသွန်းဖြိုးပေးခဲ့သည့်အတိုင်း မင်္ဂလာချီးမြှင့်တော်မူပါ။ မုချအသင်အရှင်မြတ်သည် မွန်မြတ်လွန်းလှပြီး ချီးကျူးခြင်းခံထိုက်တော်မူသော အရှင်မြတ်ဖြစ်တော်မူပေသည်။**

**အကျိုးကျေးဇူး**

နမားဇ်၏နောက်ဆုံးရကအသ်တွင် သရှဟ်ဟွဒ်ဖတ်ပြီးသည့်နောက် ဒရူးဒ် ရှရီးဖ်ဖတ်ခြင်းသည် စွန္နသ် ဖြစ်သည်။ ဟဒီးဆ်ကျမ်းများတွင် ဒရူးဒ်ပို့သနည်းပေါင်း မြောက်မြားစွာလာရှိထားသည်။ သို့သော်ဒရူးဒ်အပေါင်း၏ ဦးသျှောင်မှာ"ဒရူးဒ် အီဗ်ရာဟီမီ" အထက်တွင်ဖော်ပြခဲ့သည့်ဒရူးဒ်တော်ဖြစ်သည်။ ဒရူးဒ်ပို့သခြင်းကိစ္စကို အရှင်မြတ်နှင့် ဖရစ်ရှ်သာများ ကိုယ်တိုင်ဆောင်ရွက်လျက်ရှိကြောင်း ကျမ်းတော်မြတ်ကုရ်အာန် စူရဟ်အဟ်ဇာဗ်၊အာယသ် (၅၆)တွင် အမိန့်ရှိထားသည်။

အာယသ်တော်တွင်﴿يصلون﴾ဟု الفعل المضارع ဖြင့် အမိန့်ရှိထားသည်။ ဆိုလိုသည်မှာ လူသားများပို့သည်ဖြစ်စေ မပို့သည်ဖြစ်စေ အရှင်မြတ်နှင့်ကောင်းကင်တမန်တို့သည် ထာဝစဉ်ဒရူးဒ်ပို့သနေမည်သာဖြစ်သည်။ ချစ်နဗီ ﷺ ၏ အွမ္မသ်အပေါ်ထားရှိခဲ့သည့် အကြင်နာ၊အနစ်နာ၊ စေတနာတို့ကို ဂုဏ်ပေးအသိအမှတ်ပြုသည့်အနေဖြင့် ကျွန်ုပ်တို့အွမ္မသ်သားများသည်လည်း နဗီအပေါ် ဒရူးဒ်မေတ္တာပို့သ

နေရမည်ဖြစ်သည်။ “ဒရူးဒ်မေတ္တာအများဆုံးပို့သသူသည် ငါကိုယ်တော်နှင့်အနီးဆုံးတွင်ရှိမည်”ဟုလည်း ချစ်နဗီ ﷺ ကအမိန့်ရှိထားသည်။ ဒရူးဒ်ပို့သခြင်းဆိုင်ရာ အခြားသောအကျိုးကျေးဇူးများကိုလည်း ဟဇရတ်ရှိုင်ခ်မော်လာနာ ဇကရီယာ رحمه الله ရေးသားပြုစုအပ်သော *فضائل درود شریف*နှင့် အခြားသောကျမ်းများတွင် လေ့လာမှတ်သားနိုင်ပါသည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| لقي (س) لِقَاءً | တွေ့ဆုံခြင်း |
| أهدى (إفعال) | လက်ဆောင်ပေးကမ်းခြင်း |
| هَدِيَّةٌ (ج) هَدَايَا | လက်ဆောင် |
| صلّى (تفعيل) | ဒရူးဒ်မေတ္တာပို့သခြင်း |
| آلٌ (اسم الجمع) | အိမ်သူ၊သားများ |
| بَارَكَ (مفاعلة) | မင်္ဂလာချီးမြှင့်ခြင်း |
| مجيد (مجد (ك)مَجَادَةً) | ဂုဏ်ရှိန်မြင့်မားခြင်း |

**ဟဒီးဆ်ဆင့်ပြန်သည့်သာဗေ့အီအကြောင်း**

## عبد الرحمن بن أبي ليلى الأنصاري الأوسي (رحمه الله)

عبـــد الـــرحـــمـــن သခင်သည် ကြီးကျယ်သော أَوْسْ မျိုးနွယ်ဝင် အန်ဆွာရီ သာဗေအီ တစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبو عيسى ဖြစ်သည်။ ဟဇရတ် အုမရ်သခင်၏ အုပ်ချုပ်မှုသက်တမ်းမဆုံးခင်(၆)ရက်အလိုတွင် မဒီနာမြို့၌ မွေးဖွားခဲ့သည်။ သခင်သည်ဆွဟာဗီပေါင်း(၁၂၀)နှင့်တွေ့ဆုံခွင့်ရခဲ့သည်။ အဗ္ဗဒုလ္လာဟ်ဗင်န် ဟာရိဆ်သခင်ကမိန့်ခဲ့သည်။ “ ابـــن أبـــي ليـــلـــى ကဲ့သို့သောပုဂ္ဂိုလ်မျိုးကို မိခင်များ မွေးဖွားမပေးနိုင်တော့ပါဟု ကျွန်ုပ်ထင်မိသည်။”

ဟစ်ဂျ်ရီ (၈၃) ခုနှစ်တွင် အရှင်မြတ်အမိန့်တော် ခံယူခဲ့သည်။ [2]

## ဟဒီးဆ်တွင်ပါဝင်သည့်ဆွဟာဗီအကြောင်း

## كعب بن عجرة (رضي الله عنه)

သခင်သည် كعب بن عجرة (رضي اللّٰهعنه) သခင်သည် ဗနူစာလင်မ်မျိုးနွယ်ဝင် အန်ဆွာရီဆွဟာဗီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبو محمد ဖြစ်သည်။ သခင်သည် " بيعة الرضوان " သစ္စာခံယူချိန်တွင် ပါဝင်ခဲ့သည်။ ထို့နောက် ဖြစ်ပွားခဲ့သည့် သာသနာ့ကြိုးပမ်းမှုတိုင်းတွင် ကိုယ်တော်မြတ်ﷺ နှင့်အတူ ပါဝင်ခွင့်ရခဲ့သည်။ သခင်နှင့်ပတ်သက်ပြီး ﴿فمن كان منكم مريضا أو به أذى من رأسه ففدية من صيام﴾ အာယသ်တော်ကျရောက်ခဲ့သည်။

သက်တော် (၇၇)နှစ် ၊ ဟစ်ဂျ်ရီ (၅၂) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၄၇) ပုဒ်ဆင့်ပြန်ခဲ့သည်။ [3]

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အစိပ္ပါယ်နှင့်တကွရေးသားပါ။

၂။ ဒရူးဒ်ရှရီးဖ်၏ အကျိုးကျေးဇူးအချို့ကိုရေးပါ။ ထို့နောက် ဒရူးဒ်ရှရီးဖ်နှင့် ပတ်သက်သည့် စာအုပ် (၃) အုပ်၏အမည်ကို လေ့လာပြီး ရေးသားပါ။

၃။ ဟဇရသ် عبد الرحمن နှင့် ဟဇရသ် كعب بن عجرة တို့အကြောင်းရေးပါ။

၄။ ဒရူးဒ်ရှရီးဖ်ကို လက်တွေ့ဖတ်ပြပါ။

❁❁❁

---

(١) أخرجه البخاري في صحيحه : "باب [أي] من "باب خلق آدم صلوات الله عليه وذريته" . ر: ٣٣٧٠.

(٢) + (٣) رواة التهذيبين : "تهذيب الكمال - للمزي" و " تهذيب التهذيب - لابن حجر" .

أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الرابع والعشرون

## (၂၄) စွန္နသ်နည်းကျ နမားဇ်ဝတ်ပြုနည်း

عـن عائشة رضي الله عنها قالت :" كان رسولُ الله صلى الله عليه وسلم يَسْتَـفْتِـحُ الصـلاةَ بالتكبير ، والقـــرائةَ بــ " الحمدلله رب العالمين" ، وكان إذا ركـع لـم يُشَـخِّـصْ رأسَه ؛ ولـم يُصَوِّبْه ، ولكن بيْن ذلك ؛ وكان إذا رفع رأسَه من الركوع لم يَسجُد حتى يَسْتَوِيَ قائما ، وكان إذا رفع رأسه من السجدة لم يسجد حتـى يستـوي جـالسا ، وكان يقول في كل ركعتين التَّحِيَّةَ ، وكان يَفْرِشُ رجلَه اليُسْـرى ويَنْصِب رِجْلَه اليمنى، وكان ينهى عن عُقْبَة الشيطان؛ وينهى أن يَفْتَرِشَ الرجلُ ذراعيه افتِرَاشَ السَّبُعِ؛ وكان يَخْتِمُ الصلاةَ بالتسليم" . (رواه مسلم ) (١)

ဟဇရသ် အာအေရှာ رضي الله عنها သခင်မထံ မှ ဆင့်ပြန်ချက် လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် နမားဇ်ကို သက္ကဗီးရ်သတ်ရီမာဖြင့် စတင်တော်မူသည်။ ကေရာအသ်ကို (အသံထုတ်၍ရွတ်ဆိုရလျှင်) الحـمـد لله رب الـعالمين မှ စတင်ဖတ်ရွတ်တော်မူသည်။ ရကူအ်ပြုသောအခါ ဦးခေါင်းတော်ကိုအလွန်မော့၍လည်းမထား၊ ငုံ့၍လည်းမထားဘဲအလယ်အလတ်ပုံစံဖြင့်တည့်မတ်စွာထားတော်မူသည်။ ရကူအ်မှပြန်ထသောအခါ တည့်မတ်စွာမရပ်သေးဘဲ စဂျ်ဒဟ်ပြုလုပ်လေ့မရှိပါ။ စဂျ်ဒဟ်မှ ဦးခေါင်းတော်ကိုကြွယူတော်မူသောအခါ တည့်တည့်မတ်မတ်မထိုင်ရသေးဘဲ(ဒုတိယ)စဂျ်ဒဟ်ပြုလုပ်လေ့မရှိပါ။ နှစ်ရကအသ်ဝတ်ပြုပြီးတိုင်း သရှာဟ်ဟွဒ်ဖတ်တော်မူလေ့ရှိသည်။ (ကအ်ဒဟ်ထိုင်သောအခါ) ဘယ်ခြေတော်ကိုဖြန့်ပြီး ညာခြေတော်ကို တည့်မတ်စွာထောင်ထားတော်မူသည်။

ကိုယ်တော်မြတ် ﷺ သည် ရှိုင်သွာန်ထိုင်သကဲ့သို့ဆောင့်ကြောင့်ထိုင်ခြင်း၊ တင်ပြင်ခွေထိုင်ခြင်း၊ကုတ်ဖဲ့စားသောက်တတ်သည့်သတ္တဝါများထိုင်သကဲ့သို့ မိမိလက်ကို ခင်းကျင်းထိုင်ခြင်းတို့မှ တားမြစ်တော်မူလေ့ရှိခဲ့သည်။ ၎င်းနောက်စလာမ်ဖြင့် နမားဇ်ကို အဆုံးသတ်လေ့ရှိတော်မူခဲ့သည်။

**အကျိုးကျေးဇူး**

ဤဟဒီးဆ်တော်မြတ်သည် စွန္နသ်နည်းကျ နမားဇ်ဆောက်တည်နည်းကို ရှင်းပြနေသည်။ သက္ကဗီးရ်နှင့်အစပြုခြင်းသည်ဖရဇ်ဖြစ်သည်။ အသံထုတ်ဖတ်ရသော နမားဇ်များတွင် بسم اللّٰه ကိုတိုးတီးစွာ ဖတ်ပြီး الحمد မှ စတင်အသံထုတ်ဖတ်ရွတ်ခြင်းသည် စွန္နသ်ဖြစ်သည်။ ဦးခေါင်းကိုတည့်မတ်စွာထားခြင်းသည်လည်း စွန္နသ်ဖြစ်သည်။ تعديل الأركان ရှုကုအ်၊စဂျ်ဒဟ်၊ ဂျလ်စာ၊ကောင်မဟ်စသည်တို့ကို ညီညာအေးဆေးစွာဆောင်ရွက်ခြင်းနှင့် ကအ်ဒဟ်တိုင်းတွင်သရှဟ်ဟွဒ်ဖတ်ခြင်းတို့သည် ဝါဂျိဗ်ဖြစ်သည်။ ဘယ်ခြေကိုခင်းပြီး ညာခြေကို ထောင်ထားခြင်းသည် စွန္နသ်ဖြစ်သည်။ ဆောင့်ကြောင့်ထိုင်ခြင်း၊လက်နှစ်ဖက်ကိုနံဘေးဖြင့်ကပ်ထားခြင်းတို့သည် မက္ကရူးဟ်ဖြစ်သည်။ စလာမ်ဖြင့်နမားဇ်ကိုအဆုံးသတ်ခြင်းသည် ဝါဂျိဗ်တာဝန်ဖြစ်သည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ခေါင်းမော့ထားခြင်း | شخّص (تفعيل)[رأسه] |
| ခေါင်းငုံ့ထားခြင်း | صوَّب (تفعيل) [رأسه] |
| တည့်ညီနေခြင်း | يستوي (استفعال) |
| ခင်းကျင်းခြင်း | فرش(ض،ن)فَرْشًا |
| ထောင်ထားခြင်း၊မတ်ထားခြင်း | نصب (ض)نَصْبًا |
| ဆောင့်ကြောင့်ထိုင်ခြင်း၊တင်ပြင်ခွေထိုင်ခြင်း | عُقْبَةٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့် တကွရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အခြားသောအကျိုးကျေးဇူးများ မိမိဘက်မှ ဖြည့်စွက်ရေးသားပါ။

၃။ စွန္နသ်နည်းကျ လက်တွေ့နမားဇ်ဖတ်ပြပါ။

❁❁❁

(١) أخرجه مسلم في صحيحه : "باب ما يجمع صفة الصلاة وما يفتتح به ويختم به". ر: ٤٩٨

## الحديث الخامس والعشرون

### (၂၅) စလာမ်လှည့်ပြီးနောက်ပြုကျင့်သင့်သည့်အချက်များ

عـن ثوبان رضي الله عنه قال :" كان رسول الله صلى الله عليه وسلم إذا انـصـرفَ مـن صـلاتـه اِسْتَـغْـفَـرَ ثلاثا ، وقال : " اللّٰهم أنت السلامُ ومنك السلامُ تباركتَ [يا]ذا الجلال والإكرام" . (رواه مسلم) (١)

ဟဇရတ်ဆောင်ဝ်ဘာန် رضي الله عنه သခင်ထံမှဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် နမားဇ်ပြီးဆုံးသောအခါ အိစ်သိဂ်ဖားရ်(၃)ကြိမ်ဆိုလေ့ရှိသည်။ ထို့နောက် အောက်ပါဒိုအာကို ရွတ်ဖတ်တော်မူသည်။

" اللّٰهم أنت السلام ومنك السلام تباركت [يا]ذا الجلال والإكرام"

**အိုအရှင်မြတ်- အရှင်မြတ်သည်သာ ငြိမ်းချမ်းသာယာမှုအပေါင်းကို ပေးတော်မူသည်။ ငြိမ်းချမ်းမှုဟူသရွေ့သည်လည်း အရှင်မြတ်ထံမှသာ လာရှိပေသည်။ အို- မွန်မြတ်ခြင်း၊ ဂုဏ်အင်အပေါင်းနှင့်ပြည့်စုံတော်မူသောအရှင်၊ အရှင်မြတ်သည် အလွန်ပင်မင်္ဂလာအပေါင်းနှင့်ပြည့်စုံကုံလုံတော်မူပေသည်။**

#### အကျိုးကျေးဇူး

ခြောက်ပြစ်ကင်းသဲလဲစင်ဖြစ်တော်မူသောနဗီတမန်တော်မြတ် ﷺ ကိုယ်တိုင်ပင်နမားဇ်ပြီးနောက် အိစ်သိဂ်ဖားရ်ဖတ်သည်ဆိုလျှင် နေ့စဉ်ဂိုနာဟ်ပင်လယ်တွင် နစ်မွန်းနေသောကျွန်ုပ်တို့အဖို့ အိစ်သိဂ်ဖားရ်ဖတ်ရန်မည်မျှပင်အရေးကြီးမည်နည်း။ ထို့အတူကောင်းမှုတစ်ခုပြုလုပ်ပြီးလေတိုင်း အရှင်မြတ်ထံမှ ဒိုအာတောင်းခံခြင်းသည် လက်ခံသွားနိုင်ရန် အကြောင်းခံတစ်ခုဖြစ်သည်။ ဖရဇ်နမားဇ်ပြီးတွင် တောင်းဆိုရန် ဟဒီးဆ်ကျမ်းများတွင် ဒိုအာအမြောက်အမြားလာရှိသည်။ ထိုဒိုအာများအနက် အများတောင်းလေ့ရှိသော ဒိုအာမှာအထက်ပါဒိုအာဖြစ်သည်။ သို့သော် အခြားမိမိကြိုက်နှစ်သက်ရာ ဒိုအာများကိုလည်း တောင်းဆိုနိုင်ပါသည်။

## ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| انصرف (انفعال) [عن] | ပြီးဆုံးခြင်း၊ပြန်လှည့်ခြင်း |
| الجلال | ကြီးကျယ်မြတ်ထွဋ်ခြင်း |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## ثوبان بن بُجْدُدٍ (رضي الله عنه)

ثوبان (رضي الله عنه) သခင်သည် ယီမင်နိုင်ငံမှဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبو عبدالله ဖြစ်သည်။ သုံ့ပမ်းအဖြစ် အဖမ်းခံခဲ့ရသောအခါ ကိုယ်တော်မြတ် ﷺက သခင့်ကိုဝယ်ယူတော်မူပြီး သူကောင်းပြုလိုက်သည်။ ထို့နောက် "အသင်သွားလိုရာသွားနိုင်သည်။ ငါတို့ထံနေထိုင်မည်ဆိုလျှင်အသင်သည် ငါတို့အိမ်တော်သားဝင်တစ်ဦးဖြစ်မည်။"ဟုကိုယ်တော်မြတ်ﷺက အမိန့်ရှိခဲ့ရာသခင်က ကိုယ်တော်မြတ်ﷺထံတွင် သာနေထိုင်ခြင်းကို ရွေးချယ်ခဲ့လေသည်။ ကိုယ်တော်မြတ်ﷺနှင့် အတူအမြဲရှိနေခဲ့သည်။ ထို့နောက် حِمْص တွင် သွားရောက်နေထိုင်ခဲ့ပြီး ထိုနေရာ၌ပင် ဟစ်ဂျ်ရီ(၅၄)ခုနှစ်တွင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။

ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း(၁၂၈)ပုဒ် ဆင့်ပြန်ခဲ့သည်။ (٢)

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကိုအဓိပ္ပါယ်နှင့်တကွ ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အခြားသောအကျိုးကျေးဇူးများကို စဉ်းစားပြီးရေးပါ။

၃။ ဟဒီးဆ်တော်ပါ ဒိုအာကို လက်တွေ့တောင်းပြပါ။

၄။ နမားဇ်ပြီးဖတ်ရသည့် အခြားဒိုအာ (၂)ပုဒ်ကိုလေ့လာပြီးရေးပါ။

၅။ ثوبان သခင်အကြောင်းကို အရဗီလို (၁၀) ကြောင်းမျှရေးသားပါ။

❁❁❁

(١) أخرجه مسلم في صحيحه : "باب استحباب الذكر بعد الصلاة وبيان صفته" ر:٥٩١

(٢) رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب" لابن حجر.
أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث السادس والعشرون

## (၂၆)စလာမ်လှည့်ပြီးနောက် ဖတ်ရမည့်ဇိကိရ်တော်များ

عن كَعب بن عُجْرَةَ رضي الله عنه : عن رسولِ الله صلى الله عليه وسلم قال:" مُعَقِّبَاتٌ لا يَخِيْبُ قائلُهن أو فاعِلُهن دُبُرَ كلِّ صلاةٍ مكتوبةٍ ، ثلاثٌ وثلاثون تسبيحةً ؛ وثلاث وثلاثون تحميدةً ؛ وأربع وثلاثون تكبيرةً ".

(رواه مسلم ) (١)

ဟဇရသ်ကအ်ဗ်ဗင်နိအွဂ်ျရဟ်သခင်သည် ကိုယ်တော်မြတ်ﷺ မိန့်တော်မူသည်ကို ဤသို့ဆင့်ပြန်ခဲ့သည်။ ‘‘ဖရဇ်နမားဇ်ပြီးလေတိုင်းနောက်မှဂွတ်ဖတ်ရသောဇိကိရ်တော်များကိုဖတ်ရွတ်၊ဆောင်ရွက်သူသည် ဆုံးရှုံးမှုနှင့် ရင်ဆိုင်ရလိမ့်မည်မဟုတ်ပါ။ (ထိုဇိကိရ်တော်များမှာ) سبحان الله (၃၃)ကြိမ်၊ الحمد لله (၃၃)ကြိမ်၊ الله أكبر(၃၄)ကြိမ်ဖြစ်သည်။

### အကျိုးကျေးဇူး

ဖော်ပြပါဇိကိရ်တော်များကို تسبيحات فُقَرَاء ဟုလည်းခေါ်ဆိုသည်။ ဤကဲ့သို့မပင်ပန်းဘဲ အကျိုးများစွာကိုဆောင်ကြဉ်းပေးသောအမလ်မျိုးကို မည်သည့်အခြေအနေ၌ပင်မဆို လက်မလွှတ်သင့်ပါ။ ဆုံးရှုံးမှုနှင့်ရင်မဆိုင်လိုဘဲ အောင်မြင်မှုကိုရယူလိုသူများသည် ဖရ်ဇ်နမားဇ်ပြီးတိုင်း ဤအမလ်ကို စွဲမြဲစွာပြုကျင့်ရမည်ဖြစ်သည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| مُعَقِّبَةٌ (ج) مُعَقِّبَاتٌ | နောက်မှ၊ဆက်တိုက်ပြုကျင့်ရသော ကောင်းမှုများ |
| خاب (ض) خَيْبَةً | ဆုံးရှုံးနစ်နာခြင်း |
| دُبُرٌ (ج) أَدْبَارٌ | နောက် |
| مَكْتُوْبَةٌ | သတ်မှတ်ပြဋ္ဌာန်းထားသောအရာ |

| | |
|---|---|
| تسبيحة | အရှင်မြတ်၏ သန့်ရှင်းစင်ကြယ်ကြောင်း မြွတ်ဟခြင်း၊ سبحان الله ဆိုခြင်း |
| تحميدة | အရှင်မြတ်အားထောပနာပြုခြင်း၊ الحمد لله ဆိုခြင်း |

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွရေးသားပါ။

၂။ ဟဒီးဆ်ပါ تسبيح တော်ကို လက်တွေ့စိတ်ပြပါ။

၃။ ဟဒီးဆ်တော်၏ အခြားသော အကျိုးကျေးဇူးများကို ရေးသားပါ။

၄။ (رضي الله عنه) كعب بن عجرة သခင်အကြောင်းကိုရေးပါ။



(١) أخرجه مسلم في صحيحه : " باب إستحباب الذكر بعد الصلاة وبيان صفته". ر: ٥٩٦

## الحديث السابع والعشرون

## (၂၇) ဝိသ်ရ်နမားဇ်နှင့် ရကအသ်အရေအတွက်

عن علي رضي الله عنه قال : " كان النبيُّ صلى الله عليه و سلم يُوْتِرُ بِثَلاثٍ، يَقْرَأُ فيهن بتسع سور من المفصل يقرأ في كل ركعة بثلاث سور آخرهن ﴿ قل هو الله أحد ﴾". (رواه الترمذي) (١)

ဟဇရသ်အလီ رضـــي الله عـــنـــه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည်ဝိသ်ရ်နမားဇ်ကို(၃)ရကအသ်ဝတ်ပြုလေ့ရှိခဲ့သည်။

ထိုရကအသ်များတွင် سورة الحجرات မှ سـورة الناس အတွင်းရှိ စူရဟ်(၉)ပုဒ်ကို တစ်ရကအသ်တွင်(၃)ပုဒ်ဖတ်ရွတ်လေ့ရှိခဲ့သည်။ နောက်ဆုံးဖတ်ရွတ်သည့်စူရဟ်သည် سورة الإخلاص ဖြစ်သည်။

### အကျိုးကျေးဇူး

ဝိသ်ရ် နမားဇ်သည် ဝါဂျိဗ်ဖြစ်သည်။ "ဝိသ်ရ်နမားဇ်မဖတ်သူသည် ငါ၏ အသင်းသားထဲမှမဟုတ်"ဟုကိုယ်တော်မြတ်ﷺ မိန့်ခဲ့သည်။ ထို့အတူ ဝိသ်ရ်နမားဇ် သည်(၃)ရကအသ်သာဖြစ်ကြောင်း၊ ထိုနမားဇ်တွင် စွန္နသ်နည်းကျတွဲဖတ်ရန် စူရဟ် များရှိကြောင်း ဤဟဒီးဆ်တော်မြတ်မှ သိရှိရသည်။ ဝိသ်ရ်နမားဇ်ကို လွတ်မိလျှင် လည်းပြန်လည်ပြီး ကဇ္ဇာဖြည့်ရမည် ဖြစ်သည်။ ရမ်ဇန်လတွင် ဝိသ်ရ်နမားဇ်ကို ဂျမာ အသ်နှင့်ဖတ်ရမည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| أوتر (إفعال) | ဝိသ်ရ်နမားဇ်ဝတ်ပြုခြင်း |
| مُفَصَّلٌ | سورة الحجرات မှ سورة الناس ထိ စူရဟ်တော်များ |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## علي بن أبي طالب (رضي الله عنه)

(رضي الله عنه) علي بن أبي طالب သည် ကိုရိုင်းရှ်မျိုးနွယ်ဝင် ဗနူဟာရှင်မ် မျိုးစုမှဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبو الحسن ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ၏ညီဝမ်းကွဲ၊အချစ်ဆုံးသားမက်တော်ဖြစ်သည်။ ကလေးများထဲတွင် ပထမဆုံး အစ္စလာမ် သာသနာတော်ကိုလက်ခံခဲ့သည်။ ဂျန္နသ်၏သတင်းကောင်းပေးခြင်းခံခဲ့ရ သည့်ဆွဟာဗီ(၁၀)ဦးအနက်တစ်ဦးဖြစ်သည်။ စတုတ္ထမြောက်အစ္စလာမ့် ခလီဖ္ဖာကြီး လည်းဖြစ်သည်။ ကိုယ်တော်မြတ် ﷺက"အလီနှင့်ငါသည် နှစ်ကိုယ့်တစ်စိတ်ဖြစ်သည်" ဟုမိန့်ကြားခဲ့သည်။

သဗူးက်မှအပအခြားသာသနာ့ကြိုးပမ်းမှုတိုင်းတွင် ပါဝင်ခဲ့သည်။ ဟဇရသ် အွတ်ဆ်မာန်သခင် ရှဟီးဒ်ပြုခံရသည့်နေ့တွင် သခင်၏လက်ပေါ်တွင် မုဟာဂျိရ် အန်ဆွာရီဆွဟာဗီများအားလုံးဗိုင်အသ်ယူခဲ့ပြီး ခလီဖ္ဖာတင်မြောက်ခဲ့ကြသည်။ သက်တော်(၆၃)နှစ်၊ ဟစ်ဂျ်ရီ(၄၀)ခုနှစ်တွင် ကူဖာမြို့၌ ရှဟီးဒ်ပြုခံခဲ့ရသည်။ သခင်၏ အုပ်ချုပ်မှုသက်တမ်းမှာ(၄)နှစ်၊ (၉)လ၊ (၆)ရက်ဖြစ်ခဲ့သည်။

သခင်ကြီးသည်အွမ္မသ်အတွက် မေ့မရနိုင်သော သမိုင်းမှတ်တိုင်များကိုစိုက် ထူပေးခဲ့သည်။

ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၅၈၆)ပုဒ် ဆင့်ပြန်ခဲ့သည်။

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးများနှင့်တကွရေးသားပါ။

၂။ مفصلات ဆိုသည်မှာ အဘယ်နည်း၊ ထို مفصلات ၏ အဆင့် (၃) ဆင့်ကိုလည်းဖော်ပြပါ။

၃။ علي رضي الله عنه ၏အကြောင်းကို လေ့လာပြီး(၇)မျက်နှာခန့်ရေးပါ။

❁❁❁

(١) أخرجه الترمذي في سننه : " باب ما جاء في الوتر بثلاث " ر: ٤٦٠

(٢) رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب" لابن حجر.

أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الثامن والعشرون

### (၂၈) ကျမ်းတော်မြတ်ကုရ်အာန်ကို သဂ်ျဝီးဒ်ဥပဒေများနှင့်အညီ ဖတ်ခြင်း

عـن البـراء بـن عـازب رضي الله عنه قال : قال رسول الله صلى الله عليه وسلم : " زينوا القرآن بأصواتكم". (رواه أبوداود) (١)

ဟဇရသ်ဗရားအ်ဗင်န်အာဇိဗ် رضـي الله عـنـه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ ''အသင်တို့သည် ကုရ်အာန်ကျမ်းတော်မြတ်ကို မိမိတို့အသံဖြင့်လှပတင့်တယ်အောင်ပြုကြလေကုန်။

**အကျိုးကျေးဇူး**

နမားဇ်တွင်ဖြစ်စေ၊အပြင်တွင်ဖြစ်စေ ကျမ်းတော်မြတ်ကုရ်အာန်ကို ဌာန်ကရိုဏ်းကျကျ သဂ်ျဝီးဒ်ဥပဒေများနှင့်တကွ လှပတင့်တယ်စွာဖတ်ခြင်းသည် ဖရဇ်တာဝန်ဖြစ်သည်။ သဂ်ျဝီးဒ်ဥပဒေနှင့်မဖတ်ပါက အချို့နေရာများတွင် နမားဇ်ပင်ပျက်စေသည်။ အချို့နေရာများတွင် ဂိုနာဟ်ထိုက်စေသည်။ အထူးသဖြင့် နမားဇ်တွင်သဂ်ျဝီးဒ်နှင့်ဖတ်ရန်ပိုမိုအရေးကြီးသည်။ ထို့ကြောင့် သဂ်ျဝီးဒ်ဥပဒေနှင့်အညီ ကျမ်းတော်မြတ်ကုရ်အာန်ဖတ်နိုင်ရန် သင်ယူရမည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| لှပတင့်တယ်စေခြင်း | زَيَّنَ (تفعيل) |
| အသံ | صَوْتٌ (ج) أصواتٌ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

### البراء بن عازب الأنصاري (رضي الله عنه)

အော်ဝ်စ် أَوْسْ မျိုးနွယ်ဝင် အန်ဆွာရီ ဆွဟာဗီ البـراء بن عازب (رضي الله عنه) သခင်သည် ... ဆွဟာဗီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبــوطـــفيــل ဖြစ်သည်။ ဗဒရ်စစ်ပွဲနေ့တွင် ကိုယ်တော်မြတ် ﷺက သခင့်ကိုငယ်ရွယ်သောကြောင့် ပါဝင်ခွင့်မပြုခဲ့

ပါ။ အုဟုဒ်မှစ၍ ကျန်ရှိသော သာသနာ့ကြိုးပမ်းမှု(၁၅)ခုတွင် ကိုယ်တော်မြတ် ﷺနှင့်အတူ ပါဝင်ဆင်နွဲခွင့်ရခဲ့သည်။

သခင်သည် အီရန်နိုင်ငံရှိ رَيّ မြို့တော်၊ أبهر မြို့တော်၊ قزوين မြို့တော်တို့ကို အောင်နိုင်ခဲ့သည်။ ဟစ်ဂျ်ရီ(၂၄)ခုနှစ်တွင် ခလီဖ္ဖာဟဇရသ်အွတ်ဆ်မားန်က သခင့်အား ري မြို့၏ ခေါင်းဆောင်အဖြစ် ခန့်အပ်ခဲ့သည်။ ထို့နောက် ကူဖာမြို့တော်တွင် စတည်းချနေထိုင်ခဲ့သည်။ ထိုကူဖာ၌ပင် ဟစ်ဂျ်ရီ (၇၂) ခုနှစ်တွင်အရှင်မြတ် အမိန့်တော်ခံယူခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၃၀၅)ပုဒ် ဆင့်ပြန်ခဲ့သည်။

## လေ့ကျင့်ခန်း

၁။ စူရဟ်ဖာသေဟာနှင့် စူရဟ် (၄) ပုဒ်ကို သဂျ်ဝီးဒ်နှင့်တကွဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို မိမိဘက်မှစဉ်းစားပြီးရေးသားပါ။

၃။ (رضي الله عنه) البراء بن عازب သခင်၏အကြောင်းကိုရေးပါ။



(١) أخرجه أبوداود في سننه : "باب استحباب الترتيل في القراءة"، ر: ١٤٧٠

## الحديث التاسع والعشرون

**(၂၉) ဖရဇ်နမားဇ်၏ ရှေ့နှင့်နောက်တွင် ဖတ်ရသောစွန္နသ်များနှင့် အကျိုးကျေးဇူးများ**

عن عائشة رضي الله عنهاقالت : قال رسول الله صلى الله عليه و سلم : " مَـن ثَابَرَ على ثِنْتَيْ عشرةَ ركعةً مِنَ السُّنة ؛ بَنَى اللّٰهُ لَه بيتًا في الجنة. أربعَ ركعات قبـل الـظهـر، وركـعتيـن بـعـدها ، وركعتين بعد المغرب، وركعتين بعد العشاء ، وركعتين قبل الفجر" . (رواه الترمذي) (١)

ဟဇရသ်အာအေ့ရှာ رضـــي الله عـنهـــا သခင်မထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ အမိန့်ရှိတော်မူခဲ့သည်။‘‘အကြင်မည်သူမဆို စွန္နသ်မုအက္ကဒဟ်(၁၂) ရကအသ်ကို စွဲမြဲစွာဝတ်ပြုပါက အရှင်မြတ်သည်ထိုသူ့အဖို့ဂျန္နသ်တွင် အိမ်တစ်လုံး တည်ဆောက်ပေးတော်မူမည်။

ထို(၁၂)ရကအသ်မှာ ဇုဟုရ်(ဖရဇ်)မတိုင်မီ(၄)ရကအသ်၊ ဇုဟုရ်(ဖရဇ်)ပြီး(၂) ရကအသ်၊ မဂ်ရိဗ်(ဖရဇ်)ပြီး(၂)ရကအသ်၊ အေရှာ(ဖရဇ်)ပြီး(၂)ရကအသ်၊ဖဂျ်ရ်(ဖရဇ်)မတိုင် မီ(၂)ရကအသ်တို့ဖြစ်ပါသည်။

### အကျိုးကျေးဇူး

ကေယာမသ်နေ့တွင် လူသားတို့၏ အမလ်များအနက် ဦးစွာဖရဇ်နမားဇ်များ ကိုစစ်ဆေးမည်။ ဖရဇ်နမားဇ်များတွင်လျော့နည်းမှုရှိပါက အရှင်မြတ်ဘက်မှ အခြား နမားဇ်များဖြင့် ဖြည့်စွက်ပေးမည်ဖြစ်ကြောင်း အတိအလင်းလာရှိထားပါသည်။ ထို့ ကြောင့်ဖရဇ်နမားဇ်ကို ဂရုစိုက်ခြင်းနှင့်အတူစွန္နသ်၊နဖိလ်များကိုလည်း ဂရုတစိုက်ဝတ် ပြုရမည်။ ဤဟဒီးဆ်တော်မြတ်တွင် စွန္နသ်မုအက္ကဒဟ်နမားဇ်များကိုသာ ဖော်ပြထား သော်လည်း အခြားဟဒီးဆ်တော်များတွင် စွန္နသ်ဂိုင်ရ်မုအက္ကဒဟ်နမားဇ်များကိုလည်း ဖော်ပြထားသည်။

**ကျက်မှတ်ရန် စကားစုများ**

| | |
|---|---|
| ثابر (مفاعلة) [على] | စွဲမြဲစွာပြုခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီဆ်တော်ကို အဓိပ္ပါယ်၊ အကျိုးကျေးဇူးများနှင့်တကွ ရေးသားပါ။

၂။ နမားဇ်(၅) ကြိမ်လုံးတွင် ဖတ်သင့်သည့် စွန္နသ်မုအက္ကဒဟ်၊ ဂိုင်းရ်မုအက္ကဒဟ်၊ နဖိလ်၊ ဝါဂျိဗ်တို့ကို လက်တွေ့ဇယားဆွဲပြပါ။

၃။ (رضي الله عنها) عائشة သခင်မအကြောင်းထပ်မံရေးသားပါ။



(١)أخرجه الترمذي في سننه : "باب ما جاء فيمن صلى فى يوم وليلة ثنتى عشرة ركعة من السنة و ماله فيه من الفضل" .ر:٤١٤

## كتاب الزكاة (ဇကားသ်နှင့်စပ်လျဉ်းသည့် ဟဒီးဆ်တော်များ)

## الحديث الثلاثون

## (၃၀) စိတ်စေတနာဖြူစင်စွာ ပေးကမ်းလှူဒါန်းခြင်း၏ အကျိုးကျေးဇူး

عـن أبي هريرة رضي الله عنه يقول : قال رسولُ الله صلى الله عليه و سلم : " ما تَصَدَّقَ أحدٌ بصَدقة من طَيِّبٍ ـ ولا يَقْبَلُ اللهُ إلا الطيِّبَ ـ إلا أخذها الرحمنُ بِيَـمِيْنِه ؛ وإن كانت تمرةً تَرْبُوْ في كَفِّ الرحمنِ حتى تكونَ أعْظَمَ منَ الْجَبَلِ كما يُرَبِّيْ أحدُكم فَلْوَهُ أو فَصِيْلَه" . (رواه الترمذي) (١)

ဟဇရဍ် အဗူဟုရိုင်ရဟ် رضـي الله عنه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺအမိန့်ရှိတော်မူသည်။ ‘‘မည်သူမဆို သန့်ပြန့်သောဟလာလ်ပစ္စည်းကို စိတ်စေတနာဖြူစင်စွာဖြင့် ပေးကမ်းလှူဒါန်းပါက (အရှင်မြတ်သည်ဟလားလ်ပစ္စည်းကိုသာ လျှင်လက်ခံတော်မူသည်)မဟာကရုဏာတော်ရှင်အလ္လာဟ်သည် လက်ယာလက်ဖြင့် ထိုလှူဒါန်းခြင်းကို လက်ခံတော်မူသည်။ ထိုပစ္စည်းသည် စွန်ပလွံသီးတစ်လုံးပင်ဖြစ်လင့်ကစား မဟာကရုဏာတော်ရှင်၏လက်တွင် တောင်ထက်ကြီးသည့်ပမာဏအထိ ကြီးထွားသွားလေသည်။ ပမာဆိုရသော် အသင်တို့အနက်တစ်ဦးတစ်ယောက်သည် မိမိ၏ကုလားအုတ်ပေါက် (သို့)မြင်းပေါက်လေးကို အဆင့်ဆင့်ပြုစုပျိုးထောင်သည့်အတိုင်းပင်(ထိုအလှူဒါနသည်လည်း အဆင့်ဆင့်ဖွံ့ဖြိုးကြီးမားသွားပေမည်။)

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်တွင် သန့်ပြန့်သော ဟလာလ်ပစ္စည်းကိုလှူဒါန်းရာတွင်စိတ်စေတနာဖြူစင်စွာဖြင့်လှူဒါန်းရမည်ဖြစ်ကြောင်း၊ ထိုသို့လှူဒါန်းလိုက်ခြင်းဖြင့်များစွာသောအကျိုးများရရှိမည်ဖြစ်သည်ကို မိန့်ဆိုထားသည်။ ဟရာမ်ပစ္စည်း လှူဒါန်းခြင်းကို အရှင်မြတ်သည်လုံးဝလက်ခံမည်မဟုတ်ကြောင်း၊ အရှင်မြတ်ထံတွင်စိတ်စေတနာသာ အဓိကကျပြီး လှူဒါန်းသည့် ပမာဏမှာ အဓိကမကျကြောင်း သိရသည်။

အရှင်မြတ်၏ လက်တော်ဆိုသည်မှာ ကျွန်ုပ်တို့နားလည်နိုင်ရန်သာ တင်ပြထားခြင်းဖြစ်သည်။ ပျူပျူငှာငှာလက်ခံသဘောတူလိုက်ခြင်းကိုဆိုလိုသည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| သန့်ပြန့်စင်ကြယ်သော ဟလာလ်ပစ္စည်း | طَيِّبٌ |
| လက်ယာလက်၊မင်္ဂလာရှိသောလက် | يَمِيْنٌ (ج)أَيْمُنٌ ، يَمَائِنُ |
| တိုးပွားခြင်း၊ကြီးထွားခြင်း | رِبَا (ن) رَبْوًا، رُبُوًّا[في] |
| မြင်းပေါက် | فِلْوٌ (ج) أَفْلاَءٌ ، فِلاَءٌ |
| နို့ဖြတ်ပြီးစ ကုလားအုပ်ပေါက်၊နွားပေါက် | فَصِيْلٌ (ج)فِصَالٌ،فَصْلاَنٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်ပါ အခြားသောအကျိုးကျေးဇူးများကို မိမိဘက်မှ စဉ်းစား၍ အရဗီဘာသာဖြင့်ရေးသားပါ။

၃။ အရှင်မြတ်၏ လက်ဆိုသည်ကို ရှင်းပြပါ။

၄။ سيدنا أبوهريرة အကြောင်းရေးပါ။



(١) أخرجه الترمذي في سننه ؛ باب فضل الصدقة : ر : ٦٦١

## الحديث الحادي و الثلاثون

## (၃၁) တာဝန်ရှိပါလျှက်ဇကားသ်မပေးသူ၏ ပြစ်ဒဏ်

عـن أبي هريرة رضي الله عنه يقول : قال رسولُ الله صلى الله عليه و سلم : " مـا مِـنْ صَـاحِـبِ ذَهَـبٍ و لا فِـضَّةٍ لا يُؤَدِّيْ منها حَقَّها إلا إذا كان يومَ القيامة صُـفِّـحَـتْ لـه صَـفَـائِـحُ مـن نارٍ ؛ فَأُحْمِيَ عليها في نارِ جهنمَ ؛ فَيُكْوٰى بها جَنْبُـه و جَبِيْـنُـه و ظَهْرُه ، كُلَّما بَرَدَتْ أُعِيْدَتْ له في يومٍ كان مِقْدَارُه خمسين ألفَ سنَةٍ ؛ حتى يُقضٰى بَيْنَ العبادِ " . (رواه مسلم) (١)

ဟဇရသ်အဗူဟုရိုင်ရဟ် رضـي الله عـنـه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ အမိန့်ရှိတော်မူသည်။ "မည်သည့်ရွှေပိုင်ရှင်၊ငွေပိုင်ရှင်ဖြစ်စေ ထိုရွှေ၊ ငွေတို့၏ဇကားသ်တာဝန်ကို မပေးဆောင်ခဲ့ပါက ကေယာမသ်နေ့တွင် ထိုသူ့အတွက် ဂျဟန္နမ်ငရဲမီးဖြင့် ကောင်းစွာအပူပေးထားသောမီးခင်း၊မီးခဲများခင်းကျင်းထားမည်။ ထိုမီးခဲများဖြင့် ၎င်းသူ၏နံဘေး၊နဖူးနှင့် ကျောကုန်းများကိုအပူကပ်မည်။ မီးခင်းမီးပြားများ အေးသွားသောအခါ နှစ်ပေါင်း(၅၀၀၀၀)နှင့်ညီမျှသည့်နေ့ (ဝါ)ကေယာမသ်နေ့တွင် လူသားတို့စာရင်းအင်း စစ်ကြောပြီးသည့်အထိ ထိုသူ့အား ဤအတိုင်းအပူကပ်ပေးနေမည်ဖြစ်သည်။

### အကျိုးကျေးဇူး

ဟဒီးဆ်တော်၏အစပိုင်းတွင် ရွှေငွေပိုင်ရှင်ဟုသာ ဖော်ပြထားပြီး အဆုံးပိုင်းတွင်မူ ကုလားအုပ်၊နွားတို့၏ပိုင်ရှင်များသည်လည်း ဇကားသ်တာဝန်ကို မကျေပွန်ခဲ့ပါမူ ခံရမည့်ပြစ်ဒဏ်ကို ကိုယ်တော်မြတ်ﷺ က ပြောင်မြောက်စွာ ပုံဖော်ထားသည်။ မီးဖြင့် အတိပြီးသော မီးအမိုး၊ မီးအကာ၊မီးခင်းလွှာကို ကြောက်ရွံ့ပါက ဤလောက၌ပင် မိမိတို့တွယ်တာလွန်းလှသည့် ဥစ္စာပစ္စည်းတို့၏ဇကားသ်တာဝန်ကို ကျေပွန်စွာပေးကမ်းခဲ့ရမည်သာဖြစ်သည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| صفح (تفعيل) | အပြားပြုလုပ်ခြင်း |
| صفِيْحَةٌ (ج) صِفَاحٌ ، صَفَائِحُ | ကျောက်၊သံစသည်တို့၏ အခဲ၊အပြား |
| أحْمٰى (إفعال) | အပူပေးခြင်း |
| كوٰى (ض) كَيًّا [ب] | အပူကပ်ပေးခြင်း |
| جَنْبٌ (ج) جُنُوْبٌ | နံဘေး |
| جَبِيْنٌ (ج) أجْبُنٌ | နဖူး |
| ظَهْرٌ (ج) ظُهُوْرٌ | ကျောကုန်း |
| برد (ن) بَرْدًا ،بُرُوْدًا | အေးစက်သွားခြင်း |
| أعاد (إفعال) | ပြန်လည်ပြုလုပ်ခြင်း |
| قضٰى (ض) قَضَاءً ا | စီရင်ဆုံးဖြတ်ခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အစိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို တင်ပြပါ။

၃။ အောက်ပါစကားလုံးများကို အသုံးပြု၍ ပြည့်ဝသော ဝါကျများဖွဲ့ပါ။

صفحت صفائح　　　أحمي　　　يُكْوٰى جنبه

❁❁❁

(١) أخرجه مسلم في صحيحه : " باب إثم مانع الزكاة"، ر: ٩٨٧

## الحديث الثاني و الثلاثون

## (၃၂) ဇကားသ် ဖရ်ဇ် ထိုက်စေသည့် အတိုင်းအတာသတ်မှတ်ချက်

عـن جـابر بن عبد الله رضي الله عنه عن رسول الله صلى الله عليه وسلم أنـه قـال:" ليس فيما دُوْنَ خَمْسِ أَوَاقٍ من الْوَرِقِ صدقةٌ، وليس فيما دون خمس ذَوْدٍ من الإبل صدقةٌ ، وليس فيما دون خمسة أَوْسُقٍ من التَّمْرِ صدقةٌ ".

(رواه مسلم ) (١)

ဟဇရသ် ဂျာဗိရ် رضي الله عنه သခင်သည် ကိုယ်တော်မြတ် ﷺ ၏ ဆင့်ပြန်ချက်ကို ဤသို့ဆင့်ပြန်တော်မူခဲ့သည်။''ဒိရ်ဟမ်(၂၀၀)ထက်နည်းသောငွေပမာဏ၊ ငါးကောင်ထက်နည်းသော ကုလားအုတ်နှင့်၊ (၃၃၀)ပိဿာခန့်ထက်နည်းသော စွန်ပလွံသီး တို့တွင် ဇကားသ်တာဝန်မရှိပေ။

**အကျိုးကျေးဇူး**

ဤဟဒီးဆ်တော်မြတ်တွင် ပစ္စည်းအချို့အတွက် ဇကားသ်နိစ္စားဗ်(ဇကားသ် ဖရဇ်ထိုက်စေသည့် အတိုင်းအတာသတ်မှတ်ချက်)ကိုဖော်ပြထားသည်။ အခြေခံအား ဖြင့်ဥစ္စာပစ္စည်း(၃)မျိုးတွင်ဇကားသ်ထိုက်သည်။

(၁) ရွှေ ၊ ငွေ (၂) ရောင်းဝယ်ဖောက်ကားသောပစ္စည်း

(၃) စားကျက်ပေါ်တွင် ကျက်စားသောတိရစ္ဆာန် တို့ဖြစ်သည်။

ဟဒီးဆ်တော်တွင် ကောက်ပဲသီးနှံများနှင့်စပ်လျဉ်းသည့် သတ်မှတ်ချက်ကို လည်းပြသထားသည်။ သို့သော် ကောက်ပဲသီးနှံများအပေါ်ပေးဆောင်ရသောတာဝန် ကိုအုရှ်ရ်ဟုဆိုသည်။ အုရှ်ရ်တာဝန်ထိုက်စေသည့် အချို့သောစည်းကမ်းချက်များ လည်းရှိသေးသည်။ အုရှ်ရ်နှင့်ဇကားသ်တွင် ခြားနားမှုအချို့လည်းရှိသည်။ ထိုအချက် များကို အသင်တို့ ဖိက်ဟ်စာအုပ်များတွင် အသေးစိတ်လေ့လာရပါမည်။ إن شاء الله

ရွှေ၏နိဆွားဗ်မှာ ၅ကျပ်၊၃ပဲ၊၄ရွေးဖြစ်သည်။ ဒိရ်ဟမ်(၂၀၀)၏ငွေတန်ဖိုးမှာ

(၂၀၁၉)ခုနှစ်ပေါက်ဈေးအရ (၄၉၄၈၅၀)ခန့်ဖြစ်သည်။

ရောင်းဝယ်ဖော်ကားသောပစ္စည်းဆိုသည်မှာ ဝယ်ယူသည့်နေ့မှ“ငါ၏ပစ္စည်းကိုမြတ်လျှင်ပြန်ရောင်းမည်”ဟူသော နိယသ်ဖြင့်ဝယ်ယူထားသည့် ပစ္စည်းတိုင်းကိုဆိုလိုသည်။

အထက်ပါပမာဏများအား အကြွေးကင်းပြီး နှစ်ပတ်လည်ပိုင်ဆိုင်သူထားသည် မိမိပိုင်ဆိုင်မှုမှ (၄၀ပုံ၁ပုံ = ၁၀၀ိ/လျှင်၂ကျပ်ခွဲ)ကို ဆင်းရဲသားများကို ဇကားသ်၏နိယသ်ဖြင့် ပေးကမ်းလိုက်ရမည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| أَوْقِيَةٌ (ج) أَوَاقٍ | ငွေဒင်္ဂါး(၄၀) |
| ذَوْدٌ | (၃)ကောင်မှ(၁၀)ကောင်ထိကုလားအုတ် |
| وَسَقٌ (ج) أوسُقٌ | (၆၆) ပိဿာခန့်ရှိသော အလေးချိန် |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို အရဗီလိုရေးပါ။

၃။ အောက်ပါစာလုံးများကို အသုံးပြု၍ ပြည့်ဝသော ဝါကျများဖွဲ့ပါ။

ذَوْدٌ ـ أوسق ـ أواق

၄။ سيدنا جابر بن عبد الله رضي الله عنه သခင်အကြောင်းအရဗီလိုရေးပါ။

❁❁❁

(١) أخرجه مسلم في صحيحه : "كتاب الزكاة". ر: ٩٨٠

## الحديث الثالث و الثلاثون

## (၃၃) နွား၏(နိဆွာဗ်) အချိုးအစား

عن معاذ بن جبل رضي الله عنه قال : " بَعَثَنِيْ النبيُّ صلى الله عليه و سلم إلـى اليَـمَـنِ ؛ فأمرني أن آخذَ من كل ثلاثين بقرةً تَبِيْعًا أو تَبِيْعَةً ، ومن كل أربعين مُسِنَّةً ". (روه الترمذي) (١)

ဟဇရသ် မုအားဇ် عـنـه رضـي الله သခင် အမိန့်ရှိခဲ့သည်။ ''ကိုယ်တော်မြတ် ﷺသည် ကျွန်ုပ်အား ယီမင်နိုင်ငံသို့စေလွှတ်သောအခါ နွားအကောင်(၃၀)ကို ပြည့်ပြည့်ဝဝ ပိုင်ဆိုင်ထားသူတိုင်းထံမှ(ဇကားသ်သတ်မှတ်ချက်အနေဖြင့်)တစ်နှစ်ပြည့်သောနွားထီး၊မ တစ်ကောင်ကောက်ခံရန်နှင့်၊အကောင်(၄၀)ပြည့်တိုင်း(၂)နှစ်သားနွားထီး၊မတစ်ကောင်ယူ ရန်အမိန့်ရှိခဲ့သည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မှ နွား၏ဇကားသ်နိဆွားဗ်သတ်မှတ်ချက်ကိုသိရသည်။ အကောင်(၃၀)မပြည့်သေးသ၍ ဇကားမထိုက်ပါ။ အကောင်(၃၀)မှ(၃၉)ထိတစ်နှစ် ပြည့်ပြီးသားနွားတစ်ကောင်၊အကောင်(၄၀)ပြည့်လျှင်(၂)နှစ်ပြည့်ပြီးနွားတစ်ကောင် ပေး လှူရမည်။ ထိုသို့ပေးလှူရာတွင် အထီး/အမ သတ်မှတ်ချက်မရှိဘဲ မိမိကြိုက်နှစ်သက် ရာကို ဇကားသ်အဖြစ်လှူဒါန်းနိုင်ပါသည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| (၁)နှစ်ပြည့်ပြီး (၂)နှစ်သားနွား | تبيع |
| (၂)နှစ်ပြည့်ပြီး (၃) နှစ်သားနွား | مُسِنٌّ |

### ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## معاذ بن جبل الأنصاري الخزرجي رضي الله عنه

သခင်သည် معـاذبـن جبـل رضـي الله عـنـه ခဇ်ရဂျ်မျိုးနွယ်ဝင် အန်ဆွာရီ ဆွဟာဗီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبـوعبـد الـرحـمـن ဖြစ်သည်။

ကျော်ကြားသော ဆွဟာဗီတစ်ပါးဖြစ်သည်။ ဟရာမ်နှင့်ဟလာလ်ကို အသိဆုံးဆွဟာဗီ ဖြစ်ကြောင်း ကိုယ်တော်မြတ် ﷺ ကဘွဲ့ပေးခဲ့သည်။

ကိုယ်တော်မြတ်ﷺလက်ထက်တွင် ကျမ်းတော်မြတ်ကုရ်အာန်ကိုစုစည်းခဲ့သည့် ဆွဟာဗီ(၆)ပါးအနက် တစ်ပါးဖြစ်သည်။ ဆယ်ကျော်သက်အရွယ်တွင် အန်ဆွာရီ အပါး(၇၀)နှင့်အတူ အကဗဟ်ည၌ အစ္စလာမ်လက်ခံခဲ့သည်။ ဗဒရ်မှစ၍ ကျန်ရှိသော သာသနာ့ကြိုးပမ်းမှုတိုင်းတွင် ပါဝင်ဆင်နွှဲခဲ့သည်။

ကိုယ်တော်မြတ်ﷺကသည် သခင့်အား ယီမင်နိုင်ငံသို့ တရားသူကြီးအဖြစ် နှင့် စေလွှတ်တော်မူခဲ့သည်။ ကိုယ်တော်မြတ် ﷺ က ကြိမ်ဆို၍ "إني أحبك يا معاذ"အိုမုအားဇ်-ငါကိုယ်တော်အသင့်အား ချစ်တော်မူသည်"ဟု မိန့်ခဲ့သည်။ ဟဇရသ်အဗူအုဗိုင်ဒဟ်သခင်"အမ်ဝါးစ်"တွင် ပလိပ်ရောဂါဖြင့် ရှဟီးဒ်ဖြစ်ပြီးနောက် ဆီးရီးယားနိုင်ငံ၏ ခလီဖွာအဖြစ် ဟဇရသ်အုမရ်က သခင့်အား ခန့်အပ်ခဲ့သည်။

သခင်သည် အလွန်ချောမောလှပပြီး ရက်ရောသူလည်းဖြစ်သည်။ ဂျော်ဒန် နိုင်ငံအစွန်းဘက်ရှိ غور ဟူသည့်နေရာတွင် ဟစ်ဂျ်ရီ (၁၈) ခုနှစ်၌ ကွယ်လွန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၁၅၇)ပုဒ် ဆင့်ပြန်ခဲ့သည်။ (٢)

**လေ့ကျင့်ခန်း**

(၁) ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

(၂) ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို အရဗီလို (၅) ကြောင်းခန့်ရေးပါ။

(၃) سيدنا معاذ ၏ အကြောင်းကို (၁) ပတ်အချိန်ယူပြီး (၄) မျက်နှာခန့် အရဗီဖြင့် စာတမ်းပြုစုပါ။

❁❁❁

(١) أخرجه الترمذي في سننه ؛ "باب ماجاء في زكاة البقر ؛ ر: ٦٢٣

(٢) رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب" لابن حجر.
أسماء الصحابة الرواة ومالكل واحد منهم من العدد ، الأعلام للزركلي

## الحديث الرابع والثلاثون

## (၃၄) ဆိတ်၏ နိဆွားဗ် (ဇကားသ်ပရေ်ဖြစ်စေသည့်အတိုင်းအတာ)

عن ابن عمررضي اللهعنهما عن رسول الله صلى الله عليه و سلم قال :
" في أربعين شاةً شاةٌ إلى عشرين ومائةٍ ، فإذا زادت واحدةٌ ففيها شاتان إلى مائتين ، فإذا زادَتْ واحدةٌ ففيها ثلاثُ شِيَاهٍ إلى ثلاثِ مائة، فإذا كَثُرَتْ ففي كُلِّ مائةٍ شاةٌ " . (رواه ابن ماجة ) [1]

ဟဇရသ်အိဗ်နေ့အုမရ် သခင်ထံမှဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺ အမိန့်ရှိတော်မူခဲ့သည်။ ''ဆိတ်အကောင်(၄၀)မှ(၁၂၀)ထိ ဆိတ်တစ်ကောင်၊ (၁၂၁)ကောင်မှ (၂၀၀)ထိ ဆိတ်နှစ်ကောင် ၊ (၂၀၁)ကောင် မှ (၃၀၀)ထိ ဆိတ်(၃)ကောင်၊ ထိုထက်များလျှင် (၁၀၀)တွင် ဆိတ်တစ်ကောင်ကျစီတိုး၍(ဇကားသ်)ထုတ်ပေးရမည်။

### အကျိုးကျေးဇူး

၎င်းဟဒီးဆ်တော်မြတ်အရ ဆိတ်အကောင်(၄၀)ပြည့်မှသာ ဇကားသ်ထိုက်မည်ဖြစ်ပြီး(၃၀၀)ထက်များသော ဆိတ်များကို(၁၀၀)လျှင်(၁)ကောင်စီတိုး၍ ထုတ်ရမည်ဖြစ်ကြောင်းသိရသည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| شاة (ج) شِيَاهٌ | ဆိတ် |
| زاد (ض) زيادَةً | တိုးပွားခြင်း |

### လေ့ကျင့်ခန်း

(၁) ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးနှင့်တကွ ရေးသားပါ။

(၂) ဆိတ်အကောင်ရေ (၁၇၉၈၂)ကောင်အတွက် မည်မျှဇကားသ်ထုတ်ရမည်နည်း။

(၃) سيدنا عبد الله بن عمر သခင်အကြောင်းရေးသားပါ။



[1] أخرجه ابن ماجة في سننه ؛" باب صدقة الغنم "، ر:١٨٠٥

# الحديث الخامس والثلاثون

## (၃၅) မြင်း၏ နိဆွာဗ် (ဇကားသ်ဖရဲဒ်ဖြစ်စေသည့်အတိုင်းအတာ)

عن أبي هريرة رضي اللهعنه قال : قال رسول الله صلى الله عليه وسلم : " لازكاةَ على الرجل المسلم في عبدِه ولافرسِه " . (روه النسائي ) [1]

ဟဇရသ်အဗူဟုရိုင်ရဟ် رضي الله عنه သခင်ဆင့်ပြန်ခဲ့သည်။ နဗီတမန်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။''မွတ်စ်လင်မ်တစ်ဦးအပေါ် ၎င်း၏ကျွန်နှင့်မြင်းအတွက် ဇကားသ်ပေးရန်မလိုအပ်ပါ။''

### အကျိုးကျေးဇူး

မြင်းသည် (၃) မျိုးရှိသည်။

(၁) جهـــاد (သာသနာ့ကြိုးပမ်းမှုအတွက်) အထူးတလည်မွေးထားသောမြင်း အေမာမ်ကြီးများအားလုံး၏ အဆိုအရ - (ဤအမျိုးတွင် ဇကားသ် ပေးရန်မလိုပါ။)

(၂) မျိုးလိုက်ရန်အတွက်မွေးထားသောမြင်း။

အေမာမ် အဗူဟနီဖွာ သခင်ထံတွင် ဤအမျိုးအတွက် နိဆွာဗ်သတ်မှတ်ချက်မရှိသော်လည်း တစ်ကောင်လျှင်ဒီနာရ်တစ်ခု (၄ပဲ၁ရွေးခန့်ရှိသောရွှေဒင်္ဂါး)ပေးရမည်။

(၃) အရောင်းအဝယ်အတွက် မွေးထားသော မြင်း

အရောင်းအဝယ်ပြုလုပ်ရန်မွေးထားသော မြင်း၏တန်ဖိုးသည် ငွေ၏နိဆွာဗ်တန်ဖိုးပြည့်မီလျှင် ဇကားသ်ပေးရမည်။ မပြည့်လျှင် ပေးရန်မလိုအပ်ပါ။

### လေ့ကျင့်ခန်း

(၁) မြင်း၏ အမျိုးအစားများမှ ဇကားသ်ထိုက်သည်မထိုက်သည်ကို ရှင်းပြပါ။

(၂) ရောင်းဝယ်ရန်မြင်းအကောင် (၃၀) နှင့် မျိုးလိုက်ရန်မြင်း (၅၀) အတွက် ဇကားသ်မည်မျှ ထုတ်ရမည်နည်း။

❖❖❖

(١) أخرجه النسائي في سننه : "باب زكاة الخيل " ر:٢٤٦٨

## الحديث السادس و الثلاثون

## (၃၆) အမျိုးသမီးတို့၏ လက်ဝတ်တန်ဆာများအပေါ် ဇကားသ်

عن عبد الله بن عَمْرِو بْنِ الْعَاصِ رضي الله عنه : " أنَّ امرأةً من أهل اليَمَن أتَتْ رسولَ الله صلى الله عليه و سلم ؛ وَبنتٍ لها ، في يدِ ابْنَتِهَا مَسَكَتَان غليظتان مِنْ ذَهَبٍ ، فقال : " أتُؤَدِّيْنَ زكاةَ هذا " ؟ قالت: " لا " ، قال : " أَيَسُرُّكِ أن يُسَوِّرَكِ اللّٰهُ عز و جل بِهِمَا يومَ القيامة سِوَارَيْنِ من نار ، قال : " فَخَلَعَتْهُمَا فَأَلْقَتْهُمَا إلى رسول الله صلى الله عليه و سلم ، فقالت : " هُمَا لله ولِرَسُولِه صلى الله عليه و سلم". (رواه النسائي) (١)

ဟဇရသ်အဗ္ဗဒုလ္လာဟ်ဗင်န် အမ်ရ် رضي الله عنه သခင်ဆင့်ပြန်ခဲ့သည်။ ယီမင်နိုင်ငံမှ အမျိုးသမီးတစ်ဦးသည် မိမိသမီးနှင့်အတူ ကိုယ်တော်မြတ်ﷺထံ အခစားဝင်ခဲ့သည်။ သူမသမီးလက်တွင် ရွှေလက်ကောက်ကြီးနှစ်ကွင်းဝတ်ဆင်ထားသည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ က'' အသင်မဤလက်ကောက်များအတွက် ဇကားသ်ပေးပြီးပြီလား။''ဟုမေးတော်မူရာ အမျိုးသမီးက မပေးဆောင်ရသေးပါဟု ပြန်လည်ဖြေကြားခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ် ﷺ က ''ကေယာမသ်နေ့တွင် (ဇကားသ်မထုတ်ဘဲဝတ်ဆင်ထားသည့် လက်ကောက်နှစ်ကွင်းအစား)မီးလက်ကောက် နှစ်ကွင်းဝတ်ဆင်ပေးခြင်းကို အသင်မ' နှစ်ခြိုက်ပါသလား၊''ဟုမေးမြန်းတော်မူခဲ့သည်။ (ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီ)ကပြောပြသည်။ ထိုအမျိုးသမီးသည် ချက်ချင်း မိမိလက်ကောက်နှစ်ကွင်းအားချွတ်ပစ်လိုက်ပြီးနောက် ကိုယ်တော်မြတ်ﷺကို ဆက်သပြီး''ဤလက်ကောက်နှစ်ကွင်းသည် အလ္လာဟ်နှင့်အလ္လာဟ့်ရစူလ်အတွက်ဖြစ်သည်။''ဟု လျှောက်ထားခဲ့သည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်အရရွှေလက်ဝတ်တန်ဆာများပေါ်တွင်လည်း ဇကားသ်တာဝန်ရှိကြောင်းသိရသည်။ ရွှေလက်ဝတ်တန်ဆာများကို သိမ်းထားသည်ဖြစ်စေ၊

ဝတ်ဆင်ထားသည်ဖြစ်စေ၊ အရောင်းအဝယ်နီယသ်ပါသည်ဖြစ်စေ၊မပါသည်ဖြစ်စေ နှစ်စဉ် ထိုအရာများအပေါ် ဇကားသ်ပေးရန်တာဝန် ရှိနေမည်သာဖြစ်သည်။ တစ်ကြိမ် ပေးလိုက်ရုံမျှဖြင့် မလုံလောက်ပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ဆင်စွယ်၊ချိုများဖြင့်ပြုလုပ်ထားသောလက်ကောက် | مَسَكَةٌ (ج) مَسَكٌ |
| တုတ်ခိုင်သော | غَلِيْظَةٌ (ج) غِلَاظٌ |
| ပျော်ရွှင်စေခြင်း | سرَّ (ن) سُرُوْرًا |
| လက်ကောက်ဝတ်ပေးခြင်း | سَوَّرَ (تفعيل) |
| လက်ကောက် | سِوَارٌ (ج) أَسْوِرَةٌ |
| ချွတ်ခြင်း | خلع (ف) خَلْعًا |
| ကမ်းပေးခြင်း၊ပစ်ချခြင်း၊ဆက်သခြင်း | ألقى (إفعال) [إلى] |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

## عبد الله بن عمرو بن العاص رضي الله عنهما

عبد الله بن عمرو رضي الله عنهما သခင်သည် ကိုရိုင်းရှ်မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဖခင်ထက်အလျှင် အစ္စလာမ်လက်ခံခဲ့သည်။ ဂုဏ်ထူးဆောင် အမည်မှာ أبو محمد ဖြစ်သည်။ ဟစ်ဂျ်ရသ် မတိုင်မီ(၇)နှစ် မွေးဖွားခဲ့သည်။

နေ့တွင်ရိုဇာထားပြီးညတွင်အေဗာဒသ်၌မွေ့လျော်ခဲ့သည်။ ဟဒီးဆ်တော်များကို ရေးမှတ်ခဲ့သည့်ဆွဟာဗီလည်းဖြစ်သည်။ عبادلة (၄) ပါးအနက် တစ်ပါးဖြစ်သည်။ ကိုယ်တော်မြတ်ﷺနှင့်အတူ သာသနာ့ကြိုးပမ်းမှုအများစုတွင် ပါဝင်ဆင်နွှဲခဲ့သည်။

သက်တော်(၆၈)နှစ်၊ဟစ်ဂျ်ရီ(၅၈)ခုနှစ်တွင် သွာအိဖ်မြို့၌ ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၇၀၀)ဆင့်ပြန်ခဲ့သည်။

မှတ်ချက်။ ။ عبـد الله بـن عَمْرٍو နှင့် عبـد الله بـن عُمَرَ ခွဲခြားနိုင်ရန်
عَمْرٌو တွင် و တပ်ပေးရသည်။ (٢)

**လေ့ကျင့်ခန်း**

(၁) ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

(၂) ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

(၃) سيدنا عبد الله بن عمرو رضي الله عنه အကြောင်းရေးသားပါ။

(၄) عبادلة (၄) ပါးတို့၏အမည်များကို ရေးသားပါ။

(၅) အုမရ်နှင့် အမ်ရ် မည်သို့ ခွဲခြားမည်နည်း။

❁❁❁

(١) أخرجه النسائي في سننه : " باب زكاة الحلي" . ر: ٢٤٧٩

(٢) رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب" لابن حجر.
أسماء الصحابة الرواة ومالكل واحد منهم من العدد
الأعلام للزركلي

# الحديث السابع والثلاثون

## (၃၇) ဥစ္စာပစ္စည်းအား တစ်နှစ်အပြည့် ပိုင်ဆိုင်မှသာ ဇကားသ်တာဝန်ရှိခြင်း

عـن عائشة رضي الله عنها قالت : " سمعتُ رسولَ الله صلى الله عليه و سلم يقُوْلُ :" لا زكاةَ في مالٍ حتى يحولَ عليه الْحَوْلُ ." (رواه ابن ماجة) (١)

ဟဇရသ်အာအေရှာ رضي الله عنها အမိန့်ရှိခဲ့သည်။ ကျွန်မသည် ကိုယ်တော်မြတ် ﷺ ဤသို့မိန့်ကြားတော်မူခဲ့သည်ကိုကြားသိခဲ့ရသည်။( အစ္စလာမ့်ခုနှစ်ဖြင့်) တစ်နှစ်ပတ်လည်ပိုင်ဆိုင်ထားသောဥစ္စာပစ္စည်းပေါ်တွင် ဇကားသ်တာဝန်ထိုက်မည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်မြတ်အရ ဥစ္စာပစ္စည်းကို အစ္စလာမ့်ခုနှစ်ဖြင့် တစ်နှစ်ပတ်လည်ပိုင်ဆိုင်မှသာ ဇကားသ်တာဝန် ထိုက်မည်ဖြစ်ကြောင်းသိရသည်။ တစ်နှစ်မပြည့်မီ တာဝန်မထိုက်သေးပါ။ တစ်နှစ်အတွင်းတိုးပွားလာသော ဥစ္စာပစ္စည်းများကိုပါ ဇကားသ်ထုတ်ရာတွင် ထည့်သွင်းထုတ်ပေးရမည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| حال (ن) حوْلا [على] | နှစ်ပတ်လည်ခြင်း |
| حَوْلٌ (ج) أحْوَالٌ | တစ်နှစ်အပြည့် |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွအလွတ်ရေးသားပါ။

၂။ တစ်နှစ်ပတ်လည်ခြင်းမှာ မည်သည့်နှစ်ပေါ်အခြေခံထားသနည်း။

၃။ سيدتنا عائشة رضي الله عنها သခင်မအကြောင်းအရဗီလို(၁၀)ကြောင်းရေးပါ။

❁❁❁

(١) أخرجه ابن ماجةفي سننه :"باب من استفاد مالا" ، ر:١٧٩٢

## الحديث الثامن و الثلاثون

## (၃၈) ရောင်းဝယ်ရန်နိယသ်ဖြင့် ဝယ်ယူထားသော ဥစ္စာတိုင်းအပေါ် ဇကားသ်တာဝန်

عـن سَـــــمُرَةَ بنِ جُنْدُبٍ رضي الله عنه قال : " فإن رسولَ الله صلى الله عليه وسلم كان يأمُرُنا أن نُخْرِجَ الصَّدَقَةَ مِنَ الذي نُعِدُّ لِلْبَيْعِ". (رواه أبوداود)[1]

ဟဇရသ်စမုရဟ်သခင်ထံမှ ဤသို့ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် ကျွန်ုပ်တို့အား ရောင်းဝယ်ရန်နိယသ်ဖြင့်ဝယ်ယူထားသော ဥစ္စာပစ္စည်းကိုသာ ဇကားသ်ထုတ်ရန် အမိန့်ပေးလေ့ရှိခဲ့သည်။

### အကျိုးကျေးဇူး

မြတ်လျှင်ရောင်းမည်ဟူသောနိယသ်ဖြင့် ဝယ်ယူထားသောပစ္စည်းတိုင်းတွင် ဇကားသ်ပေးဆောင်ရန်တာဝန်ရှိသည်။ ပစ္စည်းတစ်ခုကိုစတင်ဝယ်ယူစဉ် ပြုသောနိယသ်သည် အဓိကကျသည်။ ဝယ်ယူစဉ်ပြန်ရောင်းမည်ဟူသောနိယသ်မပါဘဲ နောက်မှပြန်ရောင်းဖြစ်သွားသည့် ပစ္စည်းများမပါဝင်ပေ။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| أعدَّ (إفعال) | အသင့်ပြုခြင်း၊ သတ်မှတ်ထားခြင်း |

### ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## سيدنا سمرة بن جندب رضي الله عنه

سمـــرة بن جندب رضي الله عنه သည် ဗနူဖဇာရဟ်မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبـو سـعيد ဖြစ်ပြီး မဒီနာမြို့တွင် ကြီးပြင်းလာခဲ့သည်။

သခင်နှင့်ပတ်သက်ပြီး သမာဓိရှင်၊မှန်သောစကားဆိုသူ၊ အစ္စလာမ်နှင့် မွတ်စ်လင်မ်တို့ကို နှစ်နှစ်ကာကာချစ်မြတ်နိုးသူဖြစ်ကြောင်း သမိုင်းက သက်သေခံခဲ့သည်။ ဗဆွရဟ်မြို့နှင့်ကူဖာမြို့တို့ကို(၆)လစီအုပ်ချုပ်ခွင့်ရခဲ့သည်။ ကိုယ်တော်မြတ် ﷺ

ထံမှဟဒီးဆ်တော်ပေါင်း(၁၂၃)ပုဒ်ဆင့်ပြန်ခဲ့သည်။ သခင်သည် ကိုယ်တော်မြတ်ﷺ ကြိုတင်မိန့်ကြားခဲ့သည့်အတိုင်း ရေနွေးအိုးထဲတွင်ပြုတ်ကျပြီး ဟစ်ဂျ်ရီ(၅၈)ခုနှစ်တွင် ဗဆွရဟ်မြို့၌ပင် ကွယ်လွန်ခဲ့သည်။ [2]

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

၃။ ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်းကို ရေးသားပါ။



(١) أخرجه أبوداود في سننه : " باب العروض إذا كانت للتجارة هل فيها من زكاة". ر:١٥٦٤

(٢) رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب" لابن حجر.
أسماء الصحابة الرواة ومالكل واحد منهم من العدد ، الأعلام للزركلي

## الحديث التاسع و الثلاثون

## (၃၉)ကြိုတင်ဇကားသ်ထုတ်ခြင်း

عن علي بن أبي طالب ﷺ :" أن الـعباسَ رضي اللّٰه عنه سألَ النبيَّ صلى اللّٰه عليه و سلم في تَعْجِيْلِ صدَقَتِهِ قبلَ أن تَحِلَّ ؛ فرَخَّصَ لَهٗ في ذلك ".

(رواه ابن ماجة)[١]

ဟဇရသ်အလီ ﷺ သခင်ဤသို့ဆင့်ပြန်ခဲ့သည်။ ဟဇရသ်အဗ္ဗါးစ်ﷺ သခင်သည် ကိုယ်တော်မြတ် ﷺ ထံ ဇကားသ်ပေးချိန်မတိုင်မီ ကြိုတင် ဇကားသ်ထုတ်ထားရန် မေတ္တာရပ်ခံခဲ့ရာ ကိုယ်တော်မြတ်ﷺက သခင့်အား ခွင့်ပြုပေးခဲ့သည်။

**အကျိုးကျေးဇူး**

ဇကားသ်နိဆွာဗ်ပိုင်ဆိုင်သူတစ်ဦးတစ်ယောက်သည် နှစ်ပတ်မလည်မီ(သို့) လာမည့်နှစ်များအတွက် ဇကားသ်ကြိုထုတ်ထားလိုလျှင်ပိုင်သည်။သို့သော် ယင်းနှစ်များတွင် ပိုင်ဆိုင်မှုပမာဏသည် မိမိကြိုတင်ထုတ်ခဲ့သော ဇကားသ်ထက်ပို၍ တိုးလာခဲ့လျှင် ထိုတိုးလာသော ဥစ္စာအတွက်သီးသန့် ထပ်၍ဇကားသ်ထုတ်ရမည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| مေတ္တာရပ်ခံခြင်း | سأل (ف) سؤالا |
| လျှင်မြန်စွာပြုလုပ်ခြင်း၊ ကြိုတင်လုပ်ခြင်း | عجل (تفعيل) |
| ခွင့်ပေးခြင်း၊လျှော့ပေးခြင်း | رخص (تفعيل) |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်အကျိုးကျေးဇူးများနှင့်တကွ အလွတ်ရေးသားပါ။

၂။ ဖော်ပြပါစကားလုံးများကို အသုံးပြု၍ ဝါကျဖွဲ့ပါ။ سأل ـ رخص ـ عجل

၃။ سيدنا علي ﷺ ၏ အကြောင်းကို(၁၀)မျက်နှာခန့် စာတမ်းပြုစုပါ။

❁❁❁

[١] أخرجه ابن ماجة في سننه : "باب تعجيل الزكاة قبل محلها"، ر:١٧٩٥

# الحديث الأربعون

## (၄၀) ဇကားသ်ယူထိုက်သည့် ပုဂ္ဂိုလ်များ

عـن زِيـادِ بْنِ الحارث الصُّدَائِيْ رضي الله عنه قال : قال رسول الله صلى الله عـليـه وسـلـم : " إن اللهَ تَـعالى لَمْ يَرْضَ بِحُكْمِ نَبِيٍّ ولا غَيْرِهِ في الصَّدَقَاتِ ؛ حَتّٰى حَكَمَ فيها هُوَ ، فَجَزَّأَهَا ثَمَانِيَةَ أَجْزَاءٍ ". (رواه أبو داود ) (١)

ဟဇရသ်ဇိယားဒ်ဆိုဒ်ဒါအီ رضي الله عنه သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺသည်(ဇကားသ်လာရောက်တောင်းခံသူတစ်ဦးအား)ဤသို့အမိန့်ရှိခဲ့သည်။"မြင့်မြတ်တော်မူသောအရှင်မြတ်သည် (ဇကားသ်ယူထိုက်သည့်ပုဂ္ဂိုလ်များ)အား သတ်မှတ်ရာတွင် နဗီနှင့်အခြားသူတစ်ဦးတစ်ယောက်၏ သတ်မှတ်ချက်ကိုမှ နှစ်မြို့တော်မမူဘဲ ကိုယ်တိုင်သတ်မှတ်တော်မူခဲ့သည်။ သို့ရှိရာ ဇကားသ်ပေးထိုက်သည့်နေရာများကို(၈)ခုခွဲ၍ သတ်မှတ်ပေးခဲ့သည်။

### အကျိုးကျေးဇူး

ဇကားသ်ပေးထိုက်သည့်နေရာ(၈)ခုသည် ကျမ်းမြတ်ကုရ်အာန် စူရဟ်သောင်ဗ်ဗဟ်၊အာယသ်(၆၀)တွင်အတိအလင်း ပါရှိသည်။ ၎င်းတို့မှာ -

(၁) ဇကားသ်၏နိဆွာဗ်ကိုမပိုင်သော ဆင်းရဲနွမ်းပါးသူ

(၂) ပစ္စည်းမဲ့သူ

(၃) ဇကားသ်နှင့်ပတ်သက်သည့် ကိစ္စအဝဝတို့ကို ဆောင်ရွက်ပေးသူ

(၄) သာသနာ့ဘောင်အတွင်းသို့ဝင်ရောက်လိုသူများ၏ စိတ်ကိုနှစ်သိမ့်ရန်

(၅) ကျေးကျွန်များ ကျွန်ဘဝမှ လွတ်မြောက်စေရန်

(၆) အကြွေးပိနေသူ

(၇) အလ္လာဟ်အရှင်မြတ်လမ်းတော်၌ရှိသူ

(၈) ဒုက္ခရောက်နေသော ခရီးသည်များ

အထက်ပါအချက်(၈)ချက်တွင် အမှတ်စဉ်(၄)မှအပ ကျန်အမျိုးအစားတွင် ပါဝင်သူများကို ဇကားသ်ပေးနိုင်သည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ခွဲခြမ်းစိတ်ဖြာခြင်း | جزّء (تفعيل) |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

## زياد بن الحارث الصدائي رضي الله عنه

زياد بن الحارث رضي الله عنه သခင်သည် ယီမင်နိုင်ငံ စိုဒါအ် မြို့သားဖြစ်သည်။ ကိုယ်တော်မြတ်ﷺ၏ ရှေ့လက်တော်ပေါ်တွင် အစ္စလာမ်နှင့်ပတ်သက်ပြီး သစ္စာနှုံခဲ့သည်။ မိမိမျိုးနွယ်စုတစ်ခုလုံးကို အစ္စလာမ်ဘက်သို့ဖိတ်ခေါ်ခဲ့ရာ အားလုံး အစ္စလာမ်လက်ခံခဲ့သည်။ ကိုယ်တော်မြတ်ﷺနှင့်အတူ ခရီးထွက်ခွင့်ရခဲ့သည်။ ထိုခရီးစဉ်တွင်ကိုယ်တော်မြတ်ﷺ၏ မုအ်ဂျေဇာတော်များထွက်ပေါ်ခဲ့သည်။ ကိုယ်တော်မြတ်၏အမိန့်တော်ဖြင့် အဇာန်နှင့်အေကာမသ်ဆိုခွင့်ရရှိခဲ့သည်။ အီဂျစ်နိုင်ငံတွင် စတည်းချတော်မူခဲ့ပြီး အီဂျစ်နိုင်ငံသားများသည် သခင့်ထံမှ ဟဒီးဆ်တော်များ ဆင့်ပြန်ခဲ့သည်။

ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၃)ပုဒ်ခန့် ဆင့်ပြန်ခဲ့သည်။ [٢]

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်မြတ်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးနှင့်တကွရေးသားပါ။

၂။ ဇကားသ်ပေးထိုက်သည့်နေရာ(၈)ခုပါသော အာယသ်တော်မြတ်ကိုရေးသားပါ။

၃။ ထို(၈)မျိုးအနက် မည်သည့်အမျိုးနှင့်ပတ်သက်၍ ပေးရန်မလိုအပ်တော့သနည်း။

❁❁❁

(١) أخرجه أبوداود في سننه : "باب من يعطى من الصدقة وحد الغنى" ر:١٦٣٢

(٢) أسماء الصحابة الرواة ومالكل واحد منهم من العدد ، معرفة الصحابة لأبي نعيم رواة التهذيبين : "تهذيب الكمال للمزي"، و"تهذيب التهذيب" لابن حجر

## الحديث الحادي والأربعون

## (၄၁) နံပါတ်ကိုယ်တော်မြတ် ﷺ ၏ အိမ်တော်သူ၊သားများကို ဇကားသ်မပေးပိုင်ခြင်း

عن العباس بن عبد المطلب رضي الله عنه قال : قال رسول الله صلى الله عليه وسلم : " إن هذه الصدقاتِ إنما هِيَ أَوْسَاخُ الناسِ، وإنها لا تَحِلُّ لِمُحمدٍ ولَا لِآلِ مُحمدٍ" . (رواه مسلم) (١)

ဟဇရသ်အဗ္ဗါးစ် رضـي الله عنـه သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ ''မုချဤဇကားသ်ပစ္စည်း၊ငွေများသည် လူတို့(ဥစ္စာ)၏ အညစ်အကြေးများဖြစ်သောကြောင့် မုဟမ္မဒ်နှင့် ထိုမုဟမ္မဒ်၏အိမ်သူ၊သားများအဖို့ မယူထိုက်ပါ။

### အကျိုးကျေးဇူး

ဇကားသ်ကဏ္ဍတွင်"စိုင်ယစ်ဒ်"ကိုယ်တော်မြတ် ﷺ၏ အိမ်တော်သူ၊သားများဆိုသည်မှာ ဗနူဟာရှင်မ်တို့ကိုဆိုလိုသည်။ ထိုဗနူဟာရှင်မ်စာရင်းတွင်-(၁)ဟဇရသ်အလီ၊(၂)ဟဇရသ်အကီးလ်၊(၃)ဟဇရသ်ဂျအ်ဖရ်၊(၄)ဟဇရသ်အဗ္ဗါးစ်၊(၅)ဟဇရသ်ဟာရိဆ် ﷺ တို့၏သား၊သမီးများပါဝင်သည်။ ၎င်းတို့အဖို့ နဖိလ်ဆွဒကဟ်နှင့်ဇကားသ်ယူခြင်း ဟရာမ်ဖြစ်သည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| وَسِخٌ (ج) أَوْسَاخٌ | အညစ်အကြေး |
| حل (ض) حلَالًا | ပိုင်ခြင်း |
| آل (اسم الجمع) | အိမ်တော်သူ၊သား |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## العباس بن عبد المطلب رضي الله عنه

العباس بن عبد المطلب رضي اللّٰهعنه သခင်သည် ကုရိုင်းရှ်မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبو الفضل ဖြစ်သည်။

ဟစ်ဂျ်ရသ်မတိုင်မီ(၅၁)ခု ခရစ်သက္ကရာဇ် (၅၆၉)ခုနှစ်တွင် မွေးဖွားခဲ့သည်။ အဗ္ဗါစီမင်းဆက်အားလုံးတို့၏ အဖိုးလည်းဖြစ်သည်။ ကိုယ်တော်မြတ်ﷺ ကိုယ်တိုင် သခင့်အား "ကုရိုင်ရှ်တွင် အရက်ရောဆုံးသောသူ၊ ဆွေမျိုးဆက်ဆုံးသူ၊ မှန်ကန်သော အတွေးပိုင်ရှင်၊ အသိဉာဏ်ကြွယ်ဝသူစသည်ဖြင့်ဂုဏ်ပြု"မိန့်ကြားခဲ့သည်။ ဟာဂျီများကို ရေတိုက်ကျွေးခြင်းနှင့် မတ်စ်ဂျေ့ဒ်ဟရာမ်ကိုစည်ကားစွာထားခြင်းတာဝန်များကို ပေးအပ်ခြင်းခံရသူလည်းဖြစ်သည်။ ဟုနိုင်းန်ကြိုးပမ်းမှုတွင် ကြံ့ကြံ့ခံ ပါဝင်ခဲ့သည်။

သခင်သည် မဒီနာရွှေမြို့တော်တွင် ဟစ်ဂျ်ရီ(၃၂)ခုနှစ်၊ ခရစ်သက္ကရာဇ်(၆၅၃) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၃၅)ပုဒ် ဆင့်ပြန်ခဲ့သည်။ (٢)

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကိုအဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ နဗီတမန်တော်မြတ်၏ အိမ်တော်သူ၊သားများမှာ မည်သူတို့နည်း၊

၃။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးကို ရေးသားပါ။

၄။ سيدنا عباس رضي الله عنه သခင်အကြောင်းရေးသားပါ။

❋❋❋

(١) أخرجه مسلم في صحيحه : " باب ترك استعمال آل النبى على الصدقة"، ر: ١٠٧٢

(٢) الهداية والإرشاد في معرفة أهل الثقة والسداد للكلاباذي.
الأعلام للزركلي.

## الحديث الثاني والأربعون

## (၄၂) ကောက်ပဲသီးနှံများအတွက် ဇကားသ်ထုတ်ခြင်း

عن جابر بن عبد الله رضي الله عنهما يقول: إن رسول الله صلى الله عليه و سلم قال: "فِيْما سَقَتْ السماءُ والأنهارُ والعُيُوْنُ العُشْرُ، وفِيْمَا سُقِيَ بِالسَّانِيَةِ نِصْفُ العُشْرِ". (رواه النسائي) (١)

ဟဇရသ် ဂျာဗိရ် رضـي الله عنـه သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူသည် ''ရေသွင်းစိုက်ပျိုးခြင်းမပြုရဘဲ မိုးရေချောင်းရေစမ်းရေတို့ဖြင့်သာ ပေါက်ရောက်သောသီးနှံများအတွက် ဆယ်ပုံတစ်ပုံဇကားသ်ထုတ်ရပြီး၊ တွင်းရေသွင်းပြီး စိုက်ပျိုးရသော သီးနှံများအတွက် အပုံနှစ်ဆယ်ပုံတစ်ပုံ ဇကားသ်ထုတ်ပေးရသည်။

### အကျိုးကျေးဇူး

အထက်ပါဟဒီးဆ်တော်တွင်ပါရှိသော အမိန့်သည်အုရှ်ရ်မြေအမျိုး အစားပေါ်တွင်ထွန်းကားလာသော သီးနှံများနှင့်သာသက်ဆိုင်သည်။

"အုရှ်ရ်မြေဆိုသည်မှာ"ကာဖိရ်တို့ကိုအောင်နိုင်၍ ရရှိလာသောမြေအား အမီးရ်က အစ္စလာမ်ဘာသာဝင်များကို ခွဲပေးထားသောမြေဖြစ်သည်။

တစ်ပိသာနှင့်တစ်ဆယ်သားထက်များသော သီးနှံများအပေါ်တွင်သာ အုရှ်ရ်ပေးရန်တာဝန်ရှိသည်။ အုရှ်ရ်ပေးရန်အတွက် တစ်နှစ်ပြည့်ရန်မလိုပါ။ သို့သာမက အုရှ်ရ်မြေပေါ်တွင် တစ်နှစ်လျှင် နှစ်ကြိမ်အသီးအနှံထွန်းကားပါက အကြိမ်တိုင်းတွင် ထိုသီးနှံအပေါ် ဇကားသ်ပေးရမည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| سقى (ض) سَقْيًا | တိုက်ကျွေးခြင်း |
| عَيْنٌ (ج) عُيُوْنٌ | စမ်းချောင်း |

| | |
|---|---|
| سانية (ج) سَوانٍ | ရေသယ်ကုလားအုတ် |
| عُشْرٌ | (၁၀)ပုံ (၁) ပုံ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ကျက်မှတ်ပြီး ရေးသားပါ။

၃။ အုရှ်ရီမြေ၏ အကြောင်းရှင်းပြပါ။

၄။ سيدنا جابر رضي الله عنه သခင်အကြောင်းကို အရဗီဘာသာဖြင့် ပြန်လည်ရေးသားပါ။



(١) أخرجه النسائي في سننه : " باب مايوجب العشر ومايوجب نصف العشر " ر:٢٤٨٩

# الحديث الثالث و الأربعون

## (၄၃) ဖိသ်ရာပေးဆောင်ခြင်းဆိုင်ရာ အမိန့်ပညတ်ချက်များ

عن ابن عمر رضي الله عنهما قال : " فَرَضَ رسولُ الله صلى الله عليه و سلم زكاةَ الْفِطْرِ صَاعًا مِنْ تَمْرٍ أو صاعا من شَعِيْرٍ ؛ على الحُرِّ والْعَبْدِ والذَّكَرِ والأُنْثى والصَّغِيْرِ والكَبِيْرِ منَ المسلمينَ ، وأَمَرَ بِهَا أن تُؤَدّى قَبْلَ خُرُوْجِ الناسِ إلى الصلاةِ" . (رواه النسائي) (١)

ဟဇရသ်အိဗ်နေ့အုမရ် رضي الله عنهما သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ကိုယ်တော်မြတ်ﷺသည် မွတ်စ်လင်မ်သခင်၊ ကျွန်၊ အမျိုးသား၊ အမျိုးသမီး၊ ကလေး၊ လူကြီးအားလုံးအပေါ် စွံပလွံသီး၊မုယောဆန်တို့မှ(၂ပိဿာ၂၀သား)ကို ဖိသ်ရဟ်ကြေး အဖြစ်ပေးဆောင်ရန် သတ်မှတ်ပြဌာန်းခဲ့သည်။ ထို့အတူ အီးဒ်နမားဇ်ဖတ်ရန် မထွက်ခွာမီ အလျှင် ဖိသ်ရာကြေးပေးခဲ့ရန်လည်း မိန့်မှာတော်မူခဲ့သည်။

### အကျိုးကျေးဇူး

ကိုယ်တော်မြတ်ﷺသည် ရိုဇာထားသူတစ်ဦးရိုဇာထားစဉ် ချွတ်ချော်ခဲ့သော ကိစ္စများနှင့်လစ်ဟာခဲ့သောကွက်လပ်များကို ဖြည့်စွက်ရန် ဟစ်ဂျ်ရီ(၂)ခုနှစ် အီးဒ် မတိုင်ခင်(၂)ရက်အလိုတွင် ဖိသ်ရာကြေးပေးရန် အမိန့်ရှိခဲ့သည်။ ဖိသ်ရာနှင့်ပတ်သက် သည့်အချို့သော ပညတ်ချက်များမှာ -

(၁) ဇကားသ်၏နိဆွားဗ်ကိုပိုင်ဆိုင်သော ချမ်းသာသည့် အီမာန်ရှင်တိုင်း အပေါ်တွင် ဖိသ်ရာကြေးပေးရန် ဝါဂျိဗ်ဖြစ်သည်။

(၂) ဇကားသ်တာဝန်မရှိသော်လည်း ရွှေခုနှစ်တိုလာခွဲ(၂၀၁၅)ခု ပေါက်ဈေး အရ ငွေ(၄၃၅၀၀၀)ကျပ်နှင့်ညီမျှသောအပိုပစ္စည်းများ ပိုင်ဆိုင်ခဲ့လျှင်လည်း ထိုသူ့ အပေါ်တွင် ဖိသ်ရာကြေးပေးရန် ဝါဂျိဗ်ဖြစ်သည်။

(၃) ထိုအပိုပစ္စည်းသည် ရောင်းဝယ်ဖောက်ကားရန်ဖြစ်စေ၊ အိမ်သုံးအပို ပစ္စည်းဖြစ်စေ၊ တစ်နှစ်ပြည့်သည်ဖြစ်စေ၊မပြည့်သည်ဖြစ်စေ အတူတူပင်ဖြစ်သည်။

(၄) အကြောင်းအမျိုးမျိုးကြောင့် ရှိဇာမထားနိုင်သူအပေါ်လည်း ဖိသ်ရာပေး ဆောင်ရန် စည်းကမ်းချက်များနှင့်ကိုက်ညီပါက ဖိသ်ရာပေးရန်ဝါဂျိဗ်ဖြစ်သည်။

(၅) လူတစ်ဦးသည် အီးဒ်နေ့မတိုင်မီ ရမ်ဇာန်လထဲတွင် ဖိသ်ရာကြိုပေးလိုက လည်းပေးနိုင်သည်။ အီးဒ်နေ့တွင် ထပ်မံပေးရန်မလိုပါ။

(၆) ဂျုံမှုန့်၊ဂျုံစေ့ပေးလိုက လူတစ်ယောက်ဘက်မှ (၁ပိဿာနှင့်၁၀)သား(သို့) ယင်း၏ကာလတန်ဖိုးကိုပေးရမည်။

(၇) မုယောဆန်၊စွံပလွံသီး၊ စပျစ်ခြောက်၊ ဒိန်ခဲတို့ကိုပေးလိုက လူတစ် ယောက်ဘက်မှ (၂ပိဿာနှင့်၂၀)သား(သို့) ယင်း၏ ကာလတန်ဖိုးကိုပေးရမည်။

(၈) အီးဒ်နမားဇ်မတိုင်မီဖသ်ရာကြေးမပေးမိလျှင် အီးဒ်နမားဇ်ပြီးတွင်ပြန်ပေးရမည်။

(၉) လူတစ်ဦး၏ ဖိသ်ရာကို ဆင်းရဲသားတစ်ယောက်တည်းအား ပေးလိုက် ခြင်း(သို့)ဆင်းရဲသားအမြောက်အမြားတို့အား ခွဲဝေပေးခြင်းနှစ်မျိုးလုံးပိုင်သည်။

**ကျက်မှတ်ရန် ဝေါဟာရများ**

| | |
|---|---|
| ဖစ်သ်ရာကြေး | زكاة الْفِطْرِ |
| ဝါလွှတ်ခြင်း၊ဝါကျွတ်ခြင်း | فِطْرٌ |
| မုယောဆန် | شعِيْرٌ (اسم الجمع) |
| လွတ်လပ်သူ/ကျွန်မဟုတ်သူ | حُرٌّ (ج) أَحْرَارٌ |
| ကျွန် | عَبْدٌ (ج) عَبِيْدٌ |
| အမျိုးသား | ذَكَرٌ (ج) ذُكُوْرٌ |
| အမျိုးသမီး | أُنْثٰى (ج) إِنَاثٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွ ကျက်မှတ်ရေးသားပါ။

❁❁❁

(١) أخرجه النسائي في سننه : "باب فرض زكاة رمضان على المسلمين دون المعاهدين" ر:٢٥٠٤

## الحديث الرابع والأربعون

## (၄၄) မထိုက်သူအား ဇကားသ်ပေးမိခြင်း

عن أبي هريرة رضي اللهعنه عن رسول الله صلى الله عليه و سلم ؛ وقال : " قال رجلٌ لَأَتَصَدَّقَنَّ بِصَدَقَةٍ فخرج بِصَدَقَتِهِ فَوَضَعَهَا ...... في يَدِ غَنِيٍّ، فأصبحوا يَتَحَدَّثُوْنَ تُصُدِّقَ على غني، قال اللّٰهم لك الحمد ...... على غني فأتى؛ فقيل له : أما صَدَقَتُكَ فَقَدْ تُقُبِّلَتْ ،...... ولَعَلَّ الْغَنِيَّ أن يَّعْتَبِرَ فيُنْفِقَ مما أعطاه الله عزَّ وَجَلَّ ".(رواه النسائي ) (١)

ဟဇရသ် အဗူဟုရိုင်ရဟ် رضـي الله عنه သခင်ထံမှ ဆင့်ပြန်ချက် လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည်(အကြောင်းအရာတစ်ခု)ကို ဤသို့ပြောပြခဲ့သည်။ ''ပုဂ္ဂိုလ်တစ်ယောက်သည် မိမိလှူဒါန်းမည့်ဒါနကြေးကိုယူဆောင်ပြီး(အမှောင်ယံတွင်)ကျွန်ုပ်ဒါနတစ်ခုမုချပြုလုပ်မည်ဟုပြောကာ ထွက်ခွာခဲ့သည်။ သို့သော် ထိုဒါနကြေးအား သူဌေးကိုပေးမိခဲ့သည်။ မိုးလင်းသောအခါ ''(ညက) သူဌေးဒါနကြေးရသွားခဲ့ပြီ''ဟု လူအများ ပြောဆိုနေကြသည်ကိုကြားပြီး''အိုအရှင်သူဌေးကို ဒါနကြေးပေးမိခြင်းအပေါ် အရှင်မြတ်အား ချီးကျူးမိပါသည်''ဟု ပြောပြီးလာခဲ့သည်။ ထိုအခါအကွယ်မှ''အသင်၏ ဒါနကြေးမှာမူ လက်ခံခြင်းခံရလိုက်ပြီ၊ သူဌေးမှာ သံဝေဂတရားရပြီး အရှင်မြတ်ချီးမြှင့်ထားသော ဥစ္စာများကို လှူဒါန်းလာလိမ့်မည်'' ဟုပြောခြင်းခံခဲ့ရသည်။

### အကျိုးကျေးဇူး

ဖေကဟ်သာသနာ့ပညာရှင်ကြီးများသည် ဤဟဒီးဆ်တော်မှ မထိုက်သူအား ထိုက်သူဟုယုံကြည်ပြီး ဇကားသ်ပေးမိလျှင်ပေးသူ၏ ဇကားသ်မှာမူ အထမြောက်သွားမည်ဖြစ်ပြီး လက်ခံရရှိသောသူကဇကားသ်မစားထိုက်သူဖြစ်နေပြီး ဇကားသ်ငွေဖြစ်ကြောင်းသိသွားလျှင် အခြားယူထိုက်သူတစ်ဦးအားအမြန်ပေးလိုက်ရမည်။

ဇကားသ် ရယူသော သူဌေးသည် ဇကားသ်ယူချိန်တွင် ဇကားသ်ဟုမထင်မှတ်

ဘဲ ရယူခဲ့ပြီး နောက်မှဇကားသ်ဖြစ်ကြောင်း သိရှိရလျှင် ၎င်းအတွက် ထိုဇကားသ် ငွေကြေးကို သုံးစွဲခွင့်ရှိ၏။ အခြားသူအား ပေးရန်မလိုအပ်ပါ။

အချုပ်ဆိုရသော် ဇကားသ်ပေးသူသည် စုံစမ်းစစ်ဆေးခြင်း မပြုဘဲ မိမိ ဇကားသ်ကို လုံး၀ မပေးသင့်ပါ။ စုံစမ်းခြင်းမပြုဘဲ သံသယဖြင့် ဇကားသ်ပေးမိပါက လက်ခံရရှိသူမှာဆင်းရဲမည်ဟု အထင်များလျှင် ဇကားသ်ပိုင်သွားပြီး၊ ထိုသူသည်ချမ်းသာမည်ဟု အထင်များလျှင် ဇကားသ်မပိုင်သောကြောင့် ထပ်မံဇကားသ်ပေးရမည် ဖြစ်သည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| လက်ခံပေးခြင်း | تقبل (تفعل) |
| သံ၀ေဂယူခြင်း | اعتبر (افتعال) |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်မြတ်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်မြတ်၏ အကျိုးကျေးဇူးများကို ရေးပါ။

၃။ سيدنا أبو هريرة رضي اللهعنه သခင်အကြောင်းပြောပြပါ။

၄။ အကျိုးကျေးဇူးတွင် ရေးသားထားသည့် ဇကားသ်ပိုင်ခြင်းနှင့် မပိုင်ခြင်းဆိုင်ရာ ကွာခြားချက်ကို ရှင်းပြပါ။

❀❀❀

(١) أخرجه النسائي في سننه : " باب إذا أعطاها غنيا وهو لا يشعر". ر: ٢٥٢٣

## الحديث الخامس والأربعون

## (၄၅) တစ်မြို့မှဇကားသ်ကို အခြားမြို့သို့ပို့ဆောင်ခြင်း

عـن عطاء بن أبي ميمونة رحمه الله أن زيادا أو بعضَ الأمراء بَعَثَ عمرانَ بن حُصَيْنٍ رضي الله عنه على الصدَقَةِ ، فلَمَّا رَجَعَ ؛ قال لِعِمْرَان : " أين المالُ ؟ " ، قـال : " ولِلْمَالِ أَرْسَلْتَنِيْ؟ " ؛ أَخَذْنَاهَا من حيثُ كُنَّا نَأخُذُهَا على عهدِ رسولِ الله صلى الله عليه وسلم، ووَضَعْنَاهَا حيثُ كُنَّا نَضَعُهَا على عهدِ رسول الله صلى الله عليه وسلم." (رواه أبوداود) (١)

ဟဇရသ်အသွာ رحمه الله သခင်ထံမှ ဤသို့ ဆင့်ပြန်ချက်လာရှိသည်။ ဇိယားဒ်(သို့)အခြားသောခေါင်းဆောင်အချို့သည် ဟဇရသ်အိမ်ရားန် رضي الله عنه သခင်အား ဇကားသ်ကောက်ခံရန် စေလွှတ်ခဲ့သည်။ သခင်ကောက်ခံပြီး ပြန်ရောက်လာသောအခါ ၎င်းစေလွှတ်သူက ''ဇကားသ်ငွေ အဘယ်တွင်ထားခဲ့သနည်း'' ဟု မေးမြန်းရာ သခင်က ''ဇကားသ်ငွေ (အသင့်ထံ) ယူဆောင်လာရန် ကျွန်ုပ်ကို စေလွှတ်ခဲ့သလော၊''

ကျွန်ုပ်တို့သည် ထိုဇကားသ်ငွေကို ကိုယ်တော်မြတ်ﷺ ခေတ်တွင် ကောက်ခံခဲ့သည့်နေရာမှ ကောက်ခံပြီး ကိုယ်တော့်လက်ထက်တွင် ပေးအပ်ခဲ့သည့်နေရာများတွင်သာ ပေးခဲ့လိုက်သည်။

### အကျိုးကျေးဇူး

ဖွေကာဟ်ပညာရှင်ကြီးများသည် ဤဟဒီးဆ်တော်မြတ်မှ''မြို့တစ်မြို့မှ ကောက်ခံထားသော ဇကားသ်ငွေကို အခြားမြို့သူ၊သားများက ပိုမိုလိုအပ်နေပါက ပြောင်းရွှေ့ပေးပို့နိုင်သည်''ဟု ထုတ်နှုတ်တင်ပြကြသည်။

အကြောင်းမဲ့မြို့တစ်မြို့၏ ဇကားသ်ကို အခြားမြို့သို့ပို့ခြင်းမှာ မက္ကရူးဟ်ဖြစ်သည်။ သို့သော် အခြားမြို့၌ဆင်းရဲသောသားချင်းများရှိလျှင် ၊ သို့မဟုတ် အခြားမြို့ရှိ လူများသည် မိမိမြို့ရှိ ဆင်းရဲသားများထက်ပို၍ ဦးစားပေးထိုက်လျှင် ၊ ထိုမြို့ရှိသူများ

သည် သာသနာ့တာဝန်ကို ဖောက်ချ ဆောင်ရွက်နေပြီး ဇကားသ်စားထိုက်သူများဖြစ်လျှင် အခြားမြို့သို့ပို့ပိုင်ခွင့် ရှိသည်သာမက ပို၍ပင်အကျိုးဆဝါးဗ်ရရှိမည်ဖြစ်သည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ခေတ်ကာလ | عَهْدٌ (ج) عُهُوْدٌ |
| ထားပေးခြင်း | وضع (ف) وضْعًا |

**ဟဒီးဆ်ဆင့်ပြန်သည့်သာဗေအီအကြောင်း**

## عطاء بن أبي ميمونة رحمه الله

عطاء بن أبي ميمونة رحمه الله သည် ဗဆွရဟ်မြို့နေ သာဗေအီ တစ်ပါးဖြစ်သည်။ ဟဇရသ်အနတ်စ်(သို့) ဟဇရသ် အိမ်ရားန်ဗင်န်ဟိုစွိုင်းန်တို့၏ သူကောင်းပြုခြင်းခံရသူလည်းဖြစ်သည်။ ဘွဲ့သညာမှ أبو معاذ ဖြစ်သည်။

အေမာမ်အဗူဒါဝူးဒ်၊အေမာမ်ရှုအ်ဗဟ်၊ အေမာမ်ဗိုခါရီတို့သည် သခင်ဆင့်ပြန်သောဟဒီးဆ်တော်များကို ပြန်လည်ဆင့်ပြန်ခဲ့သည်။

ဟစ်ဂျ်ရီ(၁၃၁)နောက်ပိုင်းတွင် ဗဆွရဟ်မြို့၌ပင် ကွယ်လွန်တော်မူခဲ့သည်။ (٢)

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်တွင် ပါရှိသည့် အခြားအကျိုးကျေးဇူးများကို စဉ်းစားပြီး ရေးသားပါ။

၃။ زياد ဆိုသည်မှာ မည်သူဖြစ်သနည်း။

၄။ ဟဒီးဆ်ဆင့်ပြန်ခဲ့သည့် သာဗေ့အီအကြောင်း အနည်းငယ်ရေးပါ။

❁❁❁

(١) أخرجه أبوداود في سننه : " باب في الزكاة هل تحمل من بلد إلى بلد"؛ ر: ١٦٢٧

(٢) رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب لابن حجر".

## الحديث الخامس والأربعون

### (၄၅) ဆွေးမျိုးသားချင်းများအား ဇကားသ်ပေးခြင်း၏အကျိုး

عـن سلمانَ بن عامر الضَّبِّيِّ رضي الله عنه عن النبي صلى الله عليه و سلم قال:"إن الصَّدَقَةَ على المسكينِ صَدَقَةٌ ، وعلى ذِيْ الرَّحِمِ اِثْنَتَانِ، صَدَقَةٌ ؛وَصِلَةٌ ". (رواه النسائي) (١)

ဟဇရသ်စလ်မာန်ဗင်န်အာမိရ်သခင်သည် ကိုယ်တော်မြတ် ﷺ မိန့်ကြားတော်မူခဲ့သည်ကို ဤသို့ဆင့်ပြန်ခဲ့သည်။ ''ဆင်းရဲသားများအား ဇကားသ်ပေးခြင်းဖြင့် ဇကားသ်ပေးခြင်း၏အကျိုးတစ်ခုရရှိမည်။ သားချင်းများအား ဇကားသ်ပေးခြင်းဖြင့် ဇကားသ်၏အကျိုးနှင့်ဆွေမျိုးဆက်ခြင်း၊ ဆွေမျိုးအပေါ်ကျေးဇူးပြုခြင်းဟူသော အကျိုးနှစ်ခုရရှိမည်ဖြစ်သည်။

### အကျိုးကျေးဇူး

ဇကားသ်ကိုမိမိ၏ အထက်ဆက်(မိဘ၊ဘိုးဘွား)၊အောက်ဆက်(သား၊မြေး၊မြစ်)၊ခင်ပွန်းက မိမိဇနီးကိုလည်းကောင်း၊ ဇနီးသည်က မိမိခင်ပွန်းကိုလည်းကောင်း ပေးပိုင်ခွင့်မရှိ။

သို့သော် ကျန်ရှိနေသည့် ဆွေမျိုးရင်းချာများ၊ ယောက္ခထီး၊ယောက္ခမများ၊ မိထွေး၊ပထွေးများကိုလည်းကောင်း ဇကားသ်ပေးပိုင်သည်။ ၎င်းတို့ကိုပေးခြင်းဖြင့် အကျိုးဆဝါးဗ်နှစ်ခုရရှိမည်ဖြစ်သည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| ဆွေမျိုးရင်းချာများ | ذو الرَّحِمِ |
| ဆွေမျိုးဆက်ခြင်း | وصل (ض) صِلَةً [الرحم] |

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## سيدنا سلمان بن عامر الضبي رضي الله عنه

سيدنا سلمان بن عامر الضبي رضي الله عنه - သည် ضَبَّة မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဗဆွရာမြို့ဗလီနားရှိ အိမ်တစ်လုံးတွင် နေထိုင်ခဲ့သည်။ အေမာမ်မွတ်စ်လင်မ်မှအပ အခြားသော ကျမ်းရှင်များသည် သခင်ဆင့်ပြန်သော ဟဒီးဆ်တော်များကို ဖော်ပြကြသည်။

အေမာမ်အိဗ်နေ့ဟဂျရ်၏ အဆိုအရ ضبة မျိုးနွယ်ဝင်ဆွဟာဗီတို့မှ(၂)ပါး(၃)ပါးသာလျှင်ရှိသည်။ အေမာမ်ဒုလာဗီ၏ အဆိုအရသခင်သည် အသက်(၁၀၀)တွင် ဂျမလ်စစ်ပွဲဖြစ်ပွားသည့်နေ့၌ပင် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၆)ပုဒ်ခန့် ဆင့်ပြန်ခဲ့သည်။(٢)

### လေ့ကျင့်ခန်း

(၁) ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊ အကျိုးကျေးဇူးများနှင့်တကွရေးပါ။

(၂) ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်းရေးသားပါ။

(၃) အစ္စလာမ့်သမိုင်းစာမျက်နှာများမှ ရှာဖွေပြီး جمل စစ်ပွဲအကြောင်းရေးပါ။

❁❁❁

---

(١) أخرجه النسائي في سننه : "باب الصدقة على الأقارب" ؛ ر:٢٥٨٢

(٢) الهداية والإرشاد في معرفة أهل الثقة والسداد للكلاباذي.
معرفة الصحابة لأبي نعيم .
رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب لابن حجر" .

## الحديث السابع والأربعون

## (၄၇) ဇကားသ်နှင့်ဆွဒကဟ်တွင် ပိုင်ဆိုင်မှုပြောင်းသောအခါ

عن أنس رضي الله عنه أن النبي صلى الله عليه وسلم أُتِيَ بِلَحْمٍ تُصُدِّقَ به على بَرِيْرَةَ ؛ فقال:" هُوَ عَلَيْهَا صَدَقَةٌ وَهُوَ لَنَا هَدِيَّةٌ " . (رواه البخاري) (١)

ဟဇရသ် အနတ်စ် رضي الله عنه သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ ထံ ဟဇရသ်ဘရီရဟ် رضي الله عنها အား ဆွဒကဟ်ပြုထားသည့်အသား ဆက်သခံရသည်။ ထိုအခါ ကိုယ်တော်မြတ်ﷺ က ''ထိုအသားသည် ဘရီရဟ်အတွက် ဆွဒကဟ်ဖြစ်ပြီး ကျွန်ုပ်တို့အတွက် ဟဒီယဟ်(လက်ဆောင်)ဖြစ်သွားမည်'' ဟု မိန့်ကြားခဲ့သည်။

### အကျိုးကျေးဇူး

ဟဇရသ်ဘရီရဟ် رضي الله عنها သခင်မသည် ဟဇရသ်အာအေရှာ သခင်မ၏ ကျွန်ဖြစ်သည်။ သခင်မကြောင့် မတ်စ်အလဟ်(၂၀)ကျော် သိရှိရသည်။ ဤဟဒီးဆ်တော်မှလည်း ပိုင်ဆိုင်မှုပြောင်းသွားပါက ပစ္စည်းဥစ္စာတို့၏ အမိန့်ပြောင်းသွားသည်ဟူသော အမိန့်ကိုသိရှိရသည်။ ကိုယ်တော်မြတ်ﷺအတွက် ဆွဒကဟ် ပစ္စည်းသည် မစားပိုင်။ သို့သော် ဤဆွဒကဟ် ပစ္စည်းသည် ဟဇရသ်ဘရီရဟ်မှ တဆင့် ကိုယ်တော်မြတ်ထံ ရောက်ရှိလာသောကြောင့် စားပိုင်သွားသည်။

ထိုနည်းတူ ဇကားသ်စားထိုက်သူတစ်ဦးလက်ဝယ်သို့ ဇကားသ်ငွေ ရောက်ရှိမည်။ ဆင်းရဲသားသည် မိမိသဘောဆန္ဒနှင့်ကြည်ဖြူစွာ သူဌေးအား ပြန်ပေးခဲ့လျှင် ထိုဇကားသ်ငွေသည် သူဌေးအတွက် ဇကားသ်မဟုတ်တော့ဘဲ ဆင်းရဲသားပေးသော လက်ဆောင်သာဖြစ်သွားမည်။

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွ ရေးသားပါ။

၂။ ဟဇရသ်ဘရီရဟ်ဆိုသည်မှာ မည်သူနည်း။

(١) أخرجه البخاري في صحيحه : "باب إذا تحولت الصدقة" . ر:١٤٩٥

# الحديث الثامن والأربعون

## ဆွဒကဟ်၏အမျိုးအစားများ

عن أبي موسى الأشعري رضي الله عنه عن النبي صلى الله عليه و سلم قال : "علىٰ كلّ مسلم صدقةٌ، قيل : " أرأيتَ إن لم يجدها ؟ " قال : " يعْتَمِل بيَدِه فيَنْفَعُ نفسَه ويَتَصَدَّقُ" ، قيل : " أرأيت إن لم يَفْعَل ؟ " قال : " يُعِيْنُ ذَا الحاجةِ الْمَلْهُوْفَ " ، قيل : " فإن لم يفعل ؟ " قال: " يَأْمُرُ بالخير " ، قيل : " أرأيت إن لم يفعل ؟ " قال: " يُمْسِكُ عن الشَّرِّ فإنها صدقةٌ ". (رواه النسائي) (١)

ဟဇရသ်အဗူမူစာအရှ်အရီ رضي الله عنه သခင်သည် ကိုယ်တော် မြတ် ﷺ ၏မိန့်ကြားချက်ကို ဤသို့ဆင့်ပြန်ခဲ့သည်။ မွတ်စ်လင်မ်တိုင်းအပေါ် ဆွဒကဟ်ပေးရန် တာဝန်ရှိသည်။ ထိုအခါ တစ်ဦးတစ်ယောက်က ''ဆွဒကဟ် ပေးနိုင်ခြင်းမရှိသောသူနှင့် ပတ်သက်ပြီး ကိုယ်တော်မည်သို့မိန့်ကြားမည်နည်း''ဟု မေးလျှောက်ရာ ကိုယ်တော်မြတ် ﷺ က ''မိမိလက်ဖြင့်အလုပ်လုပ်ပြီး မိမိကိုယ်ကိုလည်းအကျိုးပြုပြီးနောက် အခြားသူများကိုလည်း ဆွဒကဟ်ပေးပါ''။ ဤသို့မပြုလုပ်နိုင်သူနှင့်ပတ်သက်၍ ကိုယ်တော်မည်သို့ မိန့်မည်နည်းဟု မေးလျှောက်ရာ ''အကူအညီလိုအပ်ပြီး ဝမ်းနည်းကြေကွဲနေသူကို ကူညီပါ''ဟု ဖြေကြားခဲ့သည်။ ဤသို့ မပြုလုပ်နိုင်သူနှင့်ပတ်သက်၍ ကိုယ်တော်မည်သို့ မိန့်မည်နည်းဟု ဆက်လက်မေးလျှောက်ရာ ကိုယ်တော်က''ကောင်းရာညွှန်ကြားပါ''ဟု ဖြေကြားခဲ့သည်။ ဤသို့မပြုလုပ်နိုင်သူနှင့် ပတ်သက်၍ ကိုယ်တော်မည်သို့ မိန့်ကြားမည်နည်းဟု ထပ်မံမေးလျှောက်ရာ ''အဆိုးပြုခြင်းမှ မိမိကိုယ်ကိုထိန်းချုပ်ထားပါ၊ ထိုအချက်သည်ပင် ဆွဒကဟ်မည်၏ ''ဟု မိန့်ကြားခဲ့သည်။

## အကျိုးကျေးဇူး

အစ္စလာမ်သာသနာတော်သည် လူသားတို့အတွင်းရှိ စေးနည်းစိတ်၊ ဥစ္စာချစ်သောစိတ်တို့ကို ပပျောက်စေရန် ဇကားသ်ပေးဆောင်ခြင်းဖြင့်တစ်နည်း၊ ဆွဒကဟ်ပေး

ခြင်းဖြင့်တဖုံပြသထားပေသည်။ ဇကားသ်သည်တာဝန်အရဖြစ်ပြီး၊ ဆွဒကဟ်မှာ သဒ္ဓါတရားဖြင့်လှူဒါန်းခြင်းဖြစ်သည်။ ဤဟဒီးဆ်တော်မြတ်တွင် ငွေကြေးမတတ်နိုင်သောသူများသည်လည်း စိတ်အားငယ်ရန်မလိုဘဲ အခြားသောကိစ္စများဖြင့် ဆွဒကဟ်၏ ဆဝါးဗ်ရယူနိုင်ကြောင်းပါရှိသည်။ လူသားအချင်းချင်း ရိုင်းပင်းကူညီခြင်း၊ ကောင်းရာ ညွှန်ကြားခြင်း၊ပတ်ဝန်းကျင်ကို အဆိုးမပြုခြင်း စသည်တို့သည် ဆွဒကဟ်မြောက်စေသောလုပ်ရပ်များဖြစ်သည်။ အခြားဟဒီးဆ်တော်များတွင် လမ်းမှဒုက္ခဖြစ်စေသော အရာများကိုဖယ်ရှားခြင်း၊ ချိုသာသောစကားကိုဆိုခြင်းတို့သည်လည်း ဆွဒကဟ် မြောက်စေသော ကိစ္စများဖြစ်ကြောင်း လာရှိထားပေသည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| လက်လုပ်လက်စားလုပ်ခြင်း | اعتمل (افتعال) |
| ရိုင်းပင်းကူညီခြင်း | أعان (إفعال) |
| လိုအပ်ချက်ရှိသူ | ذو الحاجة |
| ကြေးကွဲဝမ်းနည်းနေသူ | مَلْهُوْفٌ (لهف (س) لَهْفًا[على] |
| ဆုပ်ကိုင်ခြင်း၊ထိန်းချုပ်ခြင်း | أَمْسَكَ (إفعال) |
| အဆိုး၊ အဆိုးပြုခြင်း | شَرٌّ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**سيدنا أبو موسى الأشعري (عبد الله بن قيس) رضي الله عنه**

سيدنا أبو موسى သည် အရှ်အရ် မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ အမည်မှာ عبد الله ဖြစ်သည်။ ကိုယ်တော်မြတ် ﷺ မက္ကာ၌ရှိနေစဉ် အစ္စလာမ် သာသနာလက်ခံခဲ့သည်။ထို့နောက်ဟဗ်ရှာသို့ ဟဗ်ဂျ်ရသ်ပြုခဲ့သည်။ ခိုင်ဗရ်အောင်နိုင်ပြီးနောက်မဒီနာသို့ ဟဇရသ်ဂျအ်ဖရ်နှင့်အတူသင်္ဘောဖြင့် ရောက်ရှိခဲ့သည်။

ကိုယ်တော်မြတ်ကိုယ်တော်တိုင် သခင့်အား ‘ဇိုင်ဗိုင်းဒ်’၊ ‘အဒ်န်’နှင့် ယီမင်နိုင်ငံကမ်းခြေများတွင် မြို့ဝန်အဖြစ်ခန့်အပ်ခဲ့သည်။ ဟဇရသ်အုမရ်သခင်ကလည်း သခင့်အားကူဖွာနှင့်ဘဆွရဟ်မြို့တို့ကို အုပ်ချုပ်စေခဲ့သည်။

ဆွဟာဗာတို့အနက် သာယာနာပျော်ဘွယ်ကောင်းသောအသံကို ပိုင်ဆိုင်သူတစ်ဦးဖြစ်သည်။ “အသင်သည် ဟဇရသ်ဒါဝူးဒ် عليه السلام ၏ သံစဉ်ချိုများအနက်သံစဉ်တစ်ခုကို ချီးမြင့်ခြင်းခံရသည်။” ဟု ကိုယ်တော်က အမိန့်ရှိခဲ့သည်။

သက်တော် (၆၃)နှစ် ဟစ်ဂျ်ရီသက္ကရာဇ်(၅၀)ခုနှစ်တွင် ကူဖွာမြို့နှင့်(၂)မိုင်ကွာ تَوْبَةْ ဟူသည့်နေရာ၌ ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း(၃၆၀)ပုဒ်ဆင့်ပြန်ခဲ့သည်။ (٢)

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

၃။ အသင်သည် မည်သည့်နည်းဖြင့် ဆွဒကဟ်ပြုလုပ်မည်နည်း။

၄။ سيدنا أبو موسى الأشعري အကြောင်းရေးပါ။

❀❀❀

(١) أخرجه النسائي في سننه : "باب صدقة العبد" ر:٢٥٣٨

(٢) معرفة الصحابة لأبي نعيم .
رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب لابن حجر" .
أسماء الصحابة الرواة ومالكل واحد منهم من العدد.

## الحديث التاسع و الأربعون

## (၄၉) အိပ်သွန်ဖာမှောက် မလှူဒါန်းရ

عَـن حَـكِيمِ بنِ حِزَامٍ رَضِىَ اللَّهُ عَنهُ عَن النَّبِىِّ صَلَّى اللَّهُ عَلَيهِ وَسَلَّمَ قَالَ : " اليَدُ العُليَا خَيرٌ مِن اليَدِ السُّفلَى ، وَابدَأ بِمَن تَعُوْلُ وَخَيرُ الصَّدَقَةِ عَن ظَهْرِ غِنًى وَمَن يَستَعفِفْ يُعِفَّهُ اللَّهُ وَمَن يَستَغنِ يُغنِهِ اللَّهُ " (رواه البخاري) (١)

ဟဇရသ် ဟကီးမ်ဗင်န်ဟေ့ဇားမ် رضـــي الله عــنـــه ဆင့်ပြန်ခဲ့သည် ။ ကိုယ်တော်မြတ်ﷺမိန့်တော်မူခဲ့သည်။ ''အပေါ်လက်(ပေးသောလက်)သည် အောက်လက်(ယူသောလက်)ထက် သာပိုကောင်းမွန်သည်။ မိမိအား မှီခိုနေသောမိသားစုဝင်များကိုစတင်ပေးကမ်းပါ။ အကောင်းဆုံးသော ပေးကမ်းခြင်းမှာ ပေးပြီးနောက်လည်း ပေးသူမှာ(ဆင်းရဲမသွားဘဲ)ချမ်းသာကြွယ်ဝမြဲဖြစ်သည့်ဆွဒကဟ်ဖြစ်သည်။ မည်သူမဆို သူတစ်ပါးထံတောင်းရမ်းခြင်းမှ ကင်းကင်းရှင်းရှင်းနေမည်ဆိုလျှင် ထိုသူ့ကို အရှင်မြတ်ကလည်း တောင်းရမ်းခြင်းမှ ကင်းရှင်းနိုင်စွမ်းချီးမြှင့်တော်မူမည်ဖြစ်သည်။

မည်သူမဆိုအရှင်မြတ်ထံပါးမှ ကြွယ်ဝချမ်းသာမှုကို တောင်းခံလျှင် အရှင်မြတ်ကလည်း ထိုသူ့ကို ကြွယ်ဝပြီး လိုလားတောင်းတမှုကင်းစေမည်ဖြစ်သည်။

**အကျိုးကျေးဇူး**

ဤဟဒီးဆ်တော်မြတ်သည် ပေးကမ်းသူနှင့်ရယူသူတို့၌ရှိသင့်သော အရည်အချင်းများကို လမ်းညွှန်ပေးနေသည်။ ပေးကမ်းသူသည် စေတနာရေစီးကမ်းပြိုလိုက်ကာ မိမိနှင့်မိသားစုဝင်များအတွက်ပါမချန် အိပ်သွန်ဖာမှောက်ပေးကမ်းခြင်းမျိုးမပြုလုပ်ရ။ ဤသို့သော ပေးကမ်ခြင်းမျိုးကိုလည်း ရှရီအသ်တရားတော်မြတ်က တောင်းဆိုမထားကြောင်း ဟဒီးဆ်တော်များက ဖော်ပြနေသည်။

ရယူခြင်းဖြင့် ဘဝရပ်တည်ခြင်းမျိုးကိုလည်း ရှရီအသ်တရားတော်မြတ်က မနှစ်သက်ပေ။ ထို့ကြောင့် တနေ့ပေးသောလက်ဖြစ်လာရန် ကြိုးစားအားထုတ်ခြင်း၊ တောင်းရမ်းခြင်းကင်းသောဘဝမျိုးပိုင်ဆိုင်နိုင်ရန် အရှင်မြတ်ထံမှ အမြဲဒိုအာပြုဆုမွန်ချွေနေရ

မည်ဖြစ်သည်။

**ကျက်မှန်ရန် ခက်ဆစ်များ**

| | |
|---|---|
| عَال (ن) عَوْلًا وعِيَالا | မှီခိုခြင်း၊ အားထားခြင်း |
| غنى (ض) غِنَاءً وغِنًى | ကြွယ်ဝချမ်းသာခြင်း၊ လိုလားမှုကင်းခြင်း |
| اسْتَعَفَّ (استفعال) | သိက္ခာခြုံလျက်နေရန် တောင်းခံခြင်း |
| أَعَفَّ (إفعال) | သိက္ခာရှိစွာထားခြင်း |
| استغنى (استفعال ) | လိုလားတောင်းတမှုကင်းရန် ဆုပန်ခြင်း |
| أغنى (إفعال ) | တောင်းတမှုကင်းစေခြင်း၊ ကြွယ်ဝစေခြင်း |

**ဟဒီးဆ်ဆင့်ပြန်သည့် ဆဟာဗီအကြောင်း**

## سيدنا حكيم بن حِزَام رضي الله عنه

حكيم بن حِزَام رضي الله عنه သည် ကိုယ်တော်မြတ် ﷺ မဖွားမြင်မီ (၁၃) နှစ်တွင် ကအ်ဗဟ်ကျောင်းတော်၌ ဖွားမြင်ခဲ့သည်။ သက်တော်(၆၀)ခန့်တွင် အစ္စလာမ် လက်ခံခဲ့သည်။ အစ္စလာမ်လက်ခံပြီးနောက် နှစ်ပေါင်း(၆၀)ထိ အသက်ရှည်ခဲ့သည်။ သခင်သည် ဂျာဟေ့လီယသ်တွင်လည်း အများ၏လေးစားခြင်းခံခဲ့ရသူဖြစ်ခဲ့သည်။

ဟစ်ဂျ်ရီ(၅၄)ခုနှစ်တွင် မဒီနာရွှေမြို့တော်၌ အလ္လာဟ်အမိန့်တော်ခံယူခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၄၀)ဆင့်ပြန်ခဲ့သည်။ (၂)

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အလွတ်ကျက်မှတ်ပါ။ အကျိုးကျေးဇူးများကို ရေးသားပါ။

၂။ حكيم بن حزام رضي الله عنه သခင်အကြောင်းရေးသားပါ။

❁❁❁

(١) أخرجه البخاري في صحيحه : "باب الصدقة باليمين" ر: ١٤٢٧

(٢) رواة التهذيبين : "تهذيب الكمال للمزي"، "تهذيب التهذيب لابن حجر" .
أسماء الصحابة الرواة ومالكل واحد منهم من العدد.

# كتاب الحج (ဟဂ်ျ ကဏ္ဍ)

## الحديث الخمسون

## (၅၀) ဟဂ်ျ၏ အကျိုးကျေးဇူး

عن أبي هريــرة رضي الله عنه قال : قال النبي صلى الله عليه وسلم : " من حَجَّ هذا البيتَ فلم يَرْفَثْ، ولم يَفْسُقْ رجع كيومٍ ولدتْه أمُّه." (رواه البخاري) [1]

ဟဇ်ရသ်အဗူဟုရိုင်ရဟ် ﷺသခင်ဆင့်ပြန်ခဲ့သည်။ နဗီတမန်တော်မြတ်ﷺ မိန့်တော်မူခဲ့သည်။''မည်သူမဆို အရှင်မြတ်(နှစ်သက်စေရန်)အတွက် မဖွယ်မရာကိစ္စများ၊ညစ်ညမ်းသောစကားများနှင့်ပြစ်မှုများမှရှောင်ကြဉ်လျှက် ကအ်ဗာကျောင်းတော်ကို သွားရောက်ဟဂ်ျပြုလုပ်ပါမူ ထိုသူသည် မိခင်၏ ဝမ်းမှမွေးဖွားခဲ့သည့် နေ့ကဲ့သို့ အကုသိုလ်အပေါင်းမှ ကင်းစင်ပြီး ခြောက်ပြစ်ကင်းသဲလဲစင်ဘဝဖြင့်(အိမ်သို့)ပြန်လာသူဖြစ်မည်။ ''

### အကျိုးကျေးဇူး

ဟဂ်ျပြုလုပ်ခြင်းသည် အစ္စလာမ်သာသနာတော်၏မဏ္ဍိုင်ကြီး(၅)ခုအနက် အရေးကြီးသော မဏ္ဍိုင်ကြီးတစ်ခုဖြစ်သည်။ ဟစ်ဂျ်ရီ(၉)ခုနှစ်တွင် ဟဂ်ျဖရ်ဇ်ဖြစ်ခဲ့သည်။ ဟဂ်ျကိုခန္ဓာနှင့်ဉစ္စာနှစ်ခုလုံးရင်း၍ပြုလုပ်ရသည်။ ဟဂ်ျ၏ထူးမြတ်မှုများနှင့် အကျိုးကျေးဇူးများသည် မြောက်မြားစွာသော ဟဒီးဆ်တော်များတွင်လာရှိထားသည်။

ဖော်ပြပါ ဟဒီးဆ်တော်တွင်လည်း ဟာဂျီတစ်ဦးသည် မိမိ၏ ကိုယ်၊နှုတ်၊နှလုံး(၃)ပါးလုံးအား ထိန်းသိမ်းစောင့်ရှောက်ပြီး ဟဂ်ျတာဝန်ကိုထမ်းဆောင်ပါမူ ခြောက်ပြစ်ကင်းသဲလဲစင်ဘဝကို ပိုင်ဆိုင်သွားမည်ဖြစ်ကြောင်း မိန့်ထားသည်။

ဟဂ်ျပြုလုပ်ရာတွင် ဟာဂျီသည် အခြေအနေမျိုးစုံ၊ လူမျိုးပေါင်းစုံ၊ ဒုက္ခအဖုံဖုံဖြင့်တွေ့ကြုံရသည်။ အချို့သောဒုက္ခများသည် ခိုက်ရန်ဖြစ်ပွားခြင်းဘက်သို့ တွန်းပို့ပေးပြီး၊အချို့မှာဒေါသမီးကို တောက်လောင်စေသည်။ ဖော်ပြခဲ့သည့် စိတ်ဓါတ်များကိုဆန့်ကျင်ပြီးရန်ကင်း၊ဒေါသကင်း၊ အပြစ်ကင်းစွာ ဟဂ်ျခရီးကိုဖြတ်သန်းနိုင်သည့် ဟာဂျီကို

လည်းအရှင်မြတ်ချီးမြှင့်မည့် ဆုလာဘ်မှာ မက်မောဖွယ်ရာပင် မဟုတ်ပါလော။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| رفث (ض،س)رَفْثًا، رَفَثًا | မဖွယ်မရာကိစ္စများကို ကျူးလွန်ခြင်း၊ ညစ်ညမ်းသောစကားပြောဆိုခြင်း |
| فسق (ن) فِسْقًا، فُسُوْقًا | ဘောင်ကျော်ခြင်း၊အပြစ်ကျူးလွန်ခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးနှင့်တကွရေးသားပါ။

၂။ အစ္စလာမ်သာသနာတော်တွင် ဟဂျ်၏ အရေးပါပုံကို ရေးပါ။

၃။ ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်းရေးပါ။



(١) أخرجه البخاري في صحيحه : " باب قول الله عز وجل ﴿ولا فسوق ولا جدال فى الحج﴾ "، ر:١٨٢٠

## الحديث الحادي والخمسون

### (၅၁) အွမ်ရတ်ပြုခြင်း၏ အကျိုးကျေးဇူး

عَـن أَبِـي هُـرَيـرَةَ رَضيَ اللَّهُ عَنهُ أَنَّ رَسُولَ اللَّهِ صَلَّى اللَّهُ عَلَيهِ وَسَلَّمَ قَالَ :" العُمْرَةُ إِلَى العُمرَةِ كَفَّارَةٌ لِمَا بَينَهُمَا ، وَالحَجُّ المَبرُورُ لَيسَ لَهُ جَزَاءٌ إِلَّا الجَنَّةُ " . (رواه البخاري) (١)

ဟဇရတ် အဗူဟုရိုင်ရဟ် ﷺ သခင်ဆင့်ပြန်တော်မူခဲ့သည်။ နဗီတမန်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်။ ''အွမ်ရာဟ်တစ်ခုပြီးနောက် အွမ်ရာဟ်တစ်ခုပြုလုပ်ခြင်းသည် ၎င်းတို့နှစ်ခုကြား၌ရှိခဲ့သော ဂိုနာဟ်ပြစ်မှု(အသေးစား)များကို ပလပ်ပေးသောအရာဖြစ်သည်။ အလ္လာဟ်အရှင်မြတ်လက်ခံတော်မူသော ဟဂျ်၏အစားမှာ ဂျန္နသ်သာလျှင်ဖြစ်သည်။''

### အကျိုးကျေးဇူး

ငွေကြေးတတ်စွမ်းနိုင်ပြီး ကျန်းမာရေးကောင်းသူအတွက် သက်တမ်းတစ်လျှောက်လုံးတွင်တစ်ကြိမ် အွမ်ရဟ်ပြုလုပ်ခြင်းမှာ စွန္နသ်မုအက္ကဒဟ်ဖြစ်သည်။တစ်ကြိမ်ထက်ပို၍ အွမ်ရဟ်ပြုလုပ်ခြင်းမှာ မွတ်စ်သဟဗ်ဖြစ်သည်။

ဟဂျ်ကာလ(၅)ရက်မှအပ တစ်နှစ်ပတ်လုံး အွမ်ရဟ်ပြုနိုင်သည်။ အွမ်ရဟ်တွင် အချက်လေးချက်ရှိသည်။ (၁)အိဟ်ရာမ် (၂)သွဝါးဖ် (၃)စအီပြေးခြင်း (၄)ဦးခေါင်း ရိပ်ခြင်း(သို့)ဆံပင်ညှပ်ခြင်းတို့ဖြစ်သည်။

ပထမအွမ်ရဟ်နှင့်ဒုတိယအွမ်ရဟ်ကြားရှိ အပြစ်များပလပ်ခြင်းဆိုသည်မှာ ဂိုနာဟ်အသေးစားများကိုဆိုလိုသည်။

အလ္လာဟ်အရှင်မြတ်လက်ခံတော်မူသော ဟဂျ်ဆိုသည်မှာရှရီအသ်တရားတော်မြတ်ကညွှန်ပြထားသောဟဂျ်၏ဖရ်ဇ်၊ဝါဂျစ်ဗ်၊စွန္နသ်အချက်များကို အထူးဂရု စိုက်ထမ်းဆောင်ပြီးဟဂျ်ပျက်စေသောအရာများမှ ရှောင်ကြဉ်ခြင်းကိုဆိုလိုသည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| အပြစ်များကို ပလပ်ပေးသောအရာ | كَفَّارَةٌ |
| လက်ခံခြင်းခံရသော၊အပြစ်ကင်းစင်သော | مَبْرُوْرٌ (بُرَّ الْحَجُّ بِرًّا) |

**လေ့ကျင့်ခန်း**

၁။ အွမ်ရဟ်၏ ဖွင့်ဆိုချက်ကို ရေးသားပါ။

၂။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့် တကွရေးသားပါ။

၃။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးပါ။

၄။ الحج المبرور ဆိုသည်မှာ မည်သည့် ဟဂ်မျိုးကို ခေါ်ဆိုသနည်း။



(١) أخرجه البخاري في صحيحه : " باب العمرة ؛ وجوب العمرة وفضلها " ر:٧٧٣

## الحديث الثاني والخمسون

## (၅၂) တတ်နိုင်ပါလျက် ဟဂ်ျမပြုခြင်း၏ပြစ်ဒဏ် နှင့် ဟဂ်ျဖရဇ်ဖြစ်စေသော စည်းကမ်းချက်များ

عن علي رَضِيَ اللَّهُ عَنهُ قال : قال رسول الله صلى الله عليه و سلم : " مَنْ مَـلَكَ زَادًا و رَاحِـلَةً تُبَـلِّـغُـهُ إلـى بيـتِ الله ولـم يَحُجَّ فلا عليه أن يموتَ يهوديا أو نصرانيا ". (رواه الترمذي) (١)

ဟဇရသ်အလီ ﵁ သခင်ဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်။ ''အကြင်သူသည် ဟဂ်ျပြုလုပ်ရန် စရိတ်စက(ငွေကြေး)နှင့် အစီးအနင်းပိုင်ဆိုင်ပါလျက်ဟဂ်ျမပြုလျှင် ယဟူဒီအဖြစ်နှင့်သေလိုလျှင်သေစေ၊(သို့)နဆွာရာနီအဖြစ်နှင့် သေလိုလျှင်သေစေ (အလ္လာဟ်အရှင်မြတ်သည် ထိုသူနှင့်စပ်လျဉ်း၍မည်သို့မျှ ဂရုမမူပေ။)

### အကျိုးကျေးဇူး

ဟဂ်ျဖရဇ်ဖြစ်စေသည့်စည်းကမ်းချက်များရှိပါလျှက် ဟဂ်ျမပြုသူသည် ကြီးလေးသောအပြစ်ကျူးလွန်သူဖြစ်သည်။ ဟဂ်ျဖရဇ်ဖြစ်စေသည့် စည်းကမ်းချက်များမှာ - (၁)မွတ်စ်လင်မ်ဖြစ်ခြင်း (၂)အရွယ်ရောက်ပြီးသူဖြစ်ခြင်း (၃)အသိဉာဏ်ရှိသူဖြစ်ခြင်း (၄)လွတ်လပ်သူဖြစ်ခြင်း (၅)ကိုယ် ခန္ဓာကျန်းမာသန်စွမ်းခြင်း (၆)ဟဂ်ျခရီးစဉ်အတွက် စားစရိတ်တတ်နိုင်ခြင်း (၇)လမ်းခရီးအေးချမ်းနေခြင်း (၈)အမျိုးသမီးများအတွက် မဟ်ရမ် (သို့) ခင်ပွန်းရှိခြင်း။

မဟ်ရမ်ဆိုသည်မှာ - အမြဲတမ်းအတွက် နိကာဟ်ဟရာမ်ဖြစ်သော အမျိုးသားကို ခေါ်ဆိုပါသည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| زاد (ج) أَزْوِدَةٌ | ရိက္ခာ ၊ စားရိတ်စက |
| راحِلَةٌ (ج) رَواحِلُ | အစီးအနင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးများနှင့်တကွ ပြောပြပါ။

၂။ ဟဂ်ျဖရင်ဖြစ်စေသည့် စည်းကမ်းချက်များကို ဖော်ပြပါ။

၃။ မဟ်ရမ်ဆိုသည်မှာ မည်သူ့ကို ခေါ်ဆိုသနည်း။

၄။ سيدنا علي رضي الله عنه ၏ အကြောင်းကို ရေးပါ။



(١) أخرجه الترمذي في سننه : " باب ما جاء في التغليط في ترك الحج" ر: ٨١٢

# الحديث الثالث والخمسون

## (၅၃) သလ်ဗီယဟ်ကို ကျယ်လောင်စွာ ရွတ်ဆိုခြင်း

عـن السائب بن خلاد رضي الله عنه قال : قال رسول الله صلى الله عليه و سلـم :" أتـانـي جبـريـلُ فـأمرني أن آمُرَ أصحابي أن يرفعوا أصواتَهم بالإهلال والتلبية " . (رواه الترمذي) (١)

ကိုယ်တော်မြတ် ﷺမိန့်တော်မူခဲ့သည်။ ''ငါကိုယ်တော့်ထံ ဟဇရတ်ဂျိဗ်ရအီးလ် عليه السلامကြွမြန်းလာပြီးနောက် ဆဝ်ဟာဗာတို့အား အသံကျယ်လောင်စွာသလ်ဗီယဟ်ရွတ်ရန် မိန့်ကြားခဲ့သည်။

### အကျိုးကျေးဇူး

ဟဂ်ျတွင်ဖရဇ်(၄)ချက်ရှိသည်။ (၁)အိဟ်ရာမ်ပြုခြင်း (၂)အရဖားသ်ကွင်းပြင်တွင် ခေတ္တနားနေခြင်း (၃)သဝါးဖ့ေဇယာရသ်ပြုလုပ်ခြင်း (၄)ဖော်ပြပါဖရဇ်သုံးချက်လုံးကို အစဉ်လိုက်ပြုလုပ်ခြင်းတို့ဖြစ်သည်။

အထက်ပါဟဒီးဆ်တော်တွင် အိဟ်ရာမ်ပြုခြင်း၏ အစိတ်အပိုင်းတစ်ခုကိုဖော်ပြထားသည်။ အိဟ်ရာမ်ဆိုသည်မှာအရဗီစာပေတွင်'ဟရာမ်ပြုခြင်း'ဟူ၍ဖြစ်ပြီး ဟဂ်ျ၏ ဝေါဟာရတွင်မူ သတ်မှတ်ထားသောအဝတ်ကိုရုံလိုက်ပြီး စိတ်ထဲမှ ဟဂ်ျ၏နိယသ်ပြုကာ တစ်ဆက်တည်းအနည်းဆုံး'သလ်ဗီယဟ်'တစ်ကြိမ်ရွတ်ဆိုခြင်းကိုခေါ်သည်။ အမျိုးသားတို့သည် သလ်ဗီယဟ်ကိုအသံကျယ်စွာရွတ်ဆိုရပြီး အမျိုးသမီးတို့ကမူ တိုးတိုးစွာရွတ်ဆိုရမည်။ သလ်ဗီယဟ်ဟူသည် အောက်ပါစာသားများကို ဆိုလိုသည်။

لَبَّيْكَ اَللّٰهُمَّ لَبَّيْكَ ، لَبَّيْكَ لاَ شَرِيْكَ لَكَ لَبَّيْكَ ، إنَّ الْحَمْدَ والنِّعْمَةَ لَكَ وَالْمُلْكَ ، لاَشَرِيْكَ لَكَ .

အိုအရှင်မြတ်၊ကျွန်တော်မျိုးအရှင့်အမိန့်တော်သံနာခံလျက် အသင့်ရောက်ရှိခဲ့ပါပြီ။ ကျွန်တော်မျိုးအသင့်ရောက်ရှိခဲ့ပါပြီ။ အရှင်မြတ်နှင့်တုဖက်နိူင်းယှဉ်ခံထိုက်သည့်အရာ

အလျှင်းမရှိပါ။ ကျွန်တော်မျိုး အသင့်ရောက်ရှိခဲ့ပါပြီ။ မုချအလုံးစုံသောချီးမွမ်းခြင်း၊စည်းစိမ်တော်များနှင့်စိုးပိုင်ခြင်းတို့သည် အရှင်မြတ် အတွက်သာဖြစ်ပါသည်။ အရှင်မြတ်နှင့် တုဖက်နှိုင်းယှဉ်ခံထိုက်သည့်အရာအလျှင်းမရှိပါ။

သလ်ဗိယဟ်ရွတ်ဆိုရုံ(သို့)နီယသ်ပြုရုံမျှဖြင့် အိဟ်ရာမ်မစတင်ပါ။ အိဟ်ရာမ်ဝတ်ရုံခြုံခြင်းဖြင့်လည်းအိဟ်ရာမ်မစတင်ပါ။ သို့သာမက အိဟ်ရာမ်ဝတ်ရုံခြုံလိုက်ပြီး ဟဂျ်(သို့)အွမ်ရဟ်၏ နီယသ်ဖြင့်သလ်ဗိယဟ်ရွတ်ဆိုလိုက်မှသာ အိဟ်ရာမ်စတင်သည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| أَهَلَّ (إفعال) | အသံထုတ်ခြင်း၊ သလ်ဗိယဟ်ဆိုခြင်း၊အိဟ်ရာမ်ပြုခြင်း |
| تَلْبِيَةٌ | သလ်ဗိယဟ်ဆိုခြင်း |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

**سيدنا السائب بن خلاد الأنصاري ﷺ**

السائب بن خلاد ﷺ သည် ခဇ်ရဂျ်မျိုးနွယ်ဝင် အန်ဆွာရီ ဆွဟာဗီတစ်ပါးဖြစ်သည်။ ကွန္နယသ်ဘွဲ့သညာမှာ أبو سَهْلَة ဖြစ်သည်။ ဗဒ်ရ်စစ်ပွဲတွင် ပါဝင်ဆင်နွှဲခွင့်ရရှိခဲ့သည်။ ဟဇရသ်မုအာဝေယဟ်ﷺက သခင့်အား ယီမင်နိုင်ငံ၏အုပ်ချုပ်ရေးမှူးအဖြစ်ရွေးချယ်ခဲ့သည်။ ကိုယ်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း(၂၂)ပုဒ် ဆင့်ပြန်ခဲ့သည်။ ဟစ်ဂျ်ရီ (၇၁) ခုနှစ်တွင် အရှင်မြတ်အမိန့်တော်ခံယူခဲ့သည်။ (٢)

**လေ့ကျင့်ခန်း**

၁။ ဟဂျ်၏ဖရဇ်အချက်များကို ပြောပြပါ။

၂။ သလ်ဗိယဟ်ကို လက်တွေ့အဓိပ္ပါယ်နှင့်တကွ ဖတ်ပြပါ။

၃။ အိဟ်ရာမ်ပြုနည်းဆိုသည်မှာ အဘယ်နည်း။

၄။ ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်းကို ရေးသားပါ။

(١) أخرجه الترمذي في سننه: "باب ما جاء في رفع الصوت بالتلبية" ر: ٨٢٩

(٢) رواة التهذيبين: "تهذيب الكمال للمزي"، "تهذيب التهذيب لابن حجر".

أسماء الصحابة الرواة ومالكل واحد منهم من العدد

## الحديث الرابع والخمسون

## (၅၄) အိဟ်ရာမ်တွင် ရှောင်ရမည့်အရာများ

عن ابن عمر رضي الله عنهما قال: قام رجلٌ فقال:" يا رسولَ الله ماذا تأمُرُنا أن نَلْبَسَ من الثيابِ في الإحرام؟ فقال رسول الله صلى الله عليه و سلم: "لا تَلْبَسُوا القميصَ ولا السَّرَاويلاتِ ولا العَمَائِمَ ولا البَرَانِسَ ...... ؛ ولا تلبسوا شيئا من الثياب مَسَّهُ الزَّعْفَرَانُ ولا الْوَرْسُ ، ولا تَنْتَقِبُ المرأةُ الْحَرَامُ" .

(رواه النسائي)(١)

ဟဇရသ်အိဗ်နေ့အုမရ် သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ပုဂ္ဂိုလ်တစ်ဦးထ၍ အိုအလ္လာဟ့်ရစူလ် အိဟ်ရာမ်တွင်ကျွန်ုပ်တို့အား မည်သည့်အဝတ်အစားကိုဝတ်ဆင်ရန် အမိန့်ပေးမည်နည်း''ဟု မေးမြန်းခဲ့သည်။ ထိုအခါ ကိုယ်တော်မြတ်ﷺ က''အသင်တို့ သည်အင်္ကျီ ၊ဘောင်းဘီ၊ခေါင်းပေါင်း၊ ဦးထုပ်တို့ကို မဝတ်ဆင်ရပေ၊ ထို့အတူဇအ်ဖရာန်နှင့် အနံ့ပါအဝါရောင်ဆိုးဆေးလိမ်းကျံထားသောအင်္ကျီကိုလည်းမဝတ်ရ။ အိဟ်ရာမ်ပြုထား သောအမျိုးသမီးတို့သည် မျက်နှာကိုမဖုံးအုပ်ရ။''ဟု မိန့်တော်မူခဲ့သည်။

**အကျိုးကျေးဇူး**

အမျိုးသားများသည် အိဟ်ရာမ်အတွက် သစ်လွင်သော(သို့)လျှော်ဖွတ်ထား သောခြုံထည်နှစ်စကို ဝတ်ဆင်ခြင်းသည် စွန္နသ်ဖြစ်သည်။ ပိတ်စတစ်စကို လုံချည် အဖြစ်၊ ကျန်တစ်စကိုခြုံထည်အဖြစ်ပြုလုပ်ရမည်။

အမျိုးသားတို့သည် ချုပ်ထားသောမည်သည့်အဝတ်အစားကိုမျှ အိဟ်ရာမ်တွင် ဝတ်ဆင်ပိုင်ခွင့်မရှိ။ ထိုနည်းတူအိဟ်ရာမ်ပြုထားချိန်တွင် ခြေဖမိုးအလယ်ရှိအရိုးကို ဖုံး အုပ်စေသောဖိနပ်စီးခွင့်မရှိပေ။ ငွေကြေးထည့်ရန်အတွက် အိတ်ချုပ်ထားခြင်း(သို့) ခါးပတ် ပတ်ထားခြင်းတို့သည် ပြုပိုင်သည်။

အမျိုးသမီးများသည် အိဟ်ရာမ်တွင် ချုပ်ထားသောအဝတ်အစားကိုသာ

ဝတ်ဆင်ရမည်။ ဦးခေါင်းကိုလည်း ဖုံးအုပ်ထားရမည်။ မျက်နှာကိုသာ ဖွင့်ထားရမည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| سِرْوَالٌ (ج) سَرَاوِيْلَاتٌ | ဘောင်းဘီရှည် |
| عِمَامَةٌ (ج) عَمَائِمُ | ခေါင်းပေါင်း |
| بُرْنُسٌ (ج) بَرَانِسُ | ဦးထုပ် |
| زَعْفَرَانٌ | ကုံကုမံ |
| وَرْسٌ | ယီမင်နိုင်ငံမှအဝါရောင်ဆိုးဆေးပင်၊ အမွှေးနံ့သာပါသောအဝါရောင်ဆိုးဆေး |
| اِنْتَقَبَ (افتعال) | မျက်နှာအုပ်ခြင်း၊မျက်နှာဖုံးစွပ်ခြင်း |
| الْمَرْأَةُ الْحَرَامُ | အိဟ်ရာမ်ပြုထားသည့်အမျိုးသမီး |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးများနှင့်တကွ ပြန်လည်ပြောပြပါ။

၂။ အိဟ်ရာမ်ပြုရာတွင် အမျိုးသမီးနှင့် အမျိုးသား၏ ကွာခြားချက်ကို ပြောပါ။

၃။ ابن عمر رضي الله عنهما သခင်အကြောင်းပြန်လည်ရေးသားပါ။

(١) أخرجه النسائي في سننه: " باب النهي عن أن تنتقب المرأة الحرام" ، ر:٢٦٧٣

## الحديث الخامس والخمسون

## (၅၅) ဟဂ်ျနှင့်အွမ်ရဟ်ကို အိဟ်ရာမ်တစ်ခုတည်းဖြင့် ပြုလုပ်ခြင်း

عن عمران بن حُصَيْنٍ رضي الله عنه :" أن رسولَ اللهِ صلى الله عليه و سلم جَمَعَ بَيْنَ حَجٍّ وعُمْرَةٍ " . (رواه النسائي ) (١)

ဟဇရသ်အိမ်ရာနဗင်နဟိုစိုင်းန် ﷺထံမှဆင့်ပြန်ချက်လာရှိသည်။ ''မုချ ကိုယ်တော် မြတ်ﷺ သည် ဟဂ်ျနှင့်အွမ္ဗရဟ်ကိုအိဟ်ရားမ် တစ်ခုတည်းဖြင့်ပြုလုပ်ခဲ့သည်။''

**အကျိုးကျေးဇူး**

အိဟ်ရာမ်ပြုခြင်းကို အခြေခံ၍ ဟဂ်ျ၏အမျိုးအစား(၃)ခုရှိသည်။

(၁) **အိဖ်ရားဒ်** - အိဟ်ရာမ်တစ်ခုတည်းဖြင့် ဟဂ်ျတစ်ခုတည်းကို ဆောင်ရွက်ခြင်း

(၂) **ကိရားန်** - အိဟ်ရာမ်တစ်ခုတည်းဖြင့် ဟဂ်ျနှင့်အွမ်ရဟ်နှစ်ခုလုံးကိုဆောင်ရွက်ခြင်း

(၃) **သမသ်သိုအ်**- အိဟ်ရာမ်နှစ်ခုဖြင့် ဟဂ်ျနှင့်အွမ်ရဟ်နှစ်ခုလုံးကို ဆောင်ရွက်ခြင်း

ဟဂ်ျ(၃)မျိုးကြားခြားနားချက်မှာ -အိဖ်ရားဒ်တွင် အိဟ်ရာမ်ပြုရာ၌ ဟဂ်ျတစ်ခုတည်းအတွက်သာ နိယသ်ပြုရသည်။ ကိရားန်တွင်ဟဂ်ျနှင့် အွမ်ရဟ်နှစ်ခုလုံးအတွက် နိယသ်ပြုရပြီး သမသ်သွတ်အ်ပထမအိဟ်ရာမ်တွင် အွမ္ဗရဟ်တစ်ခုတည်းအတွက်သာ နိယသ်ပြုရသည်။

ဒုတိယခြားနားချက်မှာ - အိဖ်ရားဒ်နှင့်ကိရားန်တွင် အိဟ်ရာမ်သည် ဟဂ်ျကိစ္စအဝဝပြီးဆုံးသည်ထိကျန်ရှိနေမည်ဖြစ်ပြီး သမသ်သိုအ်တွင်ဟာဂျီသည် အွမ်ရဟ်ပြုလုပ်ပြီးနောက် အိဟ်ရာမ်မရှိဘဲ မက္ကဟ်မြို့တွင်နေထိုင်ခွင့်ရှိမည်။ ထို့နောက် ဇိလ်ဟဂ်ျလ(၈)ရက်နေ့တွင် မက္ကဟ်မြို့မှပင်ဟဂ်ျအတွက် အိဟ်ရာမ်ပြုရမည်။

သမသ်သိုအ်တွင်ပိုမိုလွယ်ကူမှုရှိသည်။ သို့သော်ကိရားန်ဟဂ်ျမှာ သာပိုမြင့်မြတ်သည်။ ထို့ကြောင့်ကိုယ်တော်မြတ်ကြီး ﷺသည်လည်း နောက်ဆုံးဟဂ်ျတွင် ကိရားန်ပြုခဲ့သည်။

## ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း

## سيدنا عمران بن حُصَيْنٍ ﷺ

عمران بن حصين ﷺ သည် ဗနူခုဇာအဟ်မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဟဇရသ်အဗူဟုရိုင်ရဟ်ﷺနှင့်အတူဟစ်ဂျ်ရီ(၇)ခုနှစ်တွင် အစ္စလာမ်လက်ခံခဲ့သည်။ ဟဇရသ်အုမရ် ﷺသည် သခင့်အား ဘဆွရဟ်မြို့သားများကို ဒီးန်သင်ပေးရန် စေလွှတ်ခဲ့သည်။ ကောင်းကင်တမန်များသည်သခင့်အား လက်ဆွဲနှုတ်ဆက်ပြီး စလာမ်ပေးကြသည်ဟုလည်း အဆိုရှိသည်။ သခင်သည် 'လိုတရ'ဘ၀ကိုပိုင်ဆိုင်ထားသူဖြစ်သည်။ သခင်၏ဒိုအာတိုင်းကို အရှင်မြတ်လက်ခံတော်မူကြောင်းလာရှိသည်။

ဘဆွရဟ်မြို့တွင် တရားသူကြီးဖြစ်ခဲ့ပြီး ထိုဘဆွရဟ်၌ပင် ဟစ်ဂျ်ရီ(၅၃) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺထံမှ ဟဒီးဆ်တော်ပေါင်း (၁၈၀)ပုဒ် ဆင့်ပြန်ခဲ့သည်။(٢)

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးများနှင့်တကွ ပြောပြပါ။

၂။ ဟဂ်ျ၏ အမျိုးအစား (၃)ခုကို ရှင်းပြပါ။

(၃) ဟဂ်ျအမျိုးအစား (၃) ခုကြား ခြားနားချက်ကို ပြောပြပါ။

(၄) سيدنا عمران بن حصين ၏ အကြောင်းရေးပါ။

❁❁❁

(١) أخرجه النسائي في سننه : " باب القران" ر:٢٧٢٧

(٢) رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب لابن حجر" .
أسماء الصحابة الرواة ومالكل واحد منهم من العدد
معرفة الصحابة لأبي نعيم
الأعلام للزركلي

## الحديث السادس والخمسون

### (၅၆) (မီကားသ်) အိဟ်ရာမ်ပြုရမည့်နေရာများအကြောင်း

عن عائشة رضي الله عنها قالت : "وَقَّتَ رسولُ اللّٰهِ صلى الله عليه و سلم لأهلِ المدينةِ ذَا الْحُلَيْفَةِ ، ولأهلِ الشَّامِ ومصرَ الْجُحْفَةَ، ولأهلِ الْعِرَاقِ ذَاتَ عِرْقٍ ، ولأهلِ نَجْدٍ قَرْنًا ، ولأهلِ الْيَمَنِ يَلَمْلَمَ." (رواه النسائي) (١)

ဟဇရသ် အာအေ့ရှာဟ် رضي الله عنها သခင်မထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ကိုယ်တော်မြတ် ﷺသည်(အိဟ်ရာမ်းပြုရန်)မဒီနာမြို့နှင့်(မဒီနာဘက်မှ)လာသည့် ဟာဂျီများအတွက်'ဇွလ်ဟုလိုင်ဖဟ်'ကိုလည်ကောင်း၊ ဆီးရီးယား၊အီဂျစ်နှင့်(ထိုနိုင်ငံများဘက်မှ) လာသည့်ဟာဂျီများအတွက်'ဂျုဖ်ဖဟ်'ကိုလည်းကောင်း၊ အီရတ်နှင့်(အီရတ်ဘက်မှ)လာသည့်ဟာဂျီများအတွက်'ဇာအသုအိရ်က်'ကိုလည်းကောင်း၊ နဂျ်ဒ်နယ်နှင့်(ထိုနယ်ဘက်မှ) လာသည့်ဟာဂျီများအတွက်'ကရ်နလ်မနာဇိလ်'ကိုလည်းကောင်း၊ ယီမင်နိုင်ငံနှင့်(ထိုယီမင်ဘက်မှ)လာသည့်ဟာဂျီများအတွက်'ယလမ်လမ်'ကိုလည်းကောင်း (မီကားသ်-အိဟ်ရာမ်ပြုရမည့်နေရာများအဖြစ်)အသီးသီးသတ်မှတ်ပေးခဲ့သည်။

### အကျိုးကျေးဇူး

မည်သည့်ရည်ရွယ်ချက်ဖြင့်မဆို မက္ကဟ်မြို့တော်ပြင်ပမှတစ်ဦးဦးသည် မက္ကဟ်မြို့တော်သို့ဝင်ရောက်လိုပါက အိဟ်ရာမ်ပြုရန်ဝါဂျိဗ်ဖြစ်သည်။ အိဟ်ရာမ်ပြုရန်အတွက် ကိုယ်တော်မြတ် ﷺသည် မက္ကဟ်မြို့တော်၏ လေးဖက်လေးနေရာတွင်" မီကားသ်"နယ်နိမိတ်များကို သတ်မှတ်ပေးထားသည်။ မီကားသ်နယ်နိမိတ်(၅)ခုရှိသည့်အနက်(၄)ခုကို ကိုယ်တော်မြတ် ﷺကိုယ်တိုင်သတ်မှတ်ပေးခဲ့ပြီး၊ အီရတ်နယ်သားများအတွက်'ဇာအသုအိရ်က်'ကိုမူ ဟဇရသ်အုမရ် رضي الله عنهသခင်ကြီးက သတ်မှတ်ပေးခဲ့သည်။

**'ဇွလ်ဟုလိုင်ဖဟ်'**သည် မဒီနဟ်မြို့တော်မှ(၆)မိုင်အကွာရှိ မက္ကာမြို့သို့သွားရာလမ်းပေါ်တွင်တည်ရှိသည်။ မက္ကဟ်မြို့တော်နှင့်ကီလိုမီတာ(၄၅၀)အကွာတွင် တည်ရှိသည်။ ယခုထိုနေရာသည် 'ဗီရေအလီ'အမည်ဖြင့် ကျော်ကြားလျက်ရှိသည်။

**'ဂျုဖ်ဖဟ်'**သည် ဆီးရီးယားနိုင်ငံသားများ၏ မီကားသ်ဖြစ်ပါသည်။ 'ရာဗိဂ်' ဟူသောစခန်းအနီးတွင်ရှိသည်။ မက္ကာဟ်မြို့နှင့်(၂၀၄)ကီလိုမီတာ အကွာတွင်ရှိသည်။

**'ကရ်နုလ်မနာဇိလ်'**သည်နဂျ်ဒ်ဘက်မှလာသူများ၏ မီကားသ်ဖြစ်သည်။ သွာအိဖ်မြို့အနီးတွင်တည်ရှိပြီး မက္ကဟ်မြို့တော်နှင့်(၉၅)ကီလိုမီတာ အကွာတွင်ရှိသည်။

'ယလမ်လမ်'သည်ယီမင်နိုင်ငံဘက်မှလာသူများ၏မီကားသ်ဖြစ်သည်။ ဤနေရာသည် တောင်တစ်လုံးဖြစ်ပြီးပင်လယ်နှီနှင့်မိုင်(၂၀)အကွာတွင်ရှိသည်။ မက္ကဟ်မြို့တော်၏တောင်ဘက်(၄၅)ကီလိုမီတာအကွာတွင်ရှိသည်။ အများသောအားဖြင့် ကျွန်ုပ်တို့မြန်မာနိုင်ငံသားများ၏ မီကားသ်လည်းဖြစ်သည်။

' **ဇားသုအစ်ရ်က်**'အီရတ်နိုင်ငံဘက်မှလာရောက်သူများ၏မီကားသ် ဖြစ်သည်။ မက္ကဟ်မြို့နှင့်(၉၅)ကီလိုမီတာ အကွာတွင်ရှိပါသည်။

မီးကားသ်နယ်နိမိတ်ပြင်ပမှလာသူတိုင်းကို 'အာဖာကီး'ဟု ခေါ်ဆိုပြီး မီကားသ်နယ်နိမိတ်၏အပြင်နေရာကို'အာဖားက်'ဟုခေါ်သည်။ မီကားသ်အတွင်းနေသူတစ်ဦးသည် အိဟ်ရာမ်ပြုလိုပါက မိမိနေအိမ်မှ အိဟ်ရာမ်ပြုရမည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| အချိန်(သို့) နေရာ အတိုင်းအတာသတ်မှတ်ခြင်း | وَقَّتَ (تفعيل) |

❖ ❖ ❖

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အကျိုးကျေးဇူးများနှင့်တကွပြောပြပါ။

၂။ မီကားသ်(၅)ခုကိုအကွာအဝေး၊ သတ်မှတ်ပေးထားသည့်နိုင်ငံများနှင့်တကွပြောပါ။

၃။ အာဖားက်နှင့် အာဖာကီး ဆိုသည်ကို ရှင်းပြပါ။

(١) أخرجه النسائي في سننه : " باب ميقات أهل العراق"، ر:٢٦٥٦

## الحديث السابع والخمسون

## (၅၇) ကိုယ်တော်မြတ် ﷺ ၏ဟဂ်ျနှင့်အွမ်ရဟ် ကျင့်စဉ်အကျဉ်း

عـن ابـن عـمـر رضـي الله عنهما قال : " طاف رسولُ اللّٰهِ صلى الله عليه وسلم حِيْنَ قَدِمَ مَكَّةَ ؛ فَاسْتَلَمَ الرُّكْنَ أَوَّلَ شَيْئٍ ، ثُمَّ خَبَّ ثلاثةَ أطْوافٍ من السَّبْعِ؛ ومشـى أربـعةَ أطـواف، ثم رَكَعَ حينَ قَضٰى طوافَه بالبيت عندَ الْمَقَامِ ركعتينِ ، ثم سـلَّـمَ فـانْصَرَفَ ، فأتى الصفا فطاف بالصَّفَا والْمَرْوَةِ سبعة أطواف ، ثم لم يَحْلِلْ من شيئ حَرُمَ مِنْهُ ؛ حتى قضى حَجَّهُ ونَحَرَ هَدْيَهُ يومَ النَّحْرِ وأفَاضَ فَطَافَ بالبيتِ ثم حَلَّ مِنْ كُلِّ شيئٍ حَرُمَ مِنْهُ" . (رواه مسلم ) (١)

ဟဇရသ်အိဗ်နေ့အုမရ် رضي الله عنهما သခင်ထံမှဤသို့ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် မက္ကဟ်ရွှေမြို့တော်သို့ရောက်သောအခါ(ကအ်ဗာ ကျောင်းတော်ကိုအွမ်ရဟ်အတွက်)သဝါးဖ်လုပ်ခဲ့သည်။ ဦးစွာပထမ ဟတ်ဂျ်ရေ့အတ်စ်ဝဒ် (ကျောက်နက်တော်)ကို ကိုင်တွယ်တော်မူခဲ့သည်။ သွဝါးဖ်(၇)ပတ်အနက် ပထမ(၃)ပတ်ကို စိပ်စိပ်သွက်သွက်လျှောက်သည်။ ထို့နောက်ကျန်(၄)ပတ်ကိုမူ ပုံမှန်ပတ်သည်။ ကအ်ဗာ ကျောင်းတော်ကို သွဝါးဖ်လှည့်ပြီးသောအခါ မကာမေ့အီဗ်ရာဟီးမ် (အိဗ်ရာဟီးမ် عليه السلام ၏ ခြေရာတော်)အနီးတွင် နမားဇ်(၂)ရကအသ်ဝတ်ပြုခဲ့သည်။ တဖန် စလာမ်လှည့်ပြီးနောက် ဆွဖာနှင့်မရ်ဝါကို ကြွမြန်းလာတော်မူပြီး(၇)ခေါက်ပြေးခဲ့သည်။ ထို့နောက် အိဟ်ရာမ်ဖြင့်သာ ဟဂျ်ကျင့်စဉ်များပြီးဆုံးသည့်တိုင်နေထိုင်ခဲ့သည်။ ကုရ်ဘာနီနေ့တွင်သားကောင်ကို ကုရ်ဘာနီပြုခဲ့သည်။ တဖန်ကအ်ဗာကျောင်းတော်ကိုဖရ်ဇ်သွဝါးဖ်ပြုခဲ့သည်။ ထိုအချိန်မှသာ ကိုယ်တော်သည် အိဟ်ရာမ်အား ရုတ်သိမ်းခဲ့သည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်တွင် ကိုယ်တော်မြတ် ﷺ ၏ဟဂျ်နှင့် အွမ်ရဟ်ကျင့်စဉ်

အကျဉ်းကိုဖော်ပြထားသည်။ မက္ကဟ်ရွှေမြို့တော်သို့ရောက်လျှင် မိမိ၏ပစ္စည်းများကို နေရာတကျထားပြီး ဦးစွာဆောင်ရွက်မည့်ကျင့်စဉ်မှာ မတ်စ်ဂျေ့ဒ်ဟရမ်သို့ဝင်ရောက်ပြီးသဝါးဖ်လှည့်ရမည်။ သဝါးဖ်မစမီ ဟဂ်ျရေ့အတ်ဆ်ဝဒ်ကိုနမ်းခြင်း(သို့) လက်ဖြင့်ကိုင်တွယ်ခြင်း(သို့)ဟဂ်ျရေ့အတ်ဆ်ဝဒ်၏ရှေ့တည့်တည့်မှ လက်နှစ်ဖက်ကိုနားအထိမြှောက်ပြီးလက်ကိုသာနမ်းခြင်းစသည်တို့ကို လွယ်ကူသလိုလုပ်နိုင်သည်။ ဟဂ်ျရေ့အတ်ဆ်ဝဒ်ကိုနမ်းခြင်းသည် စွန္နသ်ဖြစ်သည်။ ထို့နောက် သဝါးဖ်စတင်ပြုရမည်။

ဤသဝါးဖ်သည် ဟဂ်ျပြုသူများအလိုက် အောက်ပါအတိုင်းအမျိုးမျိုးဖြစ်သွားမည်။

(၁) အွမ္မရဟ်သီးသန့်ပြုလုပ်သူများနှင့် သမသ်သုအ်(သို့)ကိရာန်ဟဂ်ျပြုလုပ်များအတွက် ဤသဝါးဖ်သည် အွမ္မရဟ်၏သဝါးဖ်ဖြစ်ပြီး ဝါဂျိဗ်တာဝန်ဖြစ်သည်။

(၂) မုဖ်ရစ်ဒ်အတွက် ဤသဝါးဖ်သည်ဟဂ်ျအတွက်သဝါးဖိကုဒူးမ် (မက္ကဟ်မြို့တော်သို့ရောက်ရှိခြင်းပေါ်ပြုသည့်သဝါးဖ်)ဖြစ်ပြီး စွန္နသ်ဖြစ်မည်။

သဝါးဖ်တစ်ခုပြီးနောက်ဆွဖာနှင့်မရ်ဝါအကြားစအီ(ပြေးရန်)တာဝန်ရှိပါက ထိုသဝါးဖ်တွင်အမျိုးသားများသည်'အိဇ်ဋိဗာအ်'နှင့်ရမလ်ပြုလုပ်ခြင်းသည်စွန္နသ်ဖြစ်သည်။

'အိဇ်ဋိဗာအ်'ဆိုသည်မှာ အိဟ်ရာမ်ဝတ်ရုံကို ယာဘက်ချိုင်းအောက်မှထုတ်၍ ဝဲဘက်ပခုံးပေါ်တင်ထားခြင်းကိုဆိုလိုသည်။

'ရမလ်'ဆိုသည်မှာ သဝါးဖ်လှည့်ရာတွင်ရင်ကော့၍ ပခုံးနှစ်ဖက်ကို လှုပ်ကာလှုပ်ကာ မာန်ပါပါခြေလှမ်းစိပ်စိပ် အနည်းငယ်သွက်လက်စွာဖြင့် လမ်းလျှောက်ခြင်းကိုဆိုလိုသည်။

ဝုဇူဖြင့်သွဝါးဖ်ပြုရမည်။ ကိုယ်မသန့်ဖြစ်နေစဉ်သဝါးဖ်မပြုရ။ သဝါးဖ်တစ်ကြိမ်ပြီးမြောက်ရန် ကအ်ဗဟ်ကျောင်းတော်ကို(၇)ပတ်တိတိ ပတ်ရမည်။ တစ်ပတ် ပတ်ခြင်းကို 'ရှောင်ဝ်သ်' ဟုခေါ်သည်။

မည်သည့်သဝါးဖ်ပင်ဖြစ်စေ ထိုသဝါးဖ်နောက်တွင်နမားဇ်(၂)ရကအသ်ဝတ်ပြု

ခြင်းသည်ဝါဂျိဗ်ဖြစ်သည်။ မကာမေ့အိဗ်ရာဟီးမ်အနီးတွင် ၀တ်ပြုခြင်းသည် မွတ်စ်သဟဗ်ဖြစ်သည်။

'ဆွဖာနှင့်မရ်ဝါ'ဆိုသည်မှာ တောင်နှစ်လုံး၏ အမည်ဖြစ်သည်။ 'စအီ'ဆိုသည်မှာပြေးခြင်းဟူ၍ဖြစ်သည်။ ရှရီအသ်တရားတော်မြတ်တွင် စအီဆိုသည်မှာဆွဖာနှင့်မရ်ဝါကြား(၇)ကြိမ်ပြေးခြင်းကိုခေါ်သည်။ သဝါးဖ်တစ်ခုပြီးမှ စအီပြုရသည်။ အွမ္မရဟ်နှင့်ဟဂျ်နှစ်မျိုးလုံးတွင် စအီပြုခြင်းသည် ဝါဂျိဗ်တာဝန်ဖြစ်သည်။ စအီပြုခြင်းစတင်ရမည့်နေရာမှာဆွဖာတောင်ဖြစ်၍ အဆုံးသတ်ရမည့်နေရာမှာ မရ်ဝဟ်တောင်ဖြစ်သည်။

စအီပြုခြင်းတစ်ပတ်သည်(၀. ၅)ကီလိုမီတာရှိပြီး(၇)ပတ်တွင်(၃. ၅)ကီလိုမီတာခန့်ရှိသည်။

အကယ်၍ဟာဂျီသည် قـــــارن ဖြစ်ပါက စအီပြုလုပ်ပြီးနောက် ခေါင်းမရိတ်သေးဘဲ ဟဂျ်ကျင့်စဉ်များပြီးဆုံးသည့်တိုင် အိဟ်ရာမ်ဖြင့်သာနေထိုင်ရမည်။ متمتع ဖြစ်ပါက ခေါင်းရိတ်ပြီးအိဟ်ရာမ်ချွတ်ရမည်။

ဇိလ်ဟဂျ်လ(၁၀)ရက်နေ့တွင် အဓိက ကိစ္စကြီး(၄)ခုအနက် ပထမ (၃)ခုကိုအစဉ်လိုက်ဆောင်ရွက်ရသည်။ (၁)ခဲပေါက်ခြင်း (၂) ကုရ်ဘာနီပြုခြင်း (၃)ဆံချခြင်း၊ကတုံးတုံးခြင်း (၄) သဝါးဖိဇိယာရသ်ပြုခြင်းတို့ဖြစ်သည်။

ဟဒီးဆ်တော်တွင် ကုရ်ဘာနီပြုခြင်းကိုဖော်ပြထားသည်။ قارن နှင့် متمتع တို့သည် အွမ်ရဟ်နှင့်ဟဂျ်ကျင့်စဉ်နှစ်ခုအား ဆောင်ရွက်ပြီးသည့်အတွက် အရှင်မြတ်ကိုကျေးဇူးတင်သောအားဖြင့် (دم الشكر)သားကောင်ကို ဇဗဟ်လုပ်ရန် ဝါဂျိဗ်တာဝန်ဖြစ်သည်။ ဤသားကောင်၏ အသားကို မည်သူမဆို စားသုံးနိုင်သည်။

ဆံချခြင်း၊ကတုံးတုံးပြီးသည့်နောက် အိဟ်ရာမ်ချွတ်နိုင်သည်။ ထို့နောက် သဝါးဖိဇိယာရသ်ပြုလုပ်ရမည်။ သဝါးဖိဇိယာရသ်ပြုခြင်းသည် ဖရဇ်တာဝန်ဖြစ်ရာ ဇိလ်ဟဂျ်လ(၁၀)ရက်နေ့မှ (၁၂)ရက်နေ့ နေမဝင်မီအထိ မဖြစ်မနေပြုလုပ်လိုက်ရမည်။

ဤသဝါးဖ်သည် မည်သည့်အခြေအနေတွင်မဆို တာဝန်ကျသွားမည်မဟုတ် သကဲ့သို့ အစားပေး၍လည်း တာဝန်မကျေနိုင်ပါ။ မိမိသက်တမ်းအဆုံးအထိ ဤ သဝါးဖ်၏တာဝန်သည်တင်ရှိနေမည်ဖြစ်သည်။ ဤသဝါးဖ်မပြုလုပ်သေးသရွေ့ ဟဂ်ျ တာဝန်လည်းမကျေပွန်၊ မိမိဇနီးနှင့်ပေါင်းသင်းဆက်ဆံခြင်း၊ နမ်းရှုံ့ခြင်းစသည်တို့ သည်လည်း ဟရာမ်ဖြစ်နေပေမည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| استلم (افتعال) [الحجر] | အတ်ဆ်ဝဒ်ကျောက်ကိုလက်ဖြင့်ကိုင်တွယ်ခြင်း၊ နှာခေါင်းဖြင့်နမ်းခြင်း |
| الرُّكْنُ | ဟဂ်ျရေ့အတ်ဆ်ဝဒ်ရှိသည့်ကအ်ဗာ၏ဒေါင့် |
| خب (ن) خَبَبًا | ခြေလှမ်းစိတ်စိတ်ဖြင့်ခက်သွက်သွက်သွားခြင်း၊ မာန်ပါပါလျှောက်ခြင်း |
| المَقَامُ | အီဗ်ရာဟီးမ် ﷺ၏ခြေရာတော်ရှိရာနေရာ |
| حَلَّ (ض)حِلًّا ، حَلاَلاً | အိဟ်ရာမ်၏စည်းကမ်းချက်များမှကင်းလွတ်ခြင်း |
| حَرم (ك)حُرْمًا،حَرَامًا | အိဟ်ရာမ်၏ စည်းကမ်းချက်များရှိနေခြင်း |
| نحر (ف)نَحْرًا | ကုလားအုပ်လည်ပင်းကို ဖောက်ခြင်း |
| هَدْيَةٌ (ج) هَدْيٌ | အရှင့်အတွက် ကုရ်ဘာနီပြုရန်နိယသ်ဖြင့် ကအ်ဗာကျောင်းသို့ တင်ပို့သောသားကောင် |
| يَوْمُ النَّحْرِ | ဇိလ်ဟဂ်ျလ (၁၀) ရက်နေ့ |
| أفاض (إفعال) | မိနာမှမက္ကဟ်သို့(သွဝါးဖိဇိယာရသ်ပြုရန်)အုပ်စု ဖြင့်တရွေ့ရွေ့ချီတက်လာခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို  အလွတ်ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို အတိုချုပ်ပြောပြပါ။

၃။ ဤဟဒီးဆ်သည် ဟဂ်ျ၏မည်သည့်အမျိုးအစားကို ဖော်ပြနေသနည်း။

၄။ اضطباع ـ رمل ـ سعي ـ الصفا ـ المروة တို့ကို ရှင်းပြပါ။

၅။ طواف الزيارة ၏ အဓိပ္ပါယ်ကို ပြောပြပါ။

၆။ يوم النحر နေ့တွင် မည်သည့်ကိစ္စရပ်များကို ဆောင်ရွက်ရသနည်း။

❖❖❖

(١) أخرجه مسلم في صحيحه : " باب وجوب الدم على المتمتع ......" ر:١٢٢٧

## الحديث الثامن والخمسون

### အရဖားသ်ကွင်းပြင်တွင် ဆိုင်းငံ့နားနေခြင်း

عن عبدِ الرحمنِ بنِ يَعْمُرَ رضي الله عنه قال : شَهِدْتُ رسولَ الله صلى الله عليه و سلم فأتاه ناسٌ فَسَأَلُوْهُ عنِ الحج ؛ فقال رسول الله صلى الله عليه و سلم : " الحَجُّ عَرَفَةُ فمَنْ أدرك ليلةَ عَرَفَةَ قبلَ طلوعِ الفجرِ منْ ليلةِ جَمْعٍ فَقَدْ تَمَّ حَجُّهُ". (رواه النسائي) (١)

ဟဇရသ်အဗ္ဗဒ္ဒုရ်ရဟ်မာနဗ်ဗင်ယအ်မုရ်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ကျွန်တော်သည်ကိုယ်တော်မြတ် ﷺ နှင့်အတူ(ဟဂျ်ခရီးစဉ်တွင်)လိုက်ပါခဲ့သည်။ ကိုယ်တော်မြတ် ﷺ ထံလူတစ်ချို့ရောက်ရှိလာပြီးဟဂျ်(၏အရေးပါးဆုံးသော) ကဏ္ဍနှင့်ပတ်သက်၍မေးမြန်းကြရာကိုယ်တော်မြတ် ﷺ က ''ဟဂျ်၏အရေးပါဆုံးသောကဏ္ဍသည် အရဖားသ်(ကွင်းပြင်တွင်ခေတ္တပင်မဆို ဆိုင်းငံ့နားနေခြင်း)ဖြစ်သည်။ မည်သူမဆို အရဖားသ်နေ့ (ဇစ်လ်ဟဂျ်(၉)ရက်နေ့မွန်းလွဲချိန်မှစ၍) (မုဇ်ဒလေ့ဖဟ်တွင်နားနေရမည့်(၁၀)ရက်နေ့)ညဦ့ဖဂျ်ရ်အချိန်မတိုင်မီထိ အရဖားသ်ကွင်းပြင်တွင် ဆိုင်းငံ့နားနေလိုက်ပါက ထိုသူ၏ဟဂျ်သည် ပြည့်စုံစွာဖြင့် အထမြောက်သွားမည်။

### အကျိုးကျေးဇူး

ဟဂျ်၏ဖရဇ်အချက်များအနက် အရေးပါဆုံးသောကဏ္ဍတစ်ခုမှာ အရဖားသ်ကွင်းပြင်တွင် ခေတ္တပင်မဆို ဆိုင်းငံ့နားနေခြင်းဖြစ်သည်။ မည်သူမဆိုအရဖားသ်နေ့ ဇစ်လ်ဟဂျ်(၉)ရက်နေ့မွန်းလွဲချိန်မှစ၍ (၁၀)ရက်နေ့ညဦ့ဖဂျ်ရ်အချိန်မတိုင်မီထိ အရဖားသ်ကွင်းပြင်တွင် ဆိုင်းငံ့နားနေလိုက်ပါက ထိုသူ၏ဟဂျ်သည်အထမြောက်သွားမည်။ သို့သော် ဇစ်လ်ဟဂျ်လ(၉)ရက်နေ့ နေဝင်ချိန်အထိ အရဖားသ်ကွင်းပြင်တွင် ဆိုင်းငံ့ခြင်းမှာမူ ဝါဂျိဗ်ဖြစ်သည်။

အရဖားသ်ကွင်းပြင်သည် မက္ကဟ်ရွှေမြို့တော်နှင့်(၉)မိုင်အကွာ ဟရမ်နယ်နိ

မိတ်၏ ပြင်ပရှိကြီးမားကျယ်ပြန့်ပြီးခန့်ညားသော ကွင်းပြင်ကြီးဖြစ်သည်။ ထိုကွင်းပြင်ထဲတွင်ကိုယ်တော်မြတ် ﷺ နမားဇ်ဝတ်ပြုခဲ့သော"နမိရဟ်"အမည်ရှိ ဗလီတစ်လုံးရှိသည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| မုဇ်ဒလေ့ဖဟ်တွင်အိပ်ရမည့်ညဥ့် | لَيْلَةُ جَمْعٍ |

**ဟဒီးဆ်ဆင့်ပြန်သည့်ဆွဟာဗီအကြောင်း**

## سيدنا عبد الرحمن بن يعمر رضي الله عنه

سيدنا عبد الرحمن بن يعمر رضي الله عنه သခင်ကြီးသည်ဒိုင်းလ်မျိုးနွယ်ဝင်ဆွဟာဗီတစ်ပါးဖြစ်သည်။ မက္ကဟ်မြို့နှင့် ကူဖာမြို့တို့တွင် နေထိုင်ခဲ့သည်။ ခိုရာစားန်ပြည်နယ်တွင် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ် ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း(၃)ပုဒ်ခန့်ဆင့်ပြန်ခဲ့သည်။ (٢)

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့် တကွရွတ်ဆိုပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ပြောပြပါ။

၃။ အရဖားသ်ကွင်းပြင်အကြောင်းရှင်းပြပါ။

၄။ အရဖားသ်ကွင်းပြင်သည် ဟရမ်နယ်နိမိတ်၏ အပြင်တွင်ရှိပါသလား။

၅။ ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်းရေးပါ။

❖❖❖

(١) أخرجه النسائي في سننه : "باب فرض الوقوف بعرفة" ر:٣٠١٦

(٢) رواة التهذيبين : "تهذيب الكمال للمزي" ، "تهذيب التهذيب لابن حجر" . معرفة الصحابة لأبي نعيم

# الحديث التاسع والخمسون

## (၅၉) အရဖားသ်တွင် ဇုဟုရ်နှင့်အဆွရ်ကို ပေါင်းဖတ်ခြင်း

(عن) جابر بن عبد الله رضي الله عنه قال : سار رسول الله صلى الله عليه و سلم حتى أتى عرفةَ ، فوَجَدَ الْقُبَّةَ قد ضُرِبَتْ له بِنَمِرَةَ فَنَزَلَ بها حتى إذا زَاغَتْ الشمسُ أَمَرَ بالْقَصْوَاءِ فرُحِلَتْ له ؛ حتى إذا انْتَهٰى إلى بَطْنِ الْوَادِيْ خطب الناسَ ، ثم أَذَّن بلالٌ ثم أقام فصلى الظهرَ ، ثم أقام فصلى العصرَ ولم يُصَلِّ بَيْنَهُمَا شيْئًا " . (رواه النسائي)(١)

ဟဇရသ်ဂျာဗိရ် ﷜သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺသည်(ဇီလ်ဟဂျ်လ(၉)ရက်နေ့တွင်) အရဖားသ်ကွင်းပြင်ရောက်သည့်တိုင်ကြွမြန်းတော်မူခဲ့သည်။ နမိရဟ်ဗလီအနားတွင်ကိုယ်တော်မြတ်ﷺအတွက် ထိုးထားသောရွက်ဖျင်တဲတွင် စတည်းချခဲ့သည်။ နေမွန်းလွဲသွားသောအခါ ကဆ်ွဝါအမည်ရှိကုလားအုတ်ကို စီးနင်းနိုင်ရန် အသင့်ပြုစေခဲ့ပြီး ဗသ်ွနီအွရနဟ် သို့ကြွမြန်းတော်မူခဲ့သည်။ ထိုနေရာတွင် လူတို့အား ဟဂျ်၏ခွသ်ဗာပေးခဲ့သည်။ ထို့နောက် ဟဇရသ်ဘေလားလ်﷜သည်အဇာန်နှင့်အေကာမသ်ဆိုပြီး ဇုဟုရ်နမားဇ်ကို ဝတ်ပြုခဲ့သည်။ ထို့နောက်အေကာမသ်သာဆိုပြီး အဆွရ်နမားဇ်ကို ဝတ်ပြုခဲ့သည်။ ထိုဖရဇ်နမားဇ်(၂)ကြိမ်ကို ပေါင်းပြီးဖတ်ခဲ့သည်။ ထိုနမားဇ်(၂)ကြိမ်ကြားတွင်မည်သည့်နမားဇ်ကိုမျှ ဝတ်မပြုခဲ့ပါ။

### အကျိုးကျေးဇူး

အရဖားသ်နေ့တွင် အရဖသ်ကွင်းပြင်၌ ဇုဟုရ်နှင့်အဆွရ်နမားဇ် နှစ်ခုလုံးကို ဇုဟုရ်အချိန်တွင် စုပေါင်း၍ဖတ်ခြင်းသည်စွန္နသ်ဖြစ်သည်။

သို့သော် ထိုသို့နမားဇ်နှစ်ကြိမ်ကိုပူးပေါင်းဖတ်ရန် စည်းကမ်းချက်အချို့ရှိသည်။ (၁)ဟဂျ်အတွက် အိဟ်ရာမ်ရှုံထားရမည်။ (၂) မွတ်စ်လင်မ်တို့၏ခေါင်းဆောင် (သို့)ၝင်းကိုယ်စားလှယ်နောက်မှ နမိရဟ်ဗလီတွင်ဝတ်ပြုရမည်။ ဤစည်းကမ်းချက်များ

မရှိပါက နမားဇ်နှစ်ကြိမ်ကိုပေါင်းဖတ်ပိုင်ခွင့်မရှိပါ။ သို့သာမက မိမိတို့၏ရွက်ဖျင်တဲတွင်ဇုဟုရ်နမားဇ်ကို ဇုဟုရ်အချိန်တွင်လည်းကောင်း၊ အဆွရ်နမားဇ်ကိုအဆွရ်ချိန်တွင်လည်းကောင်း ဂျမာအသ်ဖြင့်ဝတ်ပြုလိုက်ရမည်။

စည်းကမ်းချက်များပြည့်ဝသောကြောင့် နမားဇ်နှစ်ကြိမ်ကိုပေါင်းဖတ်ခွင့်ရရှိသူများသည် ထိုနမားဇ်နှစ်ကြိမ်ကို အဇာန်တစ်ကြိမ် အေကာမသ်နှစ်ကြိမ်ဖြင့်ဝတ်ပြုရမည်။ ထိုနမားဇ်နှစ်ကြိမ်ကြားတွင် မည်သည့်နဖိလ် နမားဇ်ကိုမျှ ဝတ်ပြုခြင်းမပြုရပါ။

ဤသို့ နမားဇ်နှစ်ကြိမ်ကို ပေါင်းဖတ်ခြင်းသည် ဟဂ်ျ၏ ကျင့်စဉ်များအနက်တစ်ခုဖြစ်သောကြောင့် အခြားမည်သည့်အခြေအနေတွင်မှ နမားဇ်နှစ်ကြိမ်ကိုပေါင်းဖတ်ပိုင်ခွင့်မရှိပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| قُبَّةٌ (ج) قُبَبٌ ، قِبَابٌ | သားရေဖြင့်ပြုလုပ်ထားသော ရွက်ဖျင်တဲ |
| زاغ (ض) زَيْغًا [الشمس] | နေမွန်းလွဲသွားခြင်း |
| رُحِلَ (مج) [لـ] | စီးနင်းရန် အစီးအနင်းအသင့်ပြင်ခြင်း |
| بَطْنُ الْوَادِيْ | အုရနဟ် လျှိုမြောင်၊ ကွင်းပြင် |
| الْقَصْوَاءُ | ကိုယ်တော်မြတ် ﷺ ၏ ကုလားအုတ်မ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွ ဖတ်ပြပါ။

၂။ အရဖားသ်တွင် ဇုဟုရ်နှင့်အဆွရ်ကို ပေါင်းဖတ်ရန် လိုအပ်သောစည်းကမ်းချက်များကိုပြောပြပါ။

၃။ ဤသို့ပေါင်းဖတ်ခြင်းသည် မည်သည့်ကျင့်စဉ်၏အစိတ်အပိုင်းဖြစ်သနည်း။

❖❖❖

(١) أخرجه النسائي في سننه :" باب الجمع بين الظهر والعصر بعرفة" ر:٦٠٤

## الحديث الستون

## (၆၀) မုဇ်ဒလေဖဟ်တွင် မဂ်ရိဗ်နှင့်အေရှာကို ပေါင်းဖတ်ခြင်း

عن ابن عمر رضي الله عنهما " أن رسول الله صلى الله عليه و سلم جَمَعَ بينَ المغربِ والعشاءِ بجَمْعٍ ؛ بإقامة واحدة ، لَمْ يُسَبِّحْ بَيْنَهُمَا ولَا على إِثْرِ كلِّ واحدةٍ مِنْهُمَا. " (رواه النسائي) (١)

ဟဇရတ်အိဗ်နေ့အုမရ် رضي الله عنهما ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ်ﷺသည် မုဇ်ဒလေဖဟ်တွင် မဂ်ရိဗ်နှင့်အေရှာကို အေကာမသ်တစ်ကြိမ်တည်းဖြင့်ပေါင်းဖတ်တော်မူခဲ့သည်။ ထိုနမားဇ်နှစ်ကြိမ်ကြားနှင့်နောက်တွင်မည်သည့်နဖိလ်နမားဇ်ကိုမျှ ဝတ်ပြုခြင်းမရှိခဲ့ပါ။

### အကျိုးကျေးဇူး

ဇိလ်ဟဂ်ျလ(၉)ရက်နေ့ညနေ နေဝင်ပြီးနောက် အရဖားသ်ကွင်းပြင်မှမုဇ်ဒလေဖာသို့သွားရသည်။ မုဇ်ဒလေဖာသည် အရဖားသ်နှင့်(၉)မိုင်အကွာ ဟရမ်နယ်နိမိတ်အတွင်းရှိ ကွင်းပြင်တစ်ခုဖြစ်သည်။

ထို့နောက် မုဇ်ဒလေဖာတွင် မဂ်ရိဗ်နှင့်အေရှာကိုအေကာမသ်တစ်ကြိမ်တည်းဖြင့်ပေါင်းဖတ်ရမည်။ မဂ်ရိဗ်ဖရဇ်ပြီးသည်နှင့်မဆိုင်းမတွအေရှာဖရဇ်ကို ဝတ်ပြုရမည်။

ဤညကိုမုဇ်ဒလေဖဟ်တွင်ကုန်ဆုံးခြင်းမှာ စွန္နသ်ဖြစ်သည်။ ဖဂျရ်အချိန်မှ နေမထွက်မီအချိန်ကြား ခနတာဆိုင်းငံ့နေခြင်းမှာဝါဂျိဗ်ဖြစ်သည်။ ရှိုင်သွာန်ကိုပစ်ပေါက်ရန်အတွက်ခဲများကို ဤမုဇ်ဒလေဖဟ်မှကောက်ယူသွားခြင်းမှာ မွတ်စ်သဟာဗ်ဖြစ်သည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| جَمْعٌ | မုဇ်ဒလေဖဟ်နေရာ |
| سبَّح (تفعيل) | နဖိလ်နမားဇ်ဝတ်ပြုခြင်း |
| إِثْرٌ | နောက် |

## လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွပြောပြပါ။

၂။ မုဇ်ဒလေ့ဖဟ်တွင် နားနေရမည့် ဝါဂျိဗ်အချိန်ကို ပြောပါ။



(١) أخرجه النسائي في سننه : " باب الجمع بين الصلاتين بالمزدلفة " ر:٣٠٢٨

## الحديث الحادي والستون

## (၆၁) ရှိုင်သွာန်ခဲပေါက်ရန်အချိန်များ

عـن جـابـر رضـي الله عـنـه قال :" رَمٰى رسولُ اللّٰهِ صلى الله عليه و سَلَّمَ الجَمْرَةَ يومَ النَّحْرِ ضُحًى ، ورمى بعدَ يومِ النحرِ إذا زالتِ الشَّمْسُ".

(رواه النسائي) (١)

(١) أخرجه النسائي في سننه : " باب وقت رمي جمرة العقبة يوم النحر " ؛ ر: ٣٠٦٣

ဟဇရသ်ဂျာဗိရ်ﷺသခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ကိုယ်တော်မြတ်ﷺသည် (ဇိလ်ဟဂျ်လ(၁၀)ရက်)အီး‌ဒ်နေ့ နေတက်ချိန်တွင်(ရှိုင်သွာန်)ကို ကိုယ်စားပြုသည့်ကျောက်တိုင်ကိုခဲပေါက်ခဲ့သည်။ ဇိလ်ဟဂျ်လ(၁၀)ရက်နေ့နောက်ပိုင်းတွင်မူ မွန်းလွဲပြီးမှသာ ခဲပေါက်ခဲ့သည်။

### အကျိုးကျေးဇူး

ဇိလ်ဟဂျ်လ(၁၀)ရက်နေ့ဖဂျရ်အပြီးတွင် မုဇ်ဒလေဖဟ်မှ(၃)မိုင်ခန့်ကွာဝေးသောမိနာသို့သွားရမည်။ မိနာတွင် ဂျမရားသ်အမည်ရှိ ရှိုင်သွာန်ကိုကိုယ်စားပြုသောကျောက်တိုင်(၃)တိုင်ရှိသည်။ မတ်စ်ဂျေဒ်ခိုင်းဖ်အနီးရှိပထမကျောက်တိုင်ကို 'ဂျမရဟ်အူလာ'၊ဒုတိယကို'ဝိုစ်သွာ'ဟုခေါ်ဆိုပြီး မိနာ၏အဆုံးတွင်ရှိသောဂျမရဟ်ကို'အကဗဟ်' ဟုခေါ်ဆိုသည်။

ဇိလ်ဟဂျ်လ(၁၀)ရက်နေ့တွင် ဂျမရဟ်အကဗဟ်တစ်ခုတည်းကိုသာ ခဲပေါက်ရသည်။ ခဲပေါက်ရန်စွန္နသ်အချိန်မှာ နံနက်နေထွက်ပြီးချိန်မှ နေမွန်းတည့်ချိန်အထိဖြစ်သည်။ မွန်းလွဲပြီးချိန်တွင်လည်း ခဲပေါက်နိုင်သည်။ နေဝင်ပြီးသောအခါတွင်မူ မက္ကရူးဟ်ဖြစ်သည်။ ရှိုင်သွာန်ကို ခဲ(၇)လုံးဖြင့် တစ်လုံးချင်းစီ ပစ်ပေါက်ရသည်။ ခဲပေါက်ခြင်းစတင်သည်နှင့်တစ်ပြိုင်နက် သလ်ဗီယာကိုရပ်လိုက်ရမည်။

(၁၁)ရက်နေ့နေမွန်းလွဲပြီးချိန်တွင် ဇုဟုရ်ဖတ်ပြီးနောက် ရှိုင်သွာန်ကိုယ်စားပြု

ကျောက်တိုင်(၃)ခုလုံးကို ခဲပစ်ရမည်။ ဦးစွာဂျမရဟ်အူလာကို ခဲ(၇)လုံး၊ ထို့နောက် လူရှင်းသည့်နေရာတွင် ခဏတာ ဒိုအာပြုရမည်။ ထို့နောက် ဂျမရဟ်ဝုစ်သွာကို ခဲ(၇) လုံးဖြင့်ပစ်ပေါက်ပြီး လူရှင်းသည့်နေရာတွင်ခဏတာဒိုအာပြုရမည်။ ထို့နောက်ဂျမရဟ် အကာဗဟ်ကိုခဲ(၇)လုံးဖြင့် ပေါက်ပြီးနောက် ဒိုအာပြုရန်မဆိုင်းငံ့ဘဲပြန်လာရမည်။

ဤသို့ခဲပေါက်ခြင်းမှာ ဖခင်ကြီးအိဗ်ရာဟီးမ်عليه السلامက သားတော်အိစ်မာအီးလ်عليه السلامကို ဇဗဟ်ပြုရန်သွားစဉ် လမ်းခရီးတွင်နေရာ(၃)နေရာ၌ ရှိုင်သွာန်က ဖြားယောင်း ရန်လာခဲ့ရာ ၎င်းအားခဲများဖြင့် ပစ်ပေါက်၍ထွက်ပြေးစေခဲ့သည်။ ထိုအထိမ်းအမှတ် ဖြင့် ဟာဂျီလောင်းတို့သည်လည်း ခဲပေါက်ကြသည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| مိနာရှိ ရှိုင်သွာန်ကိုယ်စားပြု ကျောက်တိုင်များ | جَمْرَةٌ (ج)جَمَرَاتٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ ပြောပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကိုဖော်ပြပါ။

၃။ ခဲပေါက်ရမည့်အချိန်များကို ပြောပြပါ။

၄။ မည်သည့်အထိမ်းအမှတ်ဖြင့် ခဲပေါက်ရသနည်း။

# الحديث الثاني والستون

## (၆၂) ဟဂ္ဂျ်ပြီးမြောက်ခြင်းကြောင့် အရှင်မြတ်ကို ကျေးဇူးတင်သောအားဖြင့် ကုရ်ဘာနီပြုခြင်းနှင့် ယင်း၏အသားကို ဟာဂျီကိုယ်တိုင် စားသုံးနိုင်ခြင်း

عـن جابر بن عبد الله رضي الله عنهما أن النبيَّ صلى الله عليه وسلم حَجَّ ثَلَاثَ حِـجَـجٍ :حِـجَّتَيْـنِ قَبْـلَ أنْ يُّهَاجِرَ وحِجَّةً بَعْدَ مَا هَاجَرَ مَعَهَا عُمْرَةٌ ، فَسَاقَ ثلاثًا وسِتِّيْنَ بَدَنَةً ، وَجَاءَ عَلِيٌّ منَ الْيَمَنِ بِبَقِيَّتِهَا فِيْهَا جَمَلٌ لِأَبِيْ جَهْلٍ فِيْ أَنْفِه بُرَةٌ مِـنْ فِـضَّةٍ، فَـنَـحَـرَهَـا فَـأَمَرَ رَسُوْلُ اللّٰه صلى الله عليه وَسَلَّمَ مِنْ كُلِّ بَدَنَةٍ بِبَضْعَةٍ ، فَطُبِخَتْ فَشَرِبَ مِنْ مَرَقِهَا". (رواه الترمذي) (١)

ဟဇရသ်ဂျာဗိရ်ﷺသခင်ထံမှ ဤသို့ဆင့်ပြန်ချက်လာရှိသည်။ မုချ နဗီတမန်တော်မြတ်ﷺသည် ဟဂ္ဂျ်(၃)ကြိမ်ပြုခဲ့သည်။ ဟစ်ဂျ်ရသ်မပြုမီ(၂)ကြိမ်၊ ဟစ်ဂျ်ရသ်ပြုပြီးနောက် အွမ်ရဟ်နှင့်အတူ(၁)ကြိမ်ပြုခဲ့သည်။ ကိုယ်တော်ﷺသည် ကုရ်ဘာနီသားကောင်(၆၃)ကောင်အားတစ်ပါတည်းယူဆောင်လာတော်မူခဲ့သည်။ ဟဇရသ်အလီသခင်သည် ကျန်နေသော သားကောင်(၃၇)ကောင်အား ယီမင်နိုင်ငံမှယူဆောင်လာခဲ့သည်။ ထိုသားကောင်များတွင် နှာခေါင်းတွင်ငွေကွင်းတပ်ဆင်ထားသော အဗူဂျဟလ်၏ ကုလားအုတ်မတစ်ကောင်လည်းပါလာခဲ့သည်။

ကိုယ်တော်ﷺသည် ကုလားအုတ်များကို ကုရ်ဘာနီပြုလုပ်ခဲ့ပြီး သားကောင်တစ်ကောင်တိုင်းစီမှ အသားတစ်တုံးကျစီ(ယူ၍)ချက်ပြုတ်စေခဲ့ပြီးနောက်ဟင်းရည်ကို သောက်သုံးတော်မူခဲ့သည်။

### အကျိုးကျေးဇူး

ဤဟဒီးဆ်တော်တွင် ကိုယ်တော်မြတ် ﷺ ၏ ဟဂ္ဂျ်အကြိမ်အရေ အတွက်ကို ဖော်ပြထားသည်။ ကိုယ်တော်သခင်သည် နောက်ဆုံးဟဂ္ဂျ်တွင်သားကောင်(၁၀၀)အား မိမိဘက်မှ၊အွမ္မသ်ထုတစ်ရပ်လုံးဘက်မှအရှင်မြတ်အတွက်ဇဗဟ်ပြုလုပ်တော်မူခဲ့သည်။

ဟဂ်ျတွင်ပြုလုပ်သော ကုရ်ဘာနီသည် دَمُ الشُّكْرِ အရှင်မြတ်ကို ကျေးဇူးတင်ခြင်းအထိမ်းအမှတ်ဖြင့် ပြုခြင်းဖြစ်သည်။ ကုရ်ဘာနီအီးဒ်အတွက်ပြုသော ကုရ်ဘာနီ လုံးဝမဟုတ်ပါ။ အဘယ့်ကြောင့်ဆိုသော်ခရီးသည်ပေါ်တွင်ကုရ်ဘာနီတာဝန်မရှိပါ။ အကယ်၍ دم الشكر ၏ နီယသ်မပြုဘဲ ကုရ်ဘာနီ၏နီယသ်ပြုမိပါက دم الشكر အထမမြောက်ပေ။

ထိုအသားကို ဟာဂျီသည်ကိုယ်တိုင်လည်း စားသုံးနိုင်သည်။ အခြားသူများကို လည်းကျွေးမွေးနိုင်ပါသည်။

**ကျက်မှတ်ရန် ခက်ဆစ်များ**

| | |
|---|---|
| ဟဂ်ျပြုမူဆောင်ရွက်ခြင်း | حَجَّةٌ (ج) حِجَجٌ |
| မောင်းနှင်ခြင်း၊ ဆွဲခေါ်လာခြင်း | سَاقَ (ن) سَوْقًا |
| ကုရ်ဘာနီကုလားအုတ်၊ ကုရ်ဘာနီသားကောင် | بَدَنَةٌ (ج) بُدْنٌ |
| နွားခေါင်းရိုးတွင် တပ်ဆင်သောကွင်း | بُرَةٌ (ج) بُرَاتٌ ، بُرًى |
| အသားတုံး | بَضْعَةٌ |
| ဟင်းရည် | مَرَقٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တတွ ရွတ်ဆိုပြပါ။

၂။ ကိုယ်တော် ﷺ သည်သားကောင်မည်မျှကို မည်သူတို့အတွက် ဇဗဟ်ပြုခဲ့သနည်း။

၃။ ဟဂ်ျတွင်ပြုသော ကုရ်ဘာနီအကြောင်း တင်ပြပါ။



(١) أخرجه الترمذي في سننه: "باب ماجاء كم حج النبي ﷺ" . ر:٨١٢

## الحديث الثالث و الستون

## (၆၃) ဦးခေါင်းရိပ်ခြင်း (သို့) ဆံပင်ညှပ်ခြင်း

عَـن أَبِى هُرَيرَةَ رَضِيَ اللَّهُ عَنهُ قَالَ : قَالَ رَسُولُ اللَّهِ صَلَّى اللَّهُ عَلَيهِ وَسَلَّمَ : " اللَّهُـمَّ اغـفِـرْ لِـلمُحَلِّقِينَ ؛ قَالُوا : وَلِلمُقَصِّرِينَ ؟ قَالَ: " اللَّهُمَّ اغفِر لِلمُحَلِّقِينَ ؛ قَالُوا : " وَلِلمُقَصِّرِينَ ؟ " قَالَهَا ثَلَاثًا ، قَالَ : " وَلِلمُقَصِّرِينَ " .(رواه البخاري)(١)

ဟဇရသ်အဗူဟုရိုင်ရဟ်ﷺသခင်ထံမှ ဤသို့ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်ﷺသည်(ဟဂျ်နှင့်အွမ်ရဟ်ကျင့်စဉ်များအပြီး)ခေါင်းရိပ်သူများအတွက် ဤသို့ဒိုအာပြုပေးခဲ့သည်။ ''အို-အရှင် ဦးခေါင်းရိပ်သူများ၏အပြစ်ကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ။''ထိုအခါ ဆွဟာဗာများက''ဆံပင်ညှပ်သူများအတွက်''မည်သို့ရှိသနည်း။''ဟု မေးမြန်းသော်လည်း ကိုယ်တော်မြတ်ကြီး ﷺက(၃)ကြိမ်တိုင်တိုင် ''အို-အရှင် ခေါင်းရိပ်သူများ၏အပြစ်ကို ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ။''ဟုသာ မိန့်တော်မူခဲ့ပြီး စတုတ္ထအကြိမ်မှသာ''အို-အရှင် ဆံပင်ညှပ်သူများ၏အပြစ်ကိုလည်း ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ။''ဟု ဒိုအာပြုပေးတော်မူခဲ့သည်။

### အကျိုးကျေးဇူး

دم الشكر(ကျေးဇူးတင်သောအားဖြင့် သားကောင်ကုရ်ဘာနီ)ပြုပြီးနောက် ဆံပင်ညှပ်ခြင်း၊ ရိပ်ခြင်းတို့သည်အရေးကြီးသော တာဝန်ဖြစ်သည်။ အမျိုးသားတို့အတွက် ဆံပင်ရိပ်ခြင်းသည် သာမြတ်သော စွန္နသ်ဖြစ်သည်။

အမျိုးသားများအတွက်ဦးခေါင်း၏ လေးပုံတစ်ပုံခန့်အတိုင်းအတာမှ လက်တစ်ဆစ်ခန့်ညှပ်ခြင်းသည် ဝါဂျိဗ်တာဝန်ဖြစ်သည်။ ဤအတိုင်းအတာခန့်ကို မညှပ်မိပါက အိဟ်ရာမ်၏ပညတ်ချက်များကျန်ရှိနေမည်ဖြစ်သည်။

အမျိုးသမီးများအတွက် ဆံပင်ရိပ်ခြင်းသည် ဟရာမ်ဖြစ်သည်။ အနည်းဆုံးဦးခေါင်းရှိ လေးပုံတစ်ပုံမှဆံပင်ကို လက်တစ်ဆစ်ခန့်ဖြတ်ရန်မှာ ဝါဂျိဗ်ဖြစ်သည်။

ဦးခေါင်းတစ်ခုလုံးမှ လက်တစ်ဆစ်ခန့်ညှပ်ရန်မှာ စွန္နသ်ဖြစ်သည်။

အိဟ်ရာမ်မှ ဟလာလ်ဖြစ်စေရန်မုဟ်ရင်မ်သည် အိဟ်ရာမ်ချွတ်ရန်နိယသ်ဖြင့် မိမိဦးခေါင်းကိုမိမိကိုယ်တိုင်ရိပ်ခြင်း၊ ညှပ်ခြင်းများပြုပိုင်ပြီး အခြားသူများကို အိဟ်ရာမ် ပြီးမြောက်စေရန် ဆံပင်ရိပ်ပေးခြင်း(သို့)ညှပ်ပေးခြင်းလည်း ပြုပိုင်သည်။

ဦးခေါင်းပြောင်နေသူ၊ ကတုံးတုံးထားသူဖြစ်ပါက ဦးခေါင်းပေါ်ဓါးတင်၍ခြစ် လိုက်ရန်မှာ ဝါဂျိဗ်တာဝန်ဖြစ်သည်။ အကယ်၍ဦးခေါင်းရှိအနာကြောင့် ဓါးတင်ရန် မဖြစ်နိုင်ပါက ဤဝါဂျိဗ်တာဝန်ကို ဆောင်ရွက်ရန် မလိုအပ်တော့ပေ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ဦးခေါင်းရိပ်ခြင်း | حلَّقَ (تفعيل) |
| ဆံပင်ညှပ်ခြင်း | قَصَّرَ (تفعيل) |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရွတ်ဆိုပြပါ။

၂။ မုဟ်ရင်မ်အမျိုးသား၏ ဆံချခြင်းဆိုင်ရာ အမိန့်ကို ပြောပြပါ။

၃။ အမျိုးသမီးတို့၏ ဆံပင်ညှပ်ခြင်းဆိုင်ရာ အမိန့်မည်သို့ရှိသနည်း။

၄။ ဆံပင်မရှိသူ၊ ဦးခေါင်းတွင်အနာရှိသူများအတွက် တရားတော်လာ အမိန့်ကို ပြောပြပါ။



(١) أخرجه البخاري في صحيحه : " باب الحلق والتقصير عند الإحلال " ر:١٧٢٨

## جِنَايَاتٌ'ဂျိနာယားသ်' စည်းကမ်းဖောက်ဖျက်မှုများနှင့် စည်းကမ်းဖောက်ခြင်းပေါ်ပေးရသော ဒဏ်ကြေးများ

جِنَايَةٌ ဆိုသည်မှာ အမှားကျူးလွန်ခြင်း၊ လျှော့လုပ်ခြင်းဟူ၍ဖြစ်သည်။ ဟဂ်ျ အခန်းတွင် جِنَايَة ဆိုသည်မှာ ဟရမ်နယ်နိမိတ်အတွင်း(သို့) အိဟ်ရာမ်ဝတ်ဆင်ထား ချိန်ကျူးလွန်မိသော ပြစ်မှုများကိုဆိုလိုသည်။

ရှေ့လာမည့်ဟဒီးဆ်တော်များကို မတင်ပြမီ'ဂျိနာယားသ်'နှင့် စပ်လျဉ်းသည့် အခြေခံအချက်အလက်များကို ဦးစွာတင်ပြပါမည်။

ဟဂ်ျတွင် ဂျိနာယားသ်(စည်းကမ်းဖောက်ဖျက်ခြင်း)ပုံစံများမှာအမျိုးမျိုးရှိသည်။ ယင်းတို့အနက် အရေးကြီးသောအချက်များကိုတင်ပြမည်။

**၁။ ဟရမ်နယ်နိမိတ်တွင် တားမြစ်ထားသောကိစ္စရပ်များကို ကျူးလွန်ခြင်း**

ဤပုံစံမှာ(၂)မျိုးဖြစ်နိုင်သည်။

(၁) ဟရမ်နယ်နိမိတ်အတွင်းရှိ ချွင်းချက်ရှိထားသောသတ္တဝါများမှ အပ အခြားသတ္တဝါများကို ခြိမ်းခြောက်ခြင်း၊ အမဲလိုက်ခြင်း၊ ဒုက္ခပေးခြင်း၊ ဖမ်းဆီးခြင်း။

(၂) ဟရမ်နယ်နိမိတ်အတွင်းရှိသစ်ပင်၊ မြက်ပင်များကို ဖြတ်တောက်ခြင်း၊ ခုတ်ထွင်းခြင်း

ဤအချက်နှစ်ချက်သည် အိဟ်ရာမ်ပြုထားသူ၊ မပြုထားသူနှစ်ဦးလုံးနှင့်သက် ဆိုင်သည်။

ဟရမ်နယ်နိမိတ်ရှိသားကောင်ကို သတ်ဖြတ်မိလျှင်သော်လည်းကောင်းသစ်ပင် ကိုဖြတ်တောက်မိလျှင်သော်လည်းကောင်း ယင်း၏ကာလတန်ဖိုးကိုဆဒကဟ်ပြုရမည်။

**၂။ အိဟ်ရာမ်ပြုထားစဉ် စည်းကမ်းဖောက်ဖျက်မှုများ**

ဤပုံစံမှာ (၈) မျိုးဖြစ်နိုင်သည်။

(၁) ခန္ဓာကိုယ်၏အစိတ်အပိုင်းတစ်ခုအပြည့် အမွှေးအကြိုင်သုတ်လိမ်းခြင်း

(၂) အမျိုးသားများသည်တစ်ရက်တိတိ ချုပ်ထားသောအဝတ်ကိုဝတ်ဆင်ခြင်း

(၃) အမျိုးသားများသည် မျက်နှာ၊ဦးခေါင်းတို့ကိုတစ်ရက်တိတိဖုံးအုပ်ခြင်းနှင့် အမျိုးသမီးများသည် တစ်ရက်တိတိ မျက်နှာကိုထိကပ်စွာ ဖုံးအုပ်ခြင်း

(၄) ကိုယ်ခန္ဓာ အစိတ်အပိုင်းတစ်ခု၏လေးပုံတစ်ပုံခန့်ရှိ အမွေးအမျှင်များကိုဖြတ်ခြင်း၊ရိတ်ခြင်း၊ နှုတ်ခြင်း

(၅) ခြေချောင်းလက်ချောင်းများအားလုံးရှိခြေသည်း၊ လည်သည်းများကိုညှပ်ခြင်း၊ (သို့) လက်တစ်ဖက်၏ လက်ချောင်းအားလုံး(သို့)ခြေတစ်ဖက်၏ခြေချောင်းများအားလုံး လှီးဖြတ်ခြင်း။

(၆) ကိုယ်ခန္ဓာမှ သန်းများကို ဖယ်ရှားခြင်း၊ သို့မဟုတ် သတ်ခြင်း

(၇) ကာမဆိုင်ရာ အပြုအမူများပြုခြင်း (သို့) ကိုယ်လက်နှီးနှောခြင်း

(၈) ကုန်းသတ္တဝါများကို အမဲလိုက်ခြင်း

'ဂျိနာယသ်' စည်းကမ်းဖောက်ဖျက်မှုများနှင့် ပတ်သက်၍ သတ်မှတ်ထားသောဒဏ်ကြေးများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**၁။ دَمٌ 'ဒမ်' (သားကောင်ဇဗဟ်ပြု၍ပေးရသော ပြစ်မှုများ)**

၎င်းဒဏ်ကြေးအတွက် သိုးတစ်ကောင်လုံး၊ ဆိတ်တစ်ကောင်လုံး(သို့)နွားနှင့်ကုလားအုတ်ဖြစ်ပါက သားကောင်၏ 'ခုနှစ်ပုံတစ်ပုံ' စသည်တို့ ဖြစ်ပါသည်။

ဖော်ပြပါ'ဒဏ်ကြေး'ကို 'ဟရမ်' နယ်နိမိတ်အတွင်း၌သာ ပြုလုပ်ရမည်ဖြစ်ပြီး 'ဟရမ်'နယ်နိမိတ်အပြင်ဘက်၌ပြုလုပ်ပါက အထမြောက်မည် မဟုတ်ပါ။

သားကောင်'ဇဗဟ်'ပြုလုပ်၍ ဒဏ်ကြေးပေးလှူထားရသော ကာယကံရှင်သည် ယင်းသားကောင်၏ အသားကို စားသုံးပိုင်ခွင့်မရှိပါ။

အောက်ပါပြစ်မှုများကို ကျူးလွန်မိခြင်းဖြင့် 'ဒမ်'ပေးဆောင်ရပါသည်။

၁။ အိဟ်ရာမ်မပြုဘဲ မီကာသ်နယ်နိမိတ်ကို ကျော်ဖြတ်လာခြင်း

၂။ အရဖားသ်နေ့တွင် နေမဝင်မီအကြောင်းတစ်ခုခုဖြင့် အရဖားသ်ကွင်းပြင်တွင် ဆိုင်းငံ့မနေဘဲ အရဖားသ်နယ်နိမိတ်အပြင်သို့ ထွက်သွားခြင်း

၃။ (ခွင့်ပြုချက်မရှိသောသူသည်)မုဇ်ဒလေ့ဖာဟ်တွင် ဆိုင်းငံ့နေခြင်းကို စွန့်လွှတ်ခြင်း

၄။ ဇိလ်ဟဂျ်(၁၀)ရက်နေ့၏ ကျင့်စဉ်များဖြစ်သော (၁)ရှိုင်သွာန်ခဲပေါက်ခြင်း

(၂)ကုရ်ဘာနီပြုခြင်း (၃) ဦးခေါင်းရိပ်ခြင်း၊ညှပ်ခြင်း

၅။ ဇိလ်ဟဂ်ျလ (၁၀) ရက်နေ့တွင် ရှိုင်သွာန်ကြီးအားခဲပေါက်ခြင်းကို စွန့်လွှတ်ခြင်း

**၂ ။ ' ဘဒနဟ် ' (နွား(သို့) ကုလားအုတ်တစ်ကောင် ဇဗဟ်လုပ်ပေးရသောပြစ်မှုများ)**

အောက်ပါပြစ်မှုများကို ကျူးလွန်ခြင်းဖြင့်(နွား(သို့)ကုလားအုတ်တစ်ကောင် ဇဗဟ်လုပ်ပေးရမည်။)

၁။ ဟာဂျီတစ်ဦးသည် အရဖားသ်ကွင်းပြင်၌ဆိုင်းငံ့နေထိုင်ခဲ့ပြီး ဆံပင်ညှပ်ခြင်း၊ ရိတ်ခြင်းမပြုမီ၊ သွဝါးဖ့ဇေယာရသ်မပြုမီအမျိုးသမီးနှင့်ပေါင်းသင်းဆက်ဆံလိုက်ခြင်း

၂။ ကိုယ်မသန့်သော အခြေအနေတွင် သဝါးဖ့ဇေယာရသ်ပြုလုပ်ခြင်း

**၃။ 'ဆွဒကဟ်' ပေးရသော ပြစ်မှုများ**

ဆွဒကဟ်ဆိုသည်မှာ "ဖစ်သ်ရာကြေး"တွင် ပေးဆောင်ရသည့် ဂျုံတစ်ပိဿာ (၁၀)သားခန့်အတိုင်းအတာ(သို့)ယင်း၏ကာလတန်ဖိုး၊အချို့အခြေအနေများတွင် လက်နှစ်ဆုပ်စာ ဂျုံစသည်တို့အား ဆင်းရဲသားကို ပေးဆောင်ခြင်းဖြစ်သည်။

၁။ ဟာဂျီတစ်ဦးသည် အိဟ်ရာမ်ဖြင့်ရှိနေစဉ် လက်ချောင်း၊ခြေချောင်းများမှ ငါးချောင်းထက်နည်း၍ လက်သည်း၊ခြေသည်းများကို ညှပ်ခြင်း။

လက်ချောင်းတစ်ချောင်းတိုင်းအတွက် "ဖစ်သ်ရာကြေး"တွင် ပေးဆောင်ရသည့် ဂျုံတစ်ပိဿာ (၁၀)သားခန့်အတိုင်းအတာ(သို့)ယင်း၏ကာလတန်ဖိုးပေးရမည်။

၂။ ကိုယ်ခန္ဓာရှိ အစိတ်အပိုင်းကြီးတစ်ခုကိုသော်လည်းကောင်း၊ယင်း၏လေးပုံတစ်ပုံကို သော်လည်းကောင်း ရေမွှေးသုတ်လိမ်းမိပါက အချိန်မည်မျှအတိုင်းအတာပင် ကြာညောင်းသည်ဖြစ်စေ၊ရေမွှေးပမာဏမည်မျှပင်ဖြစ်စေ 'ဒမ်' ပေးရမည်။

အစိတ်အပိုင်းငယ်တစ်ခုကိုသော်လည်းကောင်း၊ အစိတ်အပိုင်းကြီးတစ်ခု၏ လေးပုံတစ်ပုံထက်နည်းသော နေရာတွင်သော်လည်းကောင်း ရေမွှေးအနည်းငယ် သုတ်လိမ်းမိပါက ဆွဒကဟ်ပေးရမည်။

၃။ မျက်နှာနှင့် ဦးခေါင်းပေါ် ဦးထုပ်(သို့)အဝတ်တစ်ခုခုအား ခဏတာ ဖုံးအုပ်မိခြင်း။

အမျိုးသမီးများသည်လည်း အဝတ်စတစ်ခုခုဖြင့် မျက်နှာကိုထိကပ်စွာ ဖုံးအုပ်မိခြင်း။

☆ ဤသို့ဖုံးအုပ်ရာ၌ (၁၂)နာရီ (နေ့တစ်ဝက်) (သို့) ယင်းထက်ပိုပြီး ဖုံးအုပ်ထား မိပါက'ဒမ်' ပေးဆောင်ရန် ဝါဂျိဗ်ဖြစ်သည်။

☆ (၁၂)နာရီထက်နည်းပါက "ဖစ်သ်ရာကြေး"တွင် ပေးဆောင်ရသည့် ဂျုံ တစ်ပိဿာ(၁၀)သားခန့်အတိုင်းအတာ(သို့)ယင်း၏ကာလတန်ဖိုးပေးဆောင်ရမည်။

☆ တစ်နာရီထက်နည်းပြီးဖုံးအုပ်မိပါက လက်နှစ်ဆုပ်စာခန့်ဂျုံ ဆွဒကဟ်ပေးရမည်။

**၄။ သားကောင်ဇဗဟ်လုပ်ခြင်း၊ဆွဒကဟ်ပေးခြင်းနှင့် ရိုဇာစောင့်ထိန်းခြင်းတို့တွင် ရွေးချယ်ပိုင်ခွင့်ရှိသည့် ပြစ်မှုများ ကျူးလွန်ခြင်း**

အောက်ပါအချက်တို့ကို ကျူးလွန်မိလျှင် (၃)ရက်ရိုဇာစောင့်ထိန်းခြင်း၊ ဆွဒကဟ်ပေးခြင်း၊ ဘဒနဟ်ပေးခြင်းစသည်တို့တွင် ရွေးချယ်ပိုင်ခွင့်ရှိသည်။

အိဟ်ရာမ်၏အခြေအနေတွင် ရှရီအသ်၏ခွင့်ပြုထားသော အကြောင်းတစ်ခု ကြောင့်ခေါင်းရိတ်ခြင်း၊ အမွှေးအကြိုင်သုံးခြင်း၊ ချုပ်ထားသော အဝတ်ကိုဝတ်လိုက်ရခြင်း၊ ရုတ်တရက်ဖျားနာခြင်း၊ အအေးမိခြင်း၊ အနာပေါက်ခြင်း၊ ထိခိုက်ဒဏ်ရာရခြင်း၊ ကိုက်ခဲခြင်း၊ ခေါင်းတွင်သန်းထခြင်းစသည်တို့ကြောင့်'အိဟ်ရာမ်'ဝတ်ဆင်ပြီး စောင့်ထိန်းရမည့် စည်းကမ်းများကို ဖောက်ဖျက်မိခြင်းဖြင့် ဖော်ပြပါပြစ်ဒဏ်(၃)မျိုး အနက်တစ်ခုကို ရွေးချယ်ခွင့်ရှိသည်။

**မှတ်သားရန်**

ဟရမ်နယ်နိမိတ်အတွင်းစောင့်ထိန်းအပ်သောစည်းကမ်းများကို ဖောက်ဖျက်မိခြင်း၊ အိဟ်ရာမ်ဆိုင်စည်းကမ်းများကိုချိုးဖောက်မိခြင်းနှင့်စပ်လျဉ်း၍ ပေးရသောဒဏ်များမှာ ကျူးလွန်မိသည့်အကြောင်းအရင်း၊ ကျူးလွန်လိုက်သည့်ပမာဏအတိုင်းအတာပေါ်အခြေခံ၍ (၄)မျိုးကွဲသွားသည်။

(၁) အကြောင်းမဲ့ ပြည့်ပြည့်ဝဝကျူးလွန်မိခြင်း

(၂) အကြောင်းမဲ့ အပြည့်အဝမကျူးလွန်မိခြင်း

(၃) အကြောင်းရှိပြီး အပြည့်အဝကျူးလွန်မိခြင်း

(၄) အကြောင်းရှိပြီး အပြည့်အဝမကျူးလွန်မိခြင်း

(၁) ဟရမ်နှင့်အိဟ်ရာမ်ဆိုင်ရာစည်းကမ်းဖောက်ဖျက်မှုများကို အကြောင်းမဲ့ ကျူးလွန်ခြင်း၊ ပြည့်ပြည့်ဝဝကျူးလွန်ခြင်းဖြင့် 'ဒမ်'ပေးဆောင်ရန် ဝါဂျိဗ်ဖြစ်သွားမည်။

(၂) အကြောင်းမဲ့ ပြည့်ပြည့်ဝဝကျူးလွန်ခြင်းမဟုတ်ပါက ဆွဒကဟ်ပေးဆောင် ရန်ဝါဂျိဗ်ဖြစ်သွားမည်။

(၃)အကြောင်းတစ်ခုခုကြောင့် ပြည့်ပြည့်ဝဝကျူးလွန်ခြင်းဖြစ်ပါက'ဒမ်'ပေး ခြင်း၊ သုံးရက်ရိုဇာထားခြင်း၊ဆင်းရဲသား(၆)ဦးအနက်တစ်ဦးတိုင်းအား "ဖစ်သ်ရာကြေး" တွင် ပေးဆောင်ရသည့် ဂျုံတစ်ပိဿာ(၁၀)သားခန့်အတိုင်းအတာ(သို့)ယင်း၏ကာလ တန်ဖိုးကိုဆွဒကဟ်ပေးခြင်းတို့တွင် ရွေးချယ်ပိုင်ခွင့်ရှိသည်။

(၄) အကြောင်းတစ်ခုခုကြောင့် ပြည့်ပြည့်ဝဝကျူးလွန်ခြင်းမဟုတ်ပါက ရိုဇာ တစ်ရက်ထားခြင်း၊ ဆွဒကဟ်ပေးခြင်းတို့တွင် ရွေးချယ်ပိုင်ခွင့်ရှိသည်။

ဒဏ်ကြေးမပေးမီ ပြစ်မှုတစ်ခုတည်းကိုအကြိမ်ကြိမ်ကျူးလွန်ထားပါကတစ်ကြိမ် ဒဏ်ကြေးပေးခြင်းသည် လုံလောက်သွားမည်ဖြစ်သည်။

## الحديث الرابع والستون

## (၆၄) ရှိသေလေးစားထိုက်သော မြို့မက္ကာဟ် နှင့် ဟာရမ်နယ်နိမိတ်

عَـن ابنِ عَبَّاسٍ رضي الله عنهما قَالَ: قَالَ رَسُولُ اللّٰهِ صَلَّى اللّٰهُ عَلَيهِ وَسَلَّمَ يَـومَ الفَتحِ : " هَذَا البَلَدُ حَرَّمَهُ اللَّهُ يَومَ خَلَقَ السَّمَوَاتِ وَالأَرضَ، فَهُوَ حَرَامٌ بِحُرمَةِ اللّٰه إِلَـى يَـومِ الـقِيَـامَةِ ، لَا يُـعضَدُ شَوكُهُ ، وَلَا يُنَفَّرُ صَيدُهُ، وَلَا يَلتَقِطُ لُقَطَتَهُ إِلَّا مَن عَرَّفَهَا وَلَا يُختَلَى خَلَاهُ". (رواه النسائي) (١)

ဟဇရတ် အိဗ်နေ့အဗ္ဗါးစ် رضـــي اللّٰه عـنـهـمـا သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် صلى اللّٰه عليه وسلم သည် မက္ကာဟ်မြို့ကို အောင်နိုင်သည့်နေ့တွင် အောက်ပါအတိုင်းမိန့်ချွေတော်မူခဲ့သည်။ ''ဤမြို့အား အရှင်မြတ်က မိုးမြေတို့ကိုဖန်ဆင်းသည့်နေ့ကတည်းက ရှိသေလေးစားထိုက်သောမြို့အဖြစ်သတ်မှတ်ထားပြီးဖြစ်သည်။ အရှင်မြတ်၏ ရှိသေလေးစားရန် ပြဋ္ဌာန်းချက်ကြောင့် ကေယာမသ်တိုင် ဤမြို့သည်လေစားထိုက်နေမည်သာ ဖြစ်သည်။ ထို့ကြောင့်ဤမြို့၏ဆူးပင်များကို မဖြတ်တောက်ရ။ သားကောင်များကို ခြောက်လှန့်ခြင်းမပြုရ။ ကြေညာလိုသူမှအပ အခြားမည်သူမှ အောက်ကျနေသောပစ္စည်းများကို မကောက်ရ။ ထိုမြို့ရှိမြက်ပင်များကို မဖြတ်တောက်ရ။''

### အကျိုးကျေးဇူး

ဟဒီးဆ်တော်တွင် မက္ကာဟ်ရွှေမြို့တော်၏ ဟာရမ်နယ်နိမိတ်အတွင်း ပြုမရသည့်အချက်များကို ဖော်ပြထားသည်။ ဟာရမ်နယ်နိမိတ်ဆိုသည်မှာ မက္ကာဟ်မြို့တော်ကို အရပ်(၄)မျက်နှာမှ ကျောက်တိုင်အမှတ်အသားများဖြင့် ကန့်သတ်ပိုင်းခြားထားသည့် တားမြစ်နယ်မြေတစ်ခုဖြစ်သည်။ ထိုသို့ကန့်သတ်ပိုင်းခြားခဲ့သူမှာ ဟဇရတ်အိဗ်ရာဟီးမ် عليه السلام ဖြစ်ကြောင်းလာရှိသည်။ ကအ်ဗဟ်ကျောင်းတော်ကို ဗဟိုပြု၍ အောက်ပါအတိုင်း ဟာရမ်နယ်နိမိတ်ကို နားလည်နိုင်သည်။

၁။ မြောက်ဘက်မှ(၃)မိုင်အကွာတွင် သန်အီးမ်နေရာသို့မရောက်မီ စိုက်ထူထားသော ကျောက်တိုင်။ ထိုနေရာတွင် မတ်စ်ဂျေ့ဒ်အာအေရှာတည်ရှိသည်။

(ဤသည်မဒီနာဘက်မှလာသူများ၏ ဟာရမ်အစဖြစ်သည်။)

၂။ အနောက်ဘက်မှ (၁၀)မိုင်အကွာ ဟိုဒိုင်ဗီယဟ်တွင် စိုက်ထူထားသော

ကျောက်တိုင်။ (ဤသည် ဂျစ်ဒ္ဒါဘက်မှလာသူများ၏ ဟရမ်အစဖြစ် သည်။

၃။ အရှေ့ဘက်မှ(၉)မိုင်အကွာ ဂျေ့အစ်ရ်ရာနဟ်သို့သွားရာလမ်းပေါ်တွင် စိုက်ထူထားသောကျောက်တိုင်။

၄။ တောင်အရပ်မှ (၇)မိုင်အကွာ အရဖားသ်ကွင်းပြင်ရှိ နမိရဟ်ဗလီ အနားတွင် စိုက်ထူထားသော ကျောက်တိုင်။

(ဤသည် သွာအိဖ်ဘက်မှ လာသူများအတွက် ဟရမ်နယ်အစဖြစ်သည်။)

ဤနယ်နိမိတ်အတွင်း ဟဒီးဆ်တွင်ဖော်ပြထားသည့် အချက်များကိုကုန်းမြေတွင် ကျူးလွန်မိပါက ထိုနေရာ (သို့)ထိုနေရာနှင့်အနီးတဝိုက်ရှိ တိရိစ္ဆာန်တစ်ကောင်ကို သမာဓိရှိသူမှဈေးသတ်မှတ်ရမည်။ ထို့နောက် ထိုတိရစ္ဆာန်ကိုဝယ်ယူလို့ဖြတ်၍ လည်းကောင်း၊ ထိုတိရစ္ဆာန်၏တန်ဖိုးငွေဖြင့် အစားအစာဝယ်ယူလှူဒါန်းခြင်းဖြင့်လည်းကောင်း၊ ဆင်းရဲသားတစ်ဦးစီအား ဂျုံတစ်ပိဿာတစ်ဆယ်သား(သို့) စွန်ပလွံသီး၊ မုယောဆန်ဆိုလျှင် နှစ်ပိဿာနှစ်ဆယ်သားခန့်ကို ပေးလှူခြင်းဖြင့်လည်းကောင်းပြုလုပ်ဆောင်ရွက်နိုင်သည်။ (သို့)ရိုဇာစောင့်ထိန်းရမည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| သစ်ပင်ဖြတ်တောက်ခြင်း | عضد (ض) عَضْدًا(الشجر) |
| မွန်မြတ်စေခြင်း | حَرَّمَ (تفعيل) |
| ခြောက်လှန့်ခြင်း၊ ဟန့်ခြင်း | نَفَّرَ (تفعيل) |
| ကောက်ယူခြင်း | اِلْتَقَطَ (افتعال) |
| အောက်ကျနေသည့်ပစ္စည်း | لُقَطَةٌ |
| ဖြတ်တောက်ခြင်း | اختلى (افتعال) |
| မြက်စို | خَلاَةٌ (ج) خَلىً،أَخْلاَءٌ |
| ကြေညာခြင်း၊ မိတ်ဆက်ခြင်း | عَرَّفَ (تفعيل) |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တွင်ပါရှိသည့် ဟရမ်နယ်နိမိတ်သတ်မှတ်ချက်များကို ပြောပြပါ။

(١) أخرجه النسائي في سننه : "باب حرمة مكة " ر:٢٨٧٤

## الحديث الخامس والستون

## (၆၅) အိဟ်ရာမ်အခြေအနေတွင် အမဲလိုက်ခြင်း

عَن جَابِرٍ رَضِيَ اللَّهُ عَنهُ قَالَ: سَمِعتُ رَسُولَ اللَّهِ صَلَّى اللهُ عَلَيهِ وَسَلَّمَ يَقُولُ: صَيدُ البَرِّ لَكُم حَلَالٌ مَا لَم تَصِيدُوهُ أَو يُصَدْ لَكُم". (رواه أبوداود) [1]

ဟဇရသ်ဂျာဗိရ် رضي الله عنه သခင်မိန့်ခဲ့သည်။ ကျွန်ုပ်သည် ကိုယ်တော်မြတ် ﷺ ဤသို့မိန့်ကြားသည်ကိုကြားခဲ့ရသည်။ "(အိဟ်ရာမ်ဖြင့်ရှိနေခိုက်)အသင်တို့ကိုယ်တိုင် သော်လည်းကောင်း၊အသင်တို့အတွက်သော်လည်းကောင်း သတ်မှတ်၍လိုက်မထားသော ကုန်းသတ္တဝါများသည် စားပိုင်သည်။

### အကျိုးကျေးဇူး

အိဟ်ရာမ်ပြုထားသည့်အချိန်တွင် တောနေသတ္တဝါများကို ကိုယ်တိုင် အမဲလိုက်ခြင်း၊အခြားသူများကိုလိုက်ခိုင်းခြင်း၊မုဆိုးအားသားကောင်ရှိရာသို့ ညွှန်ပြခြင်း စသည်တို့သည် ဟရာမ်ဖြစ်သည်။

အကယ်၍ အထက်ပါကိစ္စရပ်များကိုပြုလုပ်ခြင်းမရှိဘဲ အိဟ်ရာမ်မပြုထားသူ တစ်ယောက်က မိမိအမဲလိုက်၍သေသွားသားကောင်၊ (သို့) ဇဗဟ်လုပ်ပြီးသား သားကောင်ကိုလာရောက်ပေးကမ်းပါက စားသုံးနိုင်သည်။ ဤအချက်နှင့်ပတ်သက်ပြီး စူရဟ်မာအေဒဟ် (အာယသ်-၉၄မှ၉၆) တွင် အကျယ်တဝင့်ဖော်ပြထားသည်။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| صَيْدُ الْبَرِّ | တောနေသတ္တဝါ |
| صَادَ (ض) صَيْدًا | အမဲလိုက်ခြင်း |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အလွတ်ရွတ်ဆိုပြပါ။ ထို့နောက်အကျိုးကျေးဇူးများကို ပြောပြပါ။

۞ ۞ ۞

[1] أخرجه أبوداود في سننه : "بَابُ لَحمِ الصَّيدِ لِلمُحرِمِ" ر:١٨٥١

## الحديث السادس والستون

### (၆၆) ဟရမ်နယ်နိမိတ်တွင် သတ်ဖြတ်ပိုင်သောသတ္တဝါများ

عَـن عَائِشَةَ رضي الله عنها قَالَت : قَالَ رَسُولُ اللّٰه صَلَّى اللّٰه عَلَيهِ وَسَلَّمَ : " خَـمـسُ فَـوَاسِـقَ يُـقتَـلْـنَ في الحَرَمِ : العَقرَبُ وَالفَأرَةُ وَالغُرَابُ وَالكَلبُ العَقُورُ وَالحِدَأَةُ." (رواه النسائي) [1]

ဟဇရသ်အာအေရှာ رضـي الله عـنها သခင်မဆင့်ပြန်ခဲ့သည်။ တမန်တော်မြတ် ﷺမိန့်တော်မူခဲ့သည်။ စတင်ရန်ပြုတတ်သောသတ္တဝါ(၅)ကောင်ကို ဟရမ်နယ်နိမိတ် အတွင်းတွင်လည်း သတ်ပိုင်ခွင့်ရှိသည်။ ၎င်းတို့မှာ– ၁။ ကင်း ၂။ကြွက် ၃။ကျီးကန်း ၄။ ကိုက်တတ်သောခွေး ၅။ စွန်ရဲတို့ဖြစ်သည်။

### အကျိုးကျေးဇူး

ဟရမ်နယ်မြေအား လေးစားသောအားဖြင့် မည်သည့်သတ္တဝါကိုမျှ သတ်ဖြတ်ခြင်းမပိုင်ပါ။ သို့သော်ဟဒီးဆ်တော်တွင် ဖော်ပြထားသောသတ္တဝါ(၅)ကောင်၊ မြွေနှင့် ဝံပုလွေတို့အားသတ်ဖြတ်ခြင်းကိုချွင်းချက်ပြုထားသည်။ ထိုသတ္တဝါများကို သတ်ဖြတ်ခြင်းဖြင့် မည်သည့်ဒဏ်ကြေးမျှပေးဆောင်ရန် မလိုအပ်ပါ။

### ကျက်မှတ်ရန် စကားလုံးများ

| | |
|---|---|
| فَاسِقَةٌ (ج) فَوَاسِقُ | ရန်မူတတ်သော သတ္တဝါများ |
| عَقُورٌ | ကိုက်ဖြတ်တတ်သော၊ အနာတရဖြစ်စေသောသတ္တဝါ |
| حِدَأَةٌ (ج) حِدَأٌ | စွန်ရဲ |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွရွတ်ဆိုပြပါ။

၂။ ဟရမ်နယ်နိမိတ်တွင် သတ်ပိုင်ခွင့်ရှိသော သတ္တဝါများကို ဖော်ပြပါ။

❖❖❖

(١) أخرجه النسائي في سننه : "باب قتل الغراب في الحرم" ر:٢٨٩١

## الحديث السابع والستون

### အိဟ်ရာမ်၏အခြေအနေတွင် ပြုပိုင်သောအချက်များ

قَالَ ابنُ عَبَّاسٍ رَضِيَ اللَّهُ عَنهُمَا: يَشَمُّ المُحرِمُ الرَّيحَانَ ،وَيَنظُرُ فِيْ المِرآةِ وَيَتَدَاوَى بِمَا يَأكُلُ : الزَّيتِ وَالسَّمنِ ، وَقَالَ عَطَاءٌ: يَتَخَتَّمُ وَيَلبَسُ الهِمْيَانَ". (رواه البخاري) (١)

ဟဇရသ် အိဗ်နေ့အဗ္ဗါးစ် رضي اللّٰهعنهما သခင်အမိန့်ရှိခဲ့သည်။ အိဟ်ရာမ်ပြုထားသူသည်မွှေးကြိုင်သောပန်းကိုရှူရှိုက်ခြင်း၊ မှန်ကြည့်ခြင်း၊ စားသောက်ကုန်များဖြစ်သော ဆီ၊ထောပတ်စသည်တို့ဖြင့် ဆေးကုသခြင်းတို့ကိုပြုလုပ်နိုင်သည်။

ဟဇရသ်အသွာအ်သခင်က လက်စွပ်ဝတ်ခြင်း၊ ခါးပတ်ပတ်ခြင်းတို့ကိုလည်းပြုပိုင်သည်ဟု အမိန့်ရှိထားသည်။

### အကျိုးကျေးဇူး

၎င်းဟဒီးဆ်တော်မြတ်တွင် အိဟ်ရာမ်ပြုထားစဉ် မွှေးကြိုင်သောပန်း၊ သစ်သီးသစ်ရွက်များကို ရှူရှိုက်ခွင့်ရှိကြောင်းဖော်ပြထားသည်။ သို့သော် ၎င်းသို့ပြုလုပ်ခြင်းမှာ မက္ကရူးဟ်ဖြစ်စေသည်။

ထို့အတူ အိဟ်ရာမ်ပြုထားစဉ် မှန်ကြည့်ခြင်းပိုင်သည်။ အနာတရ ဖြစ်သောကြောင့်ထည့်သောဆေးသည် အမွှေးနံ့သာမပါရှိပါက မည်သည့်ဒမ်မျှပေးဆောင်ရန်မလိုပါ။ ထို့အတူ လက်စွပ်ဝတ်ခြင်း၊ ခါးပတ်ပတ်ခြင်း၊ နေကာမျက်မှန်တပ်ခြင်း စသည်တို့ကိုလည်း ပြုနိုင်သည်။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| ခါးပတ် | هِمْيَانٌ (ج) هَمَايِيْنُ |
| လက်စွပ်ဝတ်ခြင်း | تَخَتَّمَ (تفعل) |
| သင်းပျံ့မွှေးကြိုင်သောပန်း၊ ပင်စိမ်းရွက် | رَيْحَانٌ |

## ဟဒီးဆ်တွင်ပါရှိသည့် သာဗေ့အီအကြောင်း

## سيدنا عَطَاءُ بنُ أَبِي رَبَاحٍ رحمه الله

ဟဇရသ်အသွာအ်သည် ကုရိုင်းရှ်မျိုးနွယ်ဝင် သာဗေ့အီတစ်ပါးဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာအဗူမုဟမ္မဒ်ဖြစ်သည်။ ဟဇရသ်အွတ်ဆ်မားန် အုပ်ချုပ်စဉ်ကာလတွင်မွေးဖွားခဲ့ပြီး မက္ကဟ်ရွှေမြို့တော်တွင်ပင် ကြီးပြင်းလာခဲ့သည်။

သခင်သည် မိမိခေတ်ခါသမယ၌ မက္ကဟ်မြို့၏ဓမ္မသတ်မှူးဖြစ်ခဲ့သည်။ ဟဇရသ်အိဗ်နေ့အဗ္ဗါးစ်သခင်က ဓမ္မသတ်မေးလာသူတို့အား "အိုမက္ကဟ်သားတို့ အသင်တို့ထံအသွာအ်ရှိနေပါလျှက် ငါ့အားဓမ္မသတ်လာမေးရသလော"ဟု မိန့်ကြားခဲ့သည်။ သခင်သည် ဆွဟာဗာပေါင်း(၂၀၀)နှင့် တွေ့ဆုံခွင့်ရခဲ့သည်။

အေမာမ်အဗူဟနီဖာသခင်ကြီးက "ကျွန်တော်သည် အသွာအ်ထက်ပိုမိုမြင့်မြတ်သူကို မတွေ့ဖူးပါ။"ဟု မိန့်ခဲ့သည်။

صحاح ستة ကျမ်းရှင်များဖြစ်သော အေမာမ် ဗုခါရီ၊ အေမာမ်မွတ်စ်လင်မ်၊ အေမာမ်နစအီ၊ အေမာမ်အဗူဒါဝူဒ်၊ အေမာမ်သိရ်မေဇီတို့သည် သခင့်ထံမှဆင့်ပြန်ချက်လာရှိသောဟဒီးဆ်တော်များဆင့်ပြန်ခဲ့သည်။ ဟစ်ဂျ်ရီ (၁၁၄)ခုနှစ်တွင် အရှင့်အမိန့်တော်ခံယူခဲ့သည်။[٢]

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ဖော်ပြပါ။

၂။ အိဟ်ရာမ်ဖြင့်ရှိနေစဉ် မည်သည့်ကိစ္စရပ်များကို ပြုခြင်းဖြင့် ဒဏ်ပေးဆောင်ရန်မလိုအပ်သနည်း။

❖❖❖

(١) أخرجه البخاري في صحيحه تعليقا :" بَابُ الطِّيبِ عِندَ الإِحرَامِ وَمَا يَلبَسُ إِذَا أَرَادَ أَن يُحرِمَ وَيَتَرَجَّلَ وَيَدَّهِنَ".

(٢) "رواة التهذيبين" تهذيب الكمال للمزي ، وتهذيب التهذيب لابن حجر .
سير أعلام النبلاء

## الحديث الثامن والستون

## (၆၈) အိဟ်ရာမ်ပြုထားစဉ် ခေါင်းတုံးရပါက

عَن كَعبِ بنِ عُجرَةَ : أَنَّهُ كَانَ مَعَ رَسُولِ اللّٰه صَلَّى اللّٰه عَلَيهِ وَسَلَّمَ مُحرِمًا ؛ فَآذَاهُ القَملُ فِي رَأسِهِ ، فَأَمَرَهُ رَسُولُ اللّٰهِ صَلَّى اللَّهُ عَلَيهِ وَسَلَّمَ أَن يَحلِقَ رَأسَهُ . وَقَالَ : " صُم ثَلَاثَةَ أَيَّامٍ أَو أَطعِم سِتَّةَ مَسَاكِينَ مُدَّينِ مُدَّينِ أَو انسُكْ شَاةً ؛ أَيَّ ذَلِكَ فَعَلْتَ أَجزَأَ عَنْكَ ".(رواه النسائي) (١)

ဟဇရတ်ကအ်ဗ رضي اللّٰه عنه ထံမှ ဤသို့ဆင့်ပြန်ချက်လာရှိသည်။ သခင်သည် ကိုယ်တော်မြတ်ﷺ နှင့်အတူ အိဟ်ရာမ်ဖြင့်ရှိနေခဲ့သည်။ ထိုအခိုက် ဦးခေါင်းမှ သန်းများသည်သခင့်အား ဒုက္ခပေးခဲ့ရာ ကိုယ်တော်မြတ်ﷺက ခေါင်းတုံးရန် အမိန့်ပေးခဲ့သည်။ ထို့နောက် ''သုံးရက်ရိုဇာထားလိုကထား၊ ဆင်းရဲသား(၆)ဦးအား (၁ပိဿာ ၁ဝိသား)ခန့်စီကျွေးလိုကပေး၊ ဆိတ်တစ်ကောင်ဇဗဟ်လုပ်လိုကလုပ်''ဖော်ပြပါအချက်များအနက်တစ်ခုခုအား ပြုလုပ်လိုက်ပါက လုံလောက်သွားမည်ဟု အမိန့်ရှိခဲ့သည်။

**အကျိုးကျေးဇူး**

ဟဒီးဆ်တော်တွင် ဖော်ပြထားသည့်အချက်မှာ အိဟ်ရာမ်ပြုထားသူတစ်ဦးသည် အခက်အခဲတစ်ခုခုကြောင့် အိဟ်ရာမ်၏စည်းကမ်းချက်တစ်ခုခုကို ပြည့်ပြည့်ဝဝ ဖောက်ဖျက်ခြင်းဖြစ်ပါက 'ဒမ်'ပေးခြင်း၊ သုံးရက်ရိုဇာထားခြင်း၊ ဆွဒကဟ်ပေးခြင်းတို့တွင် ရွေးချယ်ပိုင်ခွင့်ရှိသည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| ဒုက္ခပေးခြင်း | آذى (إفعال) |
| ကြမ်းပိုး၊သန်းကောင် | قَمْلَةٌ (ج) قُمَّلٌ |

| | |
|---|---|
| مُدٌّ | ၅၅ကျပ်သားခန့်ရှိ အလေးချိန်တစ်ခု |
| نَسَكَ (ن) نُسْكًا | သားကောင်ဇဗဟ်လုပ်ခြင်း |
| أَجْزَأَ (إفعال) [عن] | လုံလောက်စေခြင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ ရေးသားပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ရေးသားပါ။

၃။ ဟဒီးဆ်တော်လာ အမိန့်သည် ဂျေ့နာယားသ်အခန်း၏ မည်သည့်ကဏ္ဍနှင့် ပတ်သက်ဆက်နွယ်နေသည်ကိုလည်း ရှင်းပြပါ။

❖❖❖

(١) أخرجه النسائي في سننه : " باب في المحرم يؤذيه القمل في رأسه " ر:٢٨٥١

## الحديث التاسع والستون

### အိဟ်ဆွားရ်(ခ) အိဟ်ရာမ်ပြုပြီးသောအခါ အကြောင်းတစ်ခုခုကြောင့် ကအ်ဗဟ်သို့ မရောက်ရှိနိုင်ခြင်း

عن ابن عمر رضى الله عنهما أن رسول الله صلى الله عليه وسلم خَرَجَ مُعْتَمِرًا ؛ فَحَالَ كفارُ قريشٍ بَيْنَهُ وبين البيتِ فَنَحَرَ هَدْيَهُ، وحَلَقَ رأسَه بالْحُدَيْبِيَّة" . (رواه البخاري) (١)

ဟဇရသ်အိဗ်နေ့အုမရ် رضـي الله عـنهـمـا သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺသည်(ဟစ်ဂျ်ရီ(၆)ခုနှစ်တွင်)အွမ်ရဟ်ပြုလုပ်ရန်ကြွလာတော်မူခဲ့သည်။ ကိုရိုင်းရှ်မျိုးနွယ်ဝင်ကာဖိရ်များက ကိုယ်တော်နှင့်ကအ်ဗဟ်ကျောင်းတော်ကြား၌ကာဆီး ဟန့်တားနေကြရာကိုယ်တော်သည် မိမိနှင့်တစ်ပါတည်းယူဆောင်လာသောဟဒီသားကောင် ကိုဇဗဟ်ပြုလုပ်တော်မူလိုက်သည်။ ထို့နောက်ဟုဒိုင်ဗီယဟ်တွင်ပင် ဆံချတော်မူခဲ့သည်။

### အကျိုးကျေးဇူး

ဟာဂျီတစ်ဦးဦးသည်ဟဂျ်(သို့)အွမ်ရဟ်၏ အိဟ်ရာမ်ပြုပြီးသောအခါမှ ရန်သူကြောင့်သော်လည်းကောင်း၊ ရောဂါတစ်ခုခုကြောင့်သော်လည်းကောင်း၊ အခြားကအ်ဗဟ်ကျောင်းတော်သို့ရောက်ရှိခြင်းမှ တားမြစ်စေသော အရာတစ်ခုခုကြောင့် မက္ကဟ်မြို့သို့မရောက်ရှိနိုင်ပါက ထိုဟာဂျီသည် မိမိရောက်ရှိသည့်နေရာတွင်ပင် အိဟ်ရာမ်ချွတ်လိုက်ရမည်။

ထိုသို့အိဟ်ရာမ်ချွတ်ရန်'ဟဒီ'သားကောင်တစ်ကောင်(သို့)ယင်း၏ တန်ဖိုးကို ဟရမ်သို့ပို့ပေးရမည်။ ထိုသားကောင်ဇဗဟ်ပြုလုပ်ပြီးသောအခါမှသာ အိဟ်ရာမ်ချွတ်ရမည်။အကယ်၍အိဟ်ရာမ်ချွတ်သောအခါ ဟရမ်နယ်နိမိတ်အပြင်တွင်ရှိနေပါက ခေါင်း

တုံးရန်မလိုအပ်ပါ။ ဟရမ်နယ်နိမိတ်အတွင်းတွင်ရှိပါကခေါင်းတုံးရန်ဝါဂျိဗ်ဖြစ်သည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| أَحْصَرَ (إفعال) | တားဆီးပိတ်ပင်ခြင်း |
| حال (ن) حَوْلًا | ကာဆီးကာဆီးလုပ်ခြင်း |
| هَدْيٌ | ဇဗဟ်ပြုရန်ကအ်ဗဟ်သို့ ပို့ဆောင်သည့် သားကောင် |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ပြောပြပါ။

၂။ إحصار ၏ အလိုသဘောကို ရှင်းပြပါ။

❖❖❖

(١) أخرجه البخاري في صحيحه : " باب الصلح مع المشركين " ر:٢٧٠١

## الحديث السبعون

### (၇၀) အိဟ်ရာမ်ပြုထားသည့်အမျိုးသမီး ကိုယ်မသန့်ဖြစ်သောအခါ

عـن عائشةَ رضي الله عنها قالت :" خَرَجْنَا مع النبي صلى الله عليه وسلم ولا نَـرٰى إلا الـحَـجَّ ؛ حَتّٰى إذا كُنَّا بِسَرِفَ أو قريبا منها حِضْتُ فَدَخَلَ عَلَيَّ النَّبِيُّ صلى الله عليه وسلم وَأَنا أبكيْ ، فقال : " أَنُفِسْتِ ؟ " يعني : "اَلْحَيْضَةَ " قالت :" قُـلْـتُ : نَـعَـمْ " ؛ قال : " إِنَّ هٰذَا شَيْئٌ كَتَبَهُ اللّٰهُ على بَنَاتِ آدَمَ ، فَاقْضِيْ مَا يَقْضِي الْحَاجُّ غَيْرَ أَنْ لَّا تَطُوْفِيْ بِالْبَيْتِ حَتّٰى تَغْتَسِلِيْ" . (رواه مسلم) (١)

ဟဇရတ်အာအေရှာ رضـي اللّٰهعـنهـا သခင်မ ဆင့်ပြန်ခဲ့သည်။ (ဟစ်ဂျရီ(၁၀)ခုနှစ်တွင်)ကျွန်မတို့သည် ဟဂျ်ကျင့်စဉ်တစ်ခုတည်းဆောင်ရွက်ရန် ကိုယ်တော်မြတ် ﷺနှင့်အတူလိုက်ပါလာခဲ့သည်။ 'စရိဖ်'အမည်ရှိနေရာ(သို့)ယင်း၏ အနီးသို့ရောက်ရှိလေသောအခါ ကျွန်မသည် ကိုယ်မသန့်ဖြစ်သွားခဲ့သည်။

(ထို့ကြောင့်) ကျွန်မငိုနေစဉ် ကိုယ်တော်မြတ်ﷺ သည် ကျွန်မနှင့် တွေ့ဆုံရန် ကြွမြန်းလာခဲ့ရာ''အသင်မကိုယ်မသန့်ဖြစ်သွားပြီလော''ဟု မေးမြန်းခဲ့သည်။ ကျွန်မက ''မှန်ပါသည်''ဟုဖြေလျှောက်လိုက်ရာ ကိုယ်တော်မြတ်ﷺက ''ဤသည် အလ္လာဟ် အရှင်မြတ်က အမျိုးသမီးတို့အပေါ် သတ်မှတ်ထားသောကိစ္စဖြစ်သည်။ သို့ရှိရာ အသင်မသည်လည်း သဝါးဖ်ပြုခြင်းမှတပါး အခြားဟာဂျီတစ်ယောက်ပြုမူဆောင်ရွက်ရမည့်အချက်များကို ကိုယ်သန့်ပြီး ရေချိုးချိန်ထိ ဆောင်ရွက်နေပါ''ဟု မိန့်တော်မူခဲ့သည်။

### အကျိုးကျေးဇူး

သမသ်သုအ်ဟဂျ်အတွက်အိဟ်ရာမ်ပြုထားသော အမျိုးသမီးတစ်ဦးသည် အိဟ်ရာမ်ပြုပြီးနောက် ကိုယ်မသန့်ဖြစ်သွားပါက နမားဇ်နှင့်သဝါးဖ်မှအပ အခြားသော ဟဂျ်နှင့်အွမ်ရဟ်ဆိုင်ရာ ကိစ္စရပ်များကို ဆောင်ရွက်နေရမည်။

ဟဂ်ျ၏လုပ်ငန်းဆောင်တာများ (မိနာ၊အရဖားသ်) စသည့်နေရာများသို့ သွားမည့်နေ့အထိ အွမ္မရဟ်ပြုလုပ်ရန်အခွင့်မသာခဲ့ပါက အွမ္မရဟ်၏အိဟ်ရာမ်ဖျက်လိုက်ရမည်။ ထိုအတွက် ဒမ်လည်းပေးရမည်။ ထို့နောက်ဟဂ်ျ၏အိဟ်ရာမ်အတွက် အသစ်တဖန်နိယသ်လုပ်ပြီး ဟဂ်ျ၏လုပ်ငန်းဆောင်တာများကိုဆက်လက်လုပ်ဆောင်သွားရမည်။ ဟဂ်ျလုပ်ငန်းစဉ်များပြီးဆုံးသောအခါ အွမ္မရဟ်ကဇ္ဇာပြန်ပြုရမည်။

အွမ္မရဟ်အိဟ်ရာမ်ဖျက်နည်းမှာ အိဟ်ရာမ်ဖျက်သည့်နိယသ်ဖြင့် ခေါင်းဖြီးလိုက်ခြင်းဖြစ်သည်။

သဝါးဖ့်ဇေယာရသ်ပြုရမည့်နောက်ဆုံးချိန်ဖြစ်သော ဇုလ်ဟစ်ဂျ်ဂျာ(၁၂) ရက်နေ့အထိ အထက်ပါကိုယ်မသန့်သောအခြေအနေသည် ကျန်ရှိနေပါက သဝါဖ့်ဇေယာရသ်ကို ကိုယ်သန့်ချိန်အထိ ဆိုင်းငံ့ထားနိုင်သည်။ နောက်ကျသွားခြင်းကြောင့် ဒမ်ပေးရန်လည်းတာဝန်မရှိပါ။

အမျိုးသမီးများသည် သွဝါဖ့်ဝေဒါအ်ပြုရမည့်အချိန်တွင် ဟိုက်ဇ်(သို့)နိဖားစ်သွေးဆင်းနေပြီး ရက်တိုးနေ၍လည်းမရပါက သွဝါဖ့်ဝေဒါအ်ကို စွန့်လွှတ်နိုင်သည်။ ဤသို့စွန့်လွှတ်လိုက်ခြင်းကြောင့် ဒမ်ပေးလျှုရန် တာဝန်မရှိပါ။

အကယ်၍ သွဝါးဖ်ပြုလုပ်နေစဉ် သွေးဆင်းပါက ချက်ချင်းသဝါးဖ်ကိုရပ်ဆိုင်းပြီး ဗလီအပြင်သို့ထွက်လာရမည်။ သဝါးဖ်ပြီးဆုံးမှသွေးဆင်းပါမူ ကိုယ်မသန့်သောအခြေအနေဖြင့်စအီပြုလုပ်နိုင်သည်။

(၄)ပတ်(သို့)(၄)ပတ်ထက်ပို၍သဝါးဖ်ပြုပြီးချိန် သွေးဆင်းပါက သဝါးဖ်အထမြောက်သွားမည်ဖြစ်ပြီး သန့်ပြန့်သောအချိန်တွင် သဝါးဖ့်ဇေယာရသ်၏ကျန်ရှိနေသော အပတ်အရေအတွက်ကို ဆောင်ရွက်ရမည်။ ကျန်ရှိနေသော သဝါးဖ်၏အပတ်အရေအတွက်ကို မဆောင်ရွက်မိပါက ဆိတ်တစ်ကောင် ‘ဒမ်’ပေးဆောင်ရမည်။

(၄)ပတ်ထက်နည်းနေပါက သဝါးဖ်အထမမြောက်သောကြောင့် ကိုယ်သန့်

သောအခါပြန်လည်ပြီး သဝါးဖ်ကဗွာပြုရမည်။

ကုရ်ဘာနီနေ့ရက်များတွင် ကျန်ရှိနေသော သွဝါးဖ်အပတ်ရေကို ဆောင်ရွက်မည်ဆိုပါက တစ်စုံတရာပေးဆောင်ရန်မလိုအပ်ပါ။

ကုရ်ဘာနီနေရက်များကုန်ဆုံးပြီးမှ ကျန်ရှိနေသောသဝါးဖ်များကို ဆောင်ရွက်မည်ဆိုပါက သွဝါးဖ်တစ်ပတ်အတွက် ဂျူ(၁ပိဿာ ၁ဝိသား)၊ (သို့) ထိုပမာဏနှင့်ညီသောကာလတန်ဖိုးကိုပေးနိုင်သည်။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| မက္ကဟ်၏အနောက်မြောက်ဘက်(၁၂)ကီလိုမီတာရှိ သမိုင်းဝင်နေရာတစ်ခု၊ ထိုနေရာတွင် မိုင်မူနဟ်သခင်မကြီး၏ ကဗုရ်ရှိသည်။ | سَرِفُ |
| ရာသီသွေးဆင်းခြင်း | حاض (ض) حَيْضًا و حَيْضَانًا |
| နိဖားစ်သွေး(သို့) ရာသီသွေးဆင်းခြင်း | نُفِسَ(س) نَفَسًا،وَنِفَاسًا |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အလွတ်ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ပြောပြပါ။

၃။ سَرِفُ အမည်ရှိနေရာအကြောင်းရေးပါ။



(١) أخرجه مسلم في صحيحه : "باب بيان وجوه الإحرام ......" ر:١٢١١

## الحديث الحادي والسبعون

## (၇၁) "ဟဂ်ျ ဗဒလ်" ကိုယ်စားပြုဟဂ်ျ

عَـن ابـنِ عَبَّاسٍ رَضِي اللَّهُ عَنهُمَا قَالَ :"جَاء تْ امرَأَةٌ مِن خَثعَمَ عَامَ حَجَّةِ الـوَدَاعِ"، قَـالَت:" يَا رَسُولَ اللّهِ ؛ إِنَّ فَرِيضَةَ اللَّهِ عَلَى عِبَادِهِ فِيْ الحَجِّ أَدرَكَتْ أَبِيْ شَيـخًـا كَبِيرًا لَا يَستَطِيعُ أَن يَستَوِيَ عَلَى الرَّاحِلَةِ ، فَهَل يَقضِيْ عَنهُ أَن أَحُجَّ عَنهُ "؟ قَالَ : " نَعَم ". (رواه البخاري) (١)

ဟဇရသ်အိဗ်နေ့အဗ္ဗါးစ် رضـي الله عـنـهـما သခင်ထံမှ ဤသို့ဆင့်ပြန်ချက်လာရှိသည်။ ခဆ်အမ်မျိုးနွယ်ဝင် အမျိုးသမီးတစ်ဦးသည် ''ဟဂ်ျဂျသွလ်ဝေဒါအ်နှစ်'' ((ဟစ်ဂ်ျရီ(၁၀)ခုနှစ်တွင်)ကိုယ်တော်မြတ် ﷺထံ လာရောက်၍ ဤသို့ မေးမြန်းလျှောက်ထားခဲ့သည်။ ''အို-အရှင်မြတ်၏ရစူလ်၊(တတ်ကုန်နိုင်သူတို့အပေါ်) သတ်မှတ်ပြဋ္ဌာန်းထားသောဟဂ်ျဖရဇ်တာဝန်သည် ဇရာပျိုယိုယွင်းပြီး အိုမင်းမစွမ်းဖြစ်ကာ အစီးအနင်းပေါ်မတ်မတ်မထိုင်နိုင်တော့သည့် ကျွန်မ၏ဖခင်ကြီးပေါ်တွင်လည်း ကျရောက်လာခဲ့သည်။ သို့ရှိရာ ကျွန်မအနေနှင့်ဖခင်ကြီးဘက်မှ ကိုယ်စားပြုဟဂ်ျလုပ်ပေးလျှင် ဖခင်၏ဟဂ်ျဖရ်ဇ်တာဝန် အထမြောက်မည်လော။''

ထိုအခါကိုယ်တော်မြတ်ﷺက ''အထမြောက်သွားပေမည်''ဟုဖြေကြားတော်မူခဲ့သည်။

### အကျိုးကျေးဇူး

မွတ်စ်လင်မ်တစ်ဦးသည်ဟဂ်ျပြုရန် ငွေကြေးပြည့်စုံသောကြောင့် ဟဂ်ျတာဝန်ထိုက်နေသော်လည်း ပြန်လည်ကောင်းလာရန် မမျှော်လင့်နိုင်တော့သည့် ကျန်းမာရေးအခြေအနေကြောင့်သော်လည်းကောင်း၊ ပြီးဆုံးချိန်မသိရသေးသည့် ရာဇဝတ်မှုတစ်ခုခုနှင့်ရင်ဆိုင်နေရလျှင်သော်လည်းကောင်း၊ လွတ်ရက်မသိနိုင်သေးသည့်ထောင်ကျခြင်းမျိုးတို့နှင့်ရင်ဆိုင်နေရသောကြောင့် ကိုယ်တိုင်ဟဂ်ျပြုနိုင်စွမ်းမရှိပါက မိမိယုံကြည်စိတ်ချရသူ တစ်ဦးဦးကို မိမိဘက်မှ ကိုယ်စားဟဂ်ျပြုခိုင်းနိုင်သည်။

ကိုယ်စားပြုခိုင်းသူအား'အာမိရ်'ဟုခေါ်ပြီး၊ပြုလုပ်ပေးသူကို'မအ်မူးရ်'ဟုခေါ်သည်။

အာမိရ်နှင့်မအ်မူးရ်နှစ်ဦးလုံးပေါ်တွင် သတ်မှတ်ထားသည့်စည်းကမ်းချက်များလည်းရှိသေးသည်။

အာမိရ်ပေါ်ရှိသော စည်းကမ်းချက်အချို့မှာ -

(၁) အာမိရ်သည် ငွေကြေးပြည့်စုံရမည်။

(၂) မိမိကြုံတွေ့ခံစားနေရသည့် အကြောင်းပြချက်သည် ခိုင်လုံရမည်။

(၃) မအ်မူးရ်၏ ဟဂ်ျခရီးစဉ်အစအဆုံးအတွက် ကုန်ကျစရိတ်ကို ပေးရမည်။

မအ်မူးရ်ပေါ်ရှိသော စည်းကမ်းချက်အချို့မှာ -

(၁) ဟဂ်ျကျင့်စဉ်များကို သိနားလည်သူဖြစ်ရမည်။

(၂) ဟဂ်ျပြုရန် 'ဖရဇ်' တာဝန်ထိုက်နေပါလျှက် မပြုရသေးသူ မဖြစ်ရ။

(၃) မိမိဘက်မှ ထို့နောက် အာမိရ်ဘက်မှ အိဟ်ရာမ်၏ နိယသ်ပြုရမည်။

(၄) ဟဂ်ျခရီးစဉ်တွင်'ဂျိနာယသ်'တစ်ခုခုကျူးလွန်မိပါက မိမိပိုက်ဆံဖြင့် ဒဏ်ကြေးပေးရမည်။

စည်းကမ်းချက်များနှင့် ကိုက်ညီပါက အမျိုးသမီးက အမျိုးသားဘက်မှသော်လည်းကောင်း၊ အမျိုးသားက အမျိုးသမီးဘက်မှသော်လည်းကောင်း ကိုယ်စားဟဂ်ျပြုပေးနိုင်သည်။

**ကျက်မှတ်ရန် စကားလုံးများ**

| | |
|---|---|
| ကဟ်သွားန်မျိုးနွယ်ဖွား မျိုးစုတစ်ခု၏အမည်၊ ထိုမျိုးနွယ်သည်သွာအိဖ်သွားရာလမ်းပေါ်တွင်တည်ရှိသည်။ | خَثْعَمُ |
| ကိုယ်တော်သခင် ﷺ၏ ဟစ်ဂ်ျရီ(၁၀)ခုနှစ်တွင် ပြုခဲ့သည့်နောက်ဆုံး နှုတ်ဆက်သည့်ဟဂ်ျ | حَجَّةُ الْوَدَاعِ |

| | |
|---|---|
| فَرِيْضَةٌ (ج) فَرَائِضُ | မလုပ်မနေရ ပြဋ္ဌာန်းထားသော တာဝန် |
| أَدْرَكَ (إفعال) | မှီသွားခြင်း၊ကျရောက်ခြင်း |
| قضٰى (ض) قَضَاءً ا | အထမြောက်သွားခြင်း၊ ကျေပွန်သွားခြင်း |
| استوى (افتعال) [على] | တည့်မတ်စွာထိုင်ခြင်း |
| رَاحِلَةٌ (ج) رَوَاحِلُ | အစီးအနင်း |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အလွတ်ရွတ်ဆိုပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ဖော်ပြပါ။

၃။ حجة الوداع သည် မည်သည့်ခုနှစ်တွင်ဖြစ်ခဲ့သနည်း။

၄။ خثعم မျိုးနွယ်သည် မည်သည့်မျိုးဖွားဖြစ်သနည်း။

❖❖❖

(١) أخرجه البخاري في صحيحه : " باب الحج عمن لايستطيع الثبوت على الراحلة". ر:١٨٥٤

## الحديث الثاني والسبعون

## (၇၂) အရွယ်မရောက်သေးသည့် ကလေး၏ဟဂ်ျ

عن ابنِ عباسٍ رضي الله عنهما قال : " رَفَعَتْ امرأةٌ صبِيًّا لها فقالت : " يا رسول الله ؛ أَلِهٰذا حَجٌّ؟" قال: " نعم ؛ وَلَكِ أَجْرٌ" . (رواه مسلم) (١)

ဟဇရတ်အဗ်နေ့အဗ္ဗါးစ် رضـــي الله عـنـهـمـــا သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဆွဟာဗီအမျိုးသမီးတစ်ဦးသည် မိမိ၏လူမမယ်ကလေးငယ်အားပြပြီး''အို-အရှင်မြတ်၏ရစူလ်၊ ဤကလေးငယ်အတွက် ဟဂ်ျပြုလုပ်ပေးနိုင်ပါသလား''ဟု မေးလျှောက်ရာ ကိုယ်တော်သခင် ﷺက''ပြုလုပ်ပေးနိုင်သည်၊ အသင်မလည်း ဆဝါးဗ်ရဦးမည်''ဟု ဖြေကြားတော်မူခဲ့သည်။

### အကျိုးကျေးဇူး

အရွယ်မရောက်သေးသည့် ကလေးငယ်များမှာ ခွဲခြားနားလည်ပြီး အသိဉာဏ်ရှိသူနှင့် အသိဉာဏ်မရှိသေးသူဟူ၍(၂)မျိုးရှိသည်။ (၂)ဦးလုံး၏အိဟ်ရာမ်မှာ သီးခြားစီဖြစ်သည်။

(၁) အသိဉာဏ်လုံးဝမရှိသေးသော ကလေးငယ်များ၏ အိဟ်ရာမ်ကို အောက်ပါအတိုင်းပြုပေးရမည်။ ဦးစွာချုပ်ထားသောအဝတ်များကိုချွတ်ပေးပြီး ခြုံထည် တစ်ခုကိုလုံချည်၊အခြားတစ်ခုကိုခြုံထည်အဖြစ် ဝတ်ပေးရမည်။ ထို့နောက် အဆိုပါယောက်ကျားလေး(သို့)မိန်းကလေးကိုယ်စား အုပ်ထိန်းသူကဟဂ်ျ(သို့)အွမ္ဗရဟ်၏ နီယသ်ပြုပေးပြီး သလ်ဗီယဟ်ဆိုပေးရမည်။ ထိုအခါ ၎င်းတို့၏ အိဟ်ရာမ်စတင်ပြီဖြစ်ရာ အုပ်ထိန်းသူသည် ဟဂ်ျကျင့်စဉ်များဆောင်ရွက်ရာတွင် မိမိနှင့်အတူကလေးအားထားပြီး နီယသ်ပြုပေးရမည်။ လူကြီးအိဟ်ရာမ်ချွတ်သောအခါ ကလေး၏အိဟ်ရာမ်ကိုလည်း ချွတ်ပေးရမည်။

အသိဉာဏ်ရှိနေပြီးဖြစ်သော ကလေးငယ်များသည် ကိစ္စတိုင်းကို ကိုယ်တိုင်

ဆောင်ရွက်ရမည်။

အကယ်၍အထက်ပါ အမျိုးအစားနှစ်ခုလုံး၌ ကလေးသည် အမှားအယွင်း တစ်စုံတရာကို ကျူးလွန်မိလျှင်'ဒမ်'ပေးဆောင်ရန်မလိုအပ်ပါ။

ကလေးငယ်များ၏ ဟဂ်ျသည်နဖိလ်သာဖြစ်သောကြောင့် အရွယ်ရောက် သောအခါ တတ်စွမ်းနိုင်သောအခြေအနေရှိလျှင် မိမိတို့၏ဖရဇ်တာဝန်ကို ကိုယ်တိုင် ပြန်လည်ထမ်းဆောင်ရမည်ဖြစ်သည်။

## လေ့ကျင့်ခန်း

၁။ ကလေးငယ်တို့၏ ဟဂ်ျအမျိုးအစားကိုဖော်ပြပါ။

၂။ ကလေးငယ်များအမှားကျူးလွန်မိလျှင် ဒမ်ထိုက်မည်လား။

၃။ ကလေးဘဝတွင် ဆောင်ရွက်ခဲ့သော ဟဂ်ျ၏အမိန့်ကို ဖော်ပြပါ။



(١) أخرجه مسلم في صحيحه : " باب صحة حج الصبي وأجر من حج به " ر: ١٣٣٦

## الحديث الثالث و السبعون

## (၇၃) မဒီနာမြို့၏ ဟရမ်နယ်နိမိတ်

قَـالَ عَلِيٌّ رضي الله عنه : قال رسول الله صلى الله عليه و سلم : " المَدِينَةُ حَرَمٌ مَا بَينَ عَيْرٍ إِلىٰ ثَوْرٍ". (رواه مسلم) [(١)]

ဟဇရသ်အလီ كَـرَّمَ اللّٰهُ وَجْهَـهٗ ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူခဲ့သည်။ ''အိုင်းရ်တောင်နှင့်ဆောင်းဝ်ရ်တောင်နှစ်ခုကြားရှိ နယ်နိမိတ်သည် မဒီနာရွှေမြို့တော်၏ ဟရမ်နယ်နိမိတ်ဖြစ်သည်။''

**အကျိုးကျေးဇူး**

ဟဇရသ်အိဗ်ရာဟီးမ်عليه السلامသည် မက္ကဟ်၏ဟရမ်နယ်နိမိတ်ကို သတ်မှတ်တော်မူခဲ့ပြီး ကိုယ်တော်မြတ်ﷺသည် မဒီနာ၏ဟရမ်နယ်နိမိတ်ကို ဟဒီးဆ်နှစ်ပုဒ်ဖြင့် သတ်မှတ်တော်မူခဲ့သည်။

တောင်မြောက်ကို၎ဟဒီးဆ်တော်ဖြင့် သတ်မှတ်တော်မူခဲ့သည်။

အိုင်းရ်တောင်သည်မဒီနာမြို့တွင်အုဟုဒ်တောင်ပြီးလျှင် အကြီးဆုံးတောင်ဖြစ်သည်။တောင်အရပ်တွင်ရှိသည်။မတ်စ်ဂျေ့ဒ်နဗဝီနှင့်(၈. ၅ကီလိုမီတာ)ခန့်ဝေးသည်။

ဆောင်ဝ်းရ်တောင်သည် အုဟုဒ်တောင်၏ကျောဘက်တွင်ရှိသော မြောက်အရပ်ရှိတောင်တစ်လုံးဖြစ်သည်။ မတ်စ်ဂျေ့ဒ်နဗဝီနှင့်(၈)ကီလိုမီတာဝေးသည်။

အိုင်းရ်နှင့်ဆောင်းဝ်ရ်ကြားတွင်(၁၅)ကီလိုမီတာခန့်ဝေးသည်။

အရှေ့အနောက် ဟရမ်နယ်နိမိတ်ကို (مَـا بَيْـنَ اللَّابَتَيْـنِ)"မီးကျွမ်းနေသောကျောက်စရစ်နက်များရှိသည့် မြေကွက်လပ်နှစ်ခုကြား"အား သတ်မှတ်ခဲ့သည်။ ဆော်ဒီနိုင်ငံပြည်ထဲရေးဝန်ကြီးဌာနဘက်မှ မြေပြင်၊ ဝေဟင်နှစ်မျိုးလုံးမှ ကြည့်ရှုနိုင်ရန် အမှတ်အသားပေါင်း(၁၆၁)ခု စိုက်ထူထားပါသည်။ မဒီနာရှိ ဟရမ်နယ်နိမိတ်၏အမိန့်မှာမက္ကဟ်ရှိဟရမ်နယ်နိမိတ်၏အမိန့် အတိုင်းဖြစ်သည်။ ကွားခြားချက်မှာ မက္ကဟ်၏ဟရမ်နယ်နိမိတ်တွင်ကျူးလွန်ခြင်းဖြင့် 'ဒမ်'ထိုက်စေသည့် ပြစ်မှုမျိုး မဒီနာ၏ဟရမ်နယ်နိမိတ်တွင် ကျူးလွန်မိပါက 'ဒမ်'ထိုက်မည်မဟုတ်ချေ။

(١) أخرجه مسلم في صحيحه :"باب فضل المدينة ودعاء النبي صلى الله عليه وسلم فيها بالبركة وبيان تحريمها وتحريم صيدها وشجرها وبيان حدود حرمها"، ر: ١٣٧٠

## الحديث الرابع والسبعون

## (၇၄) မဒီနာရွှေမြို့တော်၏ ထွတ်မြတ်ခြင်း

عن ابن عمر رضي الله عنهما قال : قال النبيُّ صلى الله عليه وسلم : " مَنِ اسْتَطَاعَ أن يموتَ بالمدينةِ فَلْيَمُتْ بِهَا ، فإنِي أَشْفَعُ لِمَنْ يَمُوْتُ بِهَا ".

(رواه الترمذي)(١)

ဟဇရတ် အိဗ်နေ့အုမရ် رضــي الله عـنهـمـا သခင်ထံမှ ဆင့်ပြန်ချက် လာရှိသည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။''မည်သူမဆို မဒီနာရွှေမြို့တော်၌ ကွယ်လွန်နိုင်ရန်အခွင့်အလမ်းရှိပါက ထိုမြို့တွင်ကွယ်လွန်ရန်ကြိုးစားပါ။ အကြောင်းမှာမူ ငါကိုယ်တော်သည် မဒီနာတွင်ကွယ်လွန်သူအတွက် ကြားဝင်အသနားခံပေးမည်ဖြစ်သည်။''

### အကျိုးကျေးဇူး

မည်သည့်နေရာတွင် ကွယ်လွန်မည်ဆိုသောအချက်သည် လျှို့ဝှက်ထားသောသော့ချက်(၅)ခုအနက်တစ်ခုဖြစ်သည်။ သို့သော် မိမိဘက်မှကြိုးစားမှုတော့ပြုခွင့်ရှိသည်။ ဤသို့ကြိုးစားရင်း မဒီနာတွင်ကွယ်လွန်သွားပါက တန်ဖိုးမဖြတ်နိုင်သည့် နဗီတမန်တော်မြတ်ﷺ၏ အသနားခံပေးမည့် အခွင့်ထူးကို ရရှိမည်ဖြစ်သည်။

ဤသည် မဒီနာမြေ၏ ထူးခြားမှုတစ်ရပ်ပင်မဟုတ်ပါလော။

### ကျက်မှတ်ရန် ခက်ဆစ်များ

| | |
|---|---|
| ကြားဝင်အသနားခံပေးခြင်း | شفع (ف) شَفَاعَةً [ـ] |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အကျိုးကျေးဇူးများကို ပြောပြပါ။

❁❁❁

(١) أخرجه الترمذي في سننه : " باب ماجاء في فضل المدينة " ر: ٤٠٠٩

## الحديث الخامس والسبعون

## (၇၅) ကိုယ်တော်မြတ် ﷺ ပေါ် ဒရူးဒ်မေတ္တာပို့သခြင်း

عـن أنـس بـن مـالك رضي الله عنه قال : قال رسول الله صلى الله عليه و سلم : " مَنْ صلّى عليَّ صَلاَةً واحدةً، صلى اللّٰهُ عليهِ عَشْرَ صلواتٍ، وحُطَّتْ عنه عَشْرُ خَطِيْئَاتٍ ، ورُفِعَتْ له عَشْرُ دَرَجَاتٍ". (رواه النسائي) (١)

ဟဇရတ်အနတ်စ် رضي اللّٰهعنه သည် ကိုယ်တော်မြတ် ﷺ မိန့်ကြားတော်မူသည်ကို ဤသို့ဆင့်ပြန်ခဲ့သည်။ ''ငါကိုယ်တော့်အပေါ် ဒရူးဒ်မေတ္တာတစ်ကြိမ်ပို့သသူ အပေါ် အရှင်မြတ်က မေတ္တာ(၁၀)ကြိမ်ပို့တော်မူမည်။ ထို့ပြင်၎င်း၏အမှား(၁၀)ခု ပလပ်ပေးခြင်းခံရမည်ဖြစ်ပြီး အဆင့်အတန်း(၁၀)ခုတိုးမြှင့်ပေးခြင်းခံရမည်။

### အကျိုးကျေးဇူး

နဗီတမန်တော်အားချစ်ခြင်း၏ တောင်းဆိုချက်တစ်ခုသည် ဟဂျ်ပြုပြီး မဒီနာမြို့သို့သွားရောက်ကာ နှစ်ဘဝသခင်ﷺ၏ ရောင်ဝ်သွာတော်(ဂူဗိမာန်)အား ဇေယာရတ်(ဖူးမြော်ခြင်း)ပင်ဖြစ်သည်။ ရောင်ဝ်သွာတော် ရှေ့မောက်တွင်ရပ်ပြီး ဒရူးဒ်မေတ္တာပို့သရခြင်းသည်လည်း အတိုင်းအဆမရှိ ကံကောင်းခြင်းတစ်ရပ်ဖြစ်သည်။

နေရာတိုင်းတွင်အွမ္မသ်ကို မမေ့ခဲ့သော ကိုယ်တော့်အား အချိန်တိုင်းသတိရ ဒရူးဒ်ပို့သပေးခြင်းမှာ မွတ်စ်လင်မ်တိုင်း၏ သာသနာပေးတာဝန်တစ်ရပ်ပင်မဟုတ်ပါလော။ ဒရူးဒ်ပို့ခြင်းသည် ကျွန်ုပ်တို့အကျိုးအတွက်သာလျှင် ဖြစ်ကြောင်းကိုလည်း ဟဒီးဆ်တော်က မီးမောင်းထိုးပြနေပါသည်။

### ကျက်မှတ်ရန် စကားဆစ်များ

| | |
|---|---|
| حَطَّ (ن) حُطًّا [عن] | ဖယ်ရှားခြင်း/ပလပ်ပေးခြင်း |

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊အကျိုးကျေးဇူးများနှင့်တကွ ဖတ်ပြပါ။

۞۞۞

(١) أخرجه النسائي في سننه : "باب الفضل في الصلاة على النبي ﷺ" ر:١٢٩٧

# كتاب الصوم

قـال الله تعالى : ﴿ يأيها الذين آمنوا كتب عليكم الصيام كما كتب على الذين من قبلكم لعلكم تتقون ﴾ البقرة : ١٨٣

﴿شهـر رمـضـان الـذي أنـزل فيه القرآن هدى للناس و بينات من الهدى و الفرقان ، فمن شهد منكم الشهر فليصمه ﴾ البقرة : ١٨٥

## الحديث السادس و السبعون

## (၇၆) ထွတ်မြတ်လှသော လမြတ်ရမ်ဇာန်

عن أبي هريرة رضي الله عنه ، عن النبي صلى الله عليه و سلم قال: "أتاكم رمَـضانُ شهرٌ مُبارَكٌ، فَرَضَ اللّٰهُ عزّو جل عليكم صِيَامَه ، تُفْتَحُ فيه أبوابُ السماءِ ، وتُـغْـلَـقُ فيـه أبوابُ الجَحِيْمِ ، وتُغَلُّ فيه مَرَدَةُ الشَّيَاطِيْنِ ، للّٰهِ فيه ليلةٌ خَيْرٌ مِنْ أَلْفِ شهرٍ، مَنْ حُرِمَ خَيْرَهَا فقدْ حُرِمَ" . (رواه النسائي ) (١)

**အဓိပ္ပါယ်**

နဗီတမန်တော်မြတ် ﷺ မိန့်ကြားတော်မူခဲ့သည်ကို ဟဇရသ် အဗူဟိုရိုင်ရဟ် သခင်ကအောက်ပါအတိုင်း ဆင့်ပြန်ခဲ့သည်။ ''အသင်တို့ထံမင်္ဂလာအပေါင်း ခညောင်းသော လမြတ်ရမ်ဇာန်ရောက်ရှိခဲ့ပြီ။ မြင့်မြတ်တော်မူသော အရှင်မြတ်က အသင်တို့အပေါ် ထိုလ ၏ရိုဇာအားစောင့်ထိန်းရန် ပြဋ္ဌာန်းလိုက်ပြီ။ ထိုလတွင် ကောင်းကင်၏တံခါးအပေါင်း ဖွင့် ပေးထားပြီး၊ ဂျဟန္နမ်ငရဲဘုံ၏ တံခါးများ ပိတ်ပေးထားပြီးဖြစ်သည်။ ဆိုးသွမ်းသော ရှိုင် သွာန်မိစ္ဆာကောင်များသည်လည်း ထိုလတွင် ဖမ်းဆီးချုပ်နှောင်ခြင်းခံထားရမည်။ ထိုလ တွင် အရှင်မြတ်ချီးမြင့်တော်မူမည့် လပေါင်းတစ်ထောင်ထက် သာမြတ်သော ညဥ့်တစ်ညဥ့် ရှိသည်။ ထိုညဥ့်၏ကောင်းခြင်းများကို လက်လွှတ်ဆုံးရှုံးလိုက်ရသူသည် အမှန်ပင် ဆုံးရှုံးရ သူဖြစ်မည်။

**ရှင်းလင်းချက်**

**ဤဟဒီးဆ်တော်မြတ်တွင် လမြတ်ရမ်ဇာန်၏ထွတ်မြတ်ကြောင်း၊ ရိုဇာဖရဇ်ဖြစ် ကြောင်း၊ ဤလတွင် ဂျန္နသ်၏တံခါးများပွင့်ပြီး၊ ဂျဟန္နမ်၏တံခါးများပိတ်ထားကြောင်း၊**

လပေါင်းတစ်ထောင်ထက်သာမြတ်သော ကဒ်ရ်ညဥ့်မြတ်ရှိကြောင်း အသီးသီး မိန့်ခွဲ ထားသည်။ ဤအချက်များ၏ ရှင်းလင်းချက်အကျယ်ကို ဟဇရသ်မော်လာနာ ဇကရီ ယာဆွာဟိဗ် ၏ ဖဇာအေ့လေ့ရမ်ဇာန်တွင် အကျယ်တဝင့်လေ့လာနိုင်သည်။

ဟစ်ဂျ်ရီ(၂)ခုနှစ်၊ရှာအ်ဗာန်လ(၃)ရက်၊ တနင်္လာနေ့တွင် ရိုဇာဖရ်ဇ်ဖြစ်ခဲ့သည် ဟု သမိုင်းပညာရှင်များက အဆိုပြုကြသည်။ ရိုဇာဆိုသည်မှာ ဖာရစီစာပေတွင် "နေ့ စဉ်မပြတ်" ဟု အဓိပ္ပါယ်ရသည်။ အရဗီစာပေတွင် صَوْمٌ၊ صِيَام စသည်ဖြင့် သုံးသည်။ صوم ၊ صيـام ဆိုသည်မှာ ထိန်းချုပ်ခြင်းဟူ၍ဖြစ်ပြီး ရှရီအသ်တရားတော်မြတ်တွင်မူ နံနက်မိုးသောက်လင်းချိန်မှ ညနေ နေဝင်ချိန်ထိ နီယသ်ရည်စူးချက်နှင့်တကွ စားခြင်း၊ သောက်ခြင်း၊ သံဝါသပြုခြင်းတို့မှ မိမိကိုယ်မိမိထိန်းချုပ်ခြင်းကို ခေါ်ဆိုသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| လောင်ကျွမ်းစေသော၊ ဟစ်ဂျ်ရီပြက္ခဒိန်၏ နဝမမြောက်လ | رَمَضَانُ |
| မီးဟုန်းဟုန်းတောက်နေသော ငရဲဘုံ | الجحيْمُ |
| လည်ပင်းတွင် ကြိုးကွင်းစွပ်ခြင်း | أَغَلَّ (إفعال) |
| ဆိုးသွမ်းမိုက်မဲသူ | مارِدٌ (ج) مَرَدَةٌ |
| လက်မဲ့ဖြစ်ခြင်း၊ ဆုံးရှုံးခြင်း | حُرِمَ (مجهول) |

**လေ့ကျင့်ခန်း**

၁။ ရမ်ဇာန်နှင့်ရိုဇာအကြောင်းပါရှိသည့် အာယသ်တော်များကို အလွတ်ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်မှ အခြားသော အကျိုးတရားများကို မိမိဘက်မှ ဖြည့်စွက်ပြောပြပါ။

၃။ ရိုဇာမည်သည့်အချိန်တွင် ဖရ်ဇ်ဖြစ်ခဲ့သနည်း။

❁❁❁

(١) أخرجه النسائي في سننه :" كتاب الصيام " ر: ٢١٠٦

## الحديث السابع والسبعون

## (၇၇) ထွတ်မြတ်လှသော ရိုဇာ

عـن أبـي هـريرة رضي الله عنه قال: قال رسول الله صلى الله عليه وسلم : قـال الله: " كـلُّ عـملِ ابنِ آدمَ لَهُ إلا الصِّيَامَ ، فإنه لي وأَنَا أَجْزِيْ بِه ، والصيامُ جُنَّةٌ وإذا كان يومُ صومِ أحدِكم فلا يَرْفُثْ ولا يَصْخَبْ ، فإن سَابَّه أحدٌ أو قاتَلَهُ فَلْيَقُلْ: إنـي امـرُؤٌ صـائمٌ والَّذي نفسُ محمدٍ بِيَدِه لَخُلُوْفُ فَمِ الصَّا ئِمِ أطيبُ عندَ الله منْ رِيْحِ الْمِسْكِ، للصائِمِ فَرْحَتَانِ يَفْرَحُهُمَا إذا أَفْطَرَ فَرِحَ، وإذا لَقِيَ رَبَّهُ فَرِحَ بِصَوْمِهِ". (رواه البخاري) (١)

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟုရိုင်ရဟ်သခင်သည် ကိုယ်တော်မြတ် ﷺမိန့်ကြားတော်မူသည်ကို အောက်ပါအတိုင်းဆင့်ပြန်ခဲ့သည်။''အလ္လာဟ်အရှင်မြတ်(ကိုယ်တိုင်)မိန့်ကြားခဲ့သည်။ ''ရိုဇာမှအပ လူသား၏ ကောင်းမှုဟူသရွေ့တို့သည် ၎င်းအဖို့သာဖြစ်သည်။ ရိုဇာမှာမူ ငါအရှင်မြတ်အတွက် သက်သက်စောင့်ထိန်းခြင်းဖြစ်သောကြောင့် ငါအရှင်မြတ်ကိုယ်တော်တိုင် ထိုရိုဇာ၏ အစားကိုချီးမြှင့်တော်မူမည်။ ရိုဇာသည် ဒိုင်းသဖွယ်ဖြစ်သည်။ အသင်တို့အနက်တစ်ဦးတစ်ယောက်သည် ရိုဇာထားသည့်နေ့တွင် အဟောသိကစကားပြောခြင်း၊ အော်ဟစ်ဆူညံခြင်းတို့မှ ရှောင်ပါလေ။ တစ်ဦးတစ်ယောက်က ယင်းရိုဇာထားသူအား ဆဲရေးတိုင်းထွာခြင်း၊ ရန်လိုခြင်းများပြုလာလျှင် ''ကျွန်ုပ်သည် ရိုဇာစောင့်ထိန်း ထားပါသည်''ဟု ပြန်လည်ဖြေကြားလိုက်ပါ။ မုဟမ္မဒ်၏အသက်ကိုစိုးပိုင်တော်မူသော အရှင်မြတ်၏ ကစမ် ရိုဇာစောင့်ထိန်းသူ၏ခံတွင်းမှထွက်သော ရနံ့သည်အရှင်မြတ်ထံတွင် ကံတိုးနံ့ထက် ပင်ပိုမိုမွှေးကြိုင်သည်။ ရိုဇာစောင့်ထိန်းသူအတွက် ပျော်ရွှင်ရမည့်ကာလနှစ်ခုရှိသည်။ ပထမတစ်ခုမှာ – ဝါဖြေချိန်ရရှိသည့် ပျော်ရွှင်မှု၊ ဒုတိယတစ်ခုမှာ – အရှင်မြတ်နှင့်တွေ့ဆုံချိန် ရိုဇာကြောင့်ရရှိမည့် ပျော်ရွှင်မှုတို့ဖြစ်သည်။

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်သည် ဟဒီးဆေ့ကုဒုစီဖြစ်သည်။ အေဗာဒသ်တိုင်းတွင် ထူးခြားချက်ရှိသည်။ ရိုဇာ၏ထူးခြားချက်မှာ ရိယာ(ပြစားမှု)ကင်းရှင်းခြင်းဖြစ်သည်။ ထို့ကြောင့်လည်းအရှင်မြတ်ကိုယ်တိုင်အစားချီးမြှင့်မည်ဟု ကတိပေးထားခြင်းဖြစ်သည်။ ထို့အတူ ရိုဇာသည် ဂျဟန္နမ်ငရဲမီးမှကာကွယ်ပေးမည့်၊ ရှိုင်သွာန်၏ အန္တရာယ်မှကာကွယ်ပေးမည့် ဒိုင်းဖြစ်ကြောင်းသိရသည်။

ဤကဲ့သို့ကြီးမားလှသော အကျိုးထူးများရယူဆွတ်ခူးနိုင်ရန် လူသားဘက်မှ မိမိကိုယ်မိမိ အဓိပ္ပါယ်မဲ့လုပ်ရပ်များ၊ ပြဿနာများမှ ထိန်းသိမ်းရမည်။ ရန်လိုသူများကိုလည်း မေတ္တာဖြင့်သာ ပြန်လည်တုန့်ပြန်ရမည်။

အစာအိမ်တွင် အစာမရှိသောကြောင့် ရိုဇာစောင့်ထိန်းသူ၏ ခံတွင်းမှထွက်လာသော အနံ့ကို အရှင်မြတ်က ကတ်တိုးထက်ပင်ပိုမိုနှစ်သက်သည်ဟုဆိုခြင်းမှာလည်း ဤအွမ့်သ်၏ ထူးခြားချက်တစ်ရပ်ပင် မဟုတ်ပါလော။

ဟဒီးဆ်၏ အဆုံးပိုင်းတွင် မွတ်စ်လင်မ်တို့အတွက် ရိုဇာအကြီးနှင့်အသေးနှစ်မျိုးရှိကြောင်း ညွှန်းချက်ပါရှိသည်။ ရိုဇာအသေးတွင် နံနက်မှညနေအထိစားပိုင်သောအရာများကို အရှင်မြတ်အတွက် မစားဘဲစောင့်ထိန်းရာ ရသာစုံလင်သော ခဲဘွယ်ဘောဇဉ်များဖြင့် ဝါဖြေရင်း ပျော်ရွှင်မဆုံးဖြစ်ရသည်။ ဒုတိယရိုဇာမှာ အစ္စလာမ်လက်ခံထားခြင်းကြောင့် တစ်သက်လုံးစောင့်ထိန်းခဲ့ရသည့် ရိုဇာကြီးဖြစ်သည်။ ထိုရိုဇာကြီး၏ ဖြေဆိုချိန်မှာ အရှင်မြတ်ရှေ့မောက်တွင်ဖြစ်မည်။ အရှင်မြတ်ကိုယ်တိုင် တည်ခင်းဧည့်ခံမည့် မကြားဖူး၊မမြင်ဖူး၊ စိတ်ကူးမယဉ်ခဲ့ဖူးသည့် ဂျန္နသ်မှစားသောက်ဖွယ်ရာများဖြင့် ဖြေဆိုပြီး ပျော်၍မဆုံး ပြုံး၍မဝနိုင်ဖြစ်ရပေမည်။

မှတ်သားရန်။ ။ الحديث القُدُسِيُّ ဆိုသည်မှာ အဓိပ္ပါယ်သည် အရှင်မြတ်ဘက်မှဖြစ်ပြီး စာလုံးများမှာ ကိုယ်တော်သခင်ﷺ ဘက်မှဖြစ်သော ဟဒီးဆ်မျိုးကို

ခေါ်သည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| အစားပေးခြင်း | جزى (ض) جزاءً ا بـ |
| အဓိပ္ပါယ်မဲ့သော စကားပြောဆိုခြင်း | رفث (ن، س ) رَفَثًا ، رُفُوْثا |
| အော်ဟစ်ဆူညံခြင်း | صخب (س) صَخْبًا، صَخَبًا |
| အချင်းချင်း ဆဲရေးတိုင်းထွာပြုခြင်း | سابّ (مفاعلة) |
| ခံတွင်းနံ့ | خُلُوْفٌ |
| ကံတိုး | المِسْكُ |

**လေ့ကျင့်ခန်း**

၁။ ရိုဇာ၏ထူးခြားချက်ကိုပြောပြပါ။

၂။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ အလွတ်ရွတ်ဆိုပြပါ။

၃။ حديث قدسي ဆိုသည်ကို ရှင်းပြပါ။

၄။ ရိုဇာစောင့်ထိန်းသူသည် မည်သည့်အချက်များကို ရှောင်ရမည်နည်း။

❀❀❀

(١) أخرجه البخاري في صحيحه : "كتاب الصوم ، باب هل يقول إنى صائم إذا شتم" ر:١٩٠٤

## الحديث الثامن والسبعون

﴿يَسْئَلُوْنَكَ عن الأَهِلَّةِ ، قُلْ هِيَ مَوَاقِيْتُ لِلنَّاسِ﴾ البقرة : ٨٩

﴿وَالْقَمَرَ قَدَّرْنٰهُ مَنَازِلَ حَتّٰى عَادَ كَالْعُرْجُوْنِ الْقَدِيْمِ﴾ يٰس : ٣٩

## (၇၈) လမြင်မှ ရိုဇာထားကြ

عن ابن عمر رضي الله عنهما عن النبي صلى الله عليه وسلم قال: "لاتصوموا حتى تَرَوُا الْهِلاَلَ ، ولاتُفْطِرُوْا حتى تَرَوْهُ ، فَإِنْ غُمَّ عليكم فَاقْدِرُوا لَهٗ". (رواه البخاري ) (١)

**အဓိပ္ပါယ်**

ဟဇရသ် အိဗ်နေ့အုမရ်သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ မိန့်တော်မူခဲ့သည်။ ''အသင်တို့သည် ဆန်းဦးစလကို မမြင်သေးသရွေ့ရိုဇာမထားကြပါနှင့်။ ထို့အတူ လမြင်မှသာ အီးဒ်လုပ်ကြကုန်။ တိမ်များဖုံးလွှမ်းနေသောကြောင့် ဆန်းဦးစလ မမြင်နိုင်ပါက (ရက်(၃၀)အပြည့်)လဟု သတ်မှတ်ကြလေကုန်။''

**ရှင်းလင်းချက်**

ဟစ်ဂျ်ရီပြက္ခဒိန်သည် လ'ဗဟိုပြုစနစ်ပေါ်တွင် အခြေခံသည်။ လ'မြင်ခြင်းဖြင့်သာ တစ်လကုန်ဆုံးခြင်း၊ တစ်နှစ်ပတ်လည်ခြင်း စသည်တို့ကို သတ်မှတ်ပိုင်းခြားနိုင်သည်။ ရိုဇာထားခြင်း၊ အီးဒ်ပြုခြင်း၊ ကုရ်ဘာနီနေ့ရက်များသတ်မှတ်ခြင်း၊ လင်ခန်းမယားခန်းပြတ်စဲသည့်ကာလစတင်ခြင်း၊ အဆုံးကာလသတ်မှတ်ခြင်းစသည်တို့ကို လဗဟိုပြုစနစ်ဖြင့် သတ်မှတ်မှတ်ရသည်။

အချုပ်ဆိုရသော် လကြည့်ခြင်းသည် စွန္နသ်တော်တစ်ခုဖြစ်သည်။ လမြင်ကြောင်း အတည်ပြုရေးတွင်လည်းစည်းကမ်းများရှိရာ ရှေ့တွင်ဖော်ပြသွားပါမည်။ လမြင်သည့်အခါတွင်လည်း ကိုယ်တော်သခင် ﷺ အွမ္မသ်ကို သင်ကြားပေးခဲ့သော အစွမ်းထက်ပြီး အနှစ်သာရပါသည့် အောက်ပါဒိုအာကို အမြဲတောင်းခံသင့်သည်။

" اَللّٰهُمَّ أَهِلَّهٗ عَلَيْنَا بِالْأَمْنِ والإِيْمَانِ ، والسَّلامَةِ والإِسْلاَمِ ، رَبِّيْ وَرَبُّكَ اللّٰهُ ، هِلاَلَ رُشْدٍ وَخَيْرٍ " (٢)

“အိုအရှင်မြတ် - ကျွန်ုပ်တို့အပေါ်ပဋိပက္ခကင်းပြီး၊အီမာန်ခွန်အား တိုးပွားစေမည့်၊ ငြိမ်းချမ်းမှုအပေါင်းဆောင်ကြဉ်းပြီး အစ္စလာမ့်(ချစ်စိတ်များသွန်းဖြိုးပေးမည့်) ဆန်းဦးစ‘လမျိုးကိုထွက်စေတော်မူပါ။

အို-မှန်ကန်သောလမ်းညွှန်မှု၊အကောင်းများကို သယ်ဆောင်လာသော ဆန်းဦးစ‘လ အသင့်အရှင်နှင့်ကျွန်ုပ်အရှင်သည် အလ္လာဟ်အရှင် မြတ်သာလျှင်ဖြစ်ပေသည်။”

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| တိမ်ဖုံးလွှမ်းခြင်း | غُمَّ الهلالُ (ن) غَمًّا (المجهول) |
| သတ်မှတ်ခြင်း | قدر (ض، ن) قَدْرًا |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွ ရွတ်ဆိုပြပါ။

၂။ အစ္စလာမ့်ပြက္ခဒိန်သည် မည်သည့်စနစ်ပေါ် အခြေခံသနည်း။

❁ ❁ ❁

(١) أخرجه البخاري في صحيحه :" باب قول النبي ﷺ إذا رأيتم الهلال فصوموا ...... " ر: ١٩٠٦

(٢) أخرجه الترمذي في سننه : " كتاب الدعوات " ، 'باب مايقول عند رؤية الهلال ' ر:٣٤٥١.

## الحديث التاسع و السبعون

﴿وَاسْتَشْهِدُوْا شَهِيْدَيْنِ مِنْ رِّجَالِكُمْ﴾ البقرة : ٢٨٢

## (၇၉) လမြင်ကြောင်း သက်သေခံခြင်း

عن ابنِ عباسٍ قال: "جاء أعرابيٌّ إلى النبيّ صلَّى الله عليه و سلم فقال: " إني رأيتُ الهِلالَ". فقال:" أتَشهَدُ أن لا إله إلا الله ؟ قال: نعم ، قال: أتشهدُ أن محمداً رسولُ الله ؟ قال: نعم ، قال: "يا بلالُ ! أذِّن في النَّاسِ فليصُومُوا غداً".

(رواه أبوداود) (١)

**အဓိပ္ပါယ်**

ဟဇရသ် အိဗ်နေ့အဗ္ဗါးစ်သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကျေးတောသား တစ်ဦးသည် ကိုယ်တော်မြတ် ﷺ ထံအခစားဝင်ပြီး (ရမ်ဇာန်၏ဆန်းဦးစလ)ကို တွေ့မြင်ခဲ့ကြောင်းသက်သေခံခဲ့သည်။ ကိုယ်တော်သခင် ﷺ က ''အလ္လာဟ်အရှင်မြတ်မှ တစ်ပါးအခြားခဝပ်ကိုးကွယ်ခြင်းခံထိုက်သူမရှိကြောင်း အသင်သက်သေခံပါသလော''ဟု မေးမြန်းတော်မူရာ ကျေးတောသားက''ဟုတ်ကဲ့၊သက်သေခံပါသည်ဟု ဖြေကြားခဲ့သည်။ တဖန်ကိုယ်တော်မြတ် ﷺ က ''မုဟမ္မဒ်သည် အရှင်မြတ်စေလွှတ်သော စေတမန်ဖြစ်ကြောင်း အသင်သက်သေခံပါသလော''ဟု ဆက်လက်မေးမြန်းတော်မူရာ ထိုသူက ''ဟုတ်ကဲ့ပါ'' ဟု ဖြေကြားခဲ့သည်။

ထိုအခါကိုယ်တော်သခင် ﷺ က ''အိုဗိလားလ် လူတို့အား မနက်ဖန် ရိုဇာစောင့်ထိန်းရန်ကြေညာလိုက်ပါ''ဟု မိန့်ကြားလိုက်သည်။

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်သည် လမြင်သူတွင်ရှိသင့်ရှိအပ်သည့် အရည်အချင်းများကို မီးမောင်းထိုးပြနေသည်။

**အခြားမှတ်သားသင့်သည့်အချက်များမှာ**

☆ **ကောင်းကင်ယံတွင် တိမ်သလ္လာများဖုံးကွယ်နေပါက**

ရမ်ဇန်၏ဆန်းဦးစ'လမြင်ကြောင်း အတည်ဖြစ်ရန် သမာဓိရှိသော မွတ်စ်လင်မ်အမျိုးသား (သို့) အမျိုးမျိုးသမီးတစ်ဦးမှ လမြင်ကြောင်းသက်သေပေးခြင်း(သို့)သတင်းပေးခြင်းဖြင့် လမြင်ကြောင်း အတည်ပြုရမည်။

အီးဒ် လ'မြင်ခြင်းအတည်ဖြစ်ရန်မှာမူ သမာဓိရှိသော မွတ်စ်လင်မ်အမျိုးသား (၂)ဦး (သို့) သမာဓိရှိသော မွတ်စ်လင်မ်အမျိုးသားတစ်ဦးနှင့် မွတ်စ်လင်မ်အမျိုးသမီး (၂)ဦးမှ သက်သေထွက်ဆိုမှသာ အတည်ဖြစ်မည်။

☆ **ကောင်းကင်ယံတွင် တိမ်ကင်းစင်နေပါက**

☆ ကောင်းကင်ယံတွင် တိမ်ကင်းစင်နေပါက လူအုပ်စုကြီးတစ်စုကမြင်မှသာ အတည်ဖြစ်မည်။

**ရမ်ဇာန်အပြင် အခြားသော ဆန်းဦးစ လ များ**

☆ ရမ်ဇန်မှအပ အခြားဆန်းဦးစလ'မြင်ကြောင်းအတည်ဖြစ်ရေးအတွက် ကောင်းကင်တွင်တိမ်ကင်းစင်နေပါက လူအုပ်စုကြီးတစ်ခုမြင်မှ အတည်ဖြစ်မည်။

☆ ကောင်းကင်ယံတွင် တိမ်ရှိနေပါက သမာဓိရှင်မွတ်စ်လင်မ် အမျိုးသားနှစ်ဦး(သို့) အမျိုးသားတစ်ဦး+အမျိုးသမီး(၂)ဦးမြင်မှသာ လမြင်ကြောင်း အတည်ဖြစ်မည်။

☆ လမြင်ကြောင်းသက်သေခံပေးသူသည် အောက်ပါစည်းကမ်းချက်များနှင့် ကိုက်ညီရမည်။

၁။ မွတ်စ်လင်မ်ဖြစ်ရမည်။ ၂။ အသိဉာဏ်ရှိသူဖြစ်ရမည်။

၃။ အရွယ်ရောက်သူဖြစ်ရမည်။ ၄။ မျက်လုံးမြင်သူဖြစ်ရမည်။

၅။ သမာဓိရှိသူဖြစ်ရမည်။

၆။ မိမိကိုယ်တိုင် တွေ့မြင်ပြီးပေးရမည်။ အကြားဖြင့် မပေးရ။

၇။ သက်သေပေးခြင်းအတည်ဖြစ်မည့် နေရာတွင် သက်သေပေးခြင်းအထမြောက်စေမည့်စကားလုံးများဖြင့်သက်သေခံရမည်။

☆ ရမ်ဇာန်လမြတ်၏ ဆန်းဦးစ လ မြင်ကြောင်း အတည်ဖြစ်ရေးအတွက် သတင်းပေးခြင်းသည်ပင် လုံလောက်သည်။ သက်သေထွက် ဆိုပေးရန် အရေးမကြီးပါ။

☆ ဖုန်းဖြင့်အကြောင်းကြားခြင်းသည် သက်သေပေးခြင်းမဟုတ်၊ သတင်းပေးခြင်းသာဖြစ်သည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| ကြေညာခြင်း | أَذَّن (تفعيل) |
| ကျေးတောသား | أَعْرَابِيٌّ (ج) أَعْرَابٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အလိုသဘောကို ရှင်းပြပါ။

၂။ သက်သေခံသူသည် မည်သည့်စည်းကမ်းချက်များနှင့် ကိုက်ညီရမည်နည်း။

၃။ ကောင်းကင်တွင် တိမ်ဖုံးနေသောအခါ မည်သို့အမိန့်များရှိသနည်း။

❁❁❁

(١) أخرجه أبوداود في سننه : "باب شهادة الواحد على رؤية هلال رمضان" ر: ٢٣٤٠

## الحديث الثمانون

﴿وَقَدَّرَهُ مَنَازِلَ لِتَعْلَمُوْا عَدَدَ السِّنِيْنَ وَالْحِسَابَ﴾ يونس : ٥

## (၈၀) နေထွက်လထွက်ရာမတူညီသော အရပ်ဒေသတွင်လမြင်ခြင်း

عـن كُـرَيْبٍ أن أُمَّ الْفَضْلِ بنتَ الحارثِ بَعَثَتْهُ إلى معاويةَ بالشام ، قال : " فـقَـدِمْـتُ الشـامَ فـقـضَـيْـتُ حاجتَها ، واسْتُهِلَّ عليّ رمضانُ وأنا بالشام ، فرأيتُ الهـلالَ ليـلةَ الـجـمعةِ ثمّ قدمتُ المدينةَ في آخرِ الشهرِ فسأَلَنِيْ عبدُ اللّٰه بنُ عباس رضـي الـلّٰـه عنهما ثم ذكرَ الهلالَ ، فقال : " متى رأيتم الهلالَ ؟ " فقلت : " رأيناه ليـلةَ الـجـمـعة "، فـقـال : " أنتَ رأيتَهُ؟ فقلت : نعم ، ورآه الناس وصاموا ، وصام معاوية ، فقال : لٰكِنَّا رأينَاهُ ليلةَ السبتِ فلا نزال نصومُ حتى نُكْمِلَ ثلاثين ، أو نراهُ، فـقلت : " أَوَ لَا تَكْتَفِيْ بِرُؤْيَةِ مُعاويةَ وصيامِه ؟ فقال : " لا ، هكذا أمرَنَا رسولُ اللّٰه صلى اللّٰه عليه وسلم" . (رواه مسلم)[1]

ဟဇရတ်ကိုရိုင်းဗ် သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဟဇရတ်အွမ်မေ့ဖဇ္ဇ်လ်က ကျွန်ုပ်အား ဆီးရီးယားနိုင်ငံရှိမုအာဝေယာﷺ ထံစေလွှတ်ခဲ့သည်။ ကျွန်ုပ်ဆီးရီယားနိုင ငံသို့ရောက်ရှိပြီး သခင်မ၏ကိစ္စများကိုအပြီးသတ်ဆောင်ရွက်လိုက်ပါသည်။ ကျွန်ုပ် ဆီးရီယားတွင် ရှိနေစဉ်၌ပင် ရမ်ဇာန်လမြတ်၏ဆန်းဦးစလ မြင်ခဲ့ပါသည်။ ကျွန်ုပ်သည် ရမ်ဇာန်၏ဆန်းဦးစ လ သောကြာညတွင်မြင်တွေ့ခဲ့သည်။

ရမ်ဇာန်လ၏အဆုံးပိုင်းတွင် မဒီနာသို့ကျွန်ုပ်ပြန်လည်ရောက်ရှိခဲ့သည်။ အိဗ်နေ့ အဗ်ဗားစ်သခင်ကြီးက ကျွန်ုပ်အား ခရီးစဉ်နှင့်ပတ်သက်ပြီးမေးမြန်းရင်း လ အကြောင်း လည်းဆွေးနွေးဖြစ်ခဲ့သည်။

သခင်က အသင်တို့ဘယ်အချိန်က လ မြင်ခဲ့သနည်းဟု မေးမြန်းခဲ့ရာ ကျွန်ုပ်က သောကြာညတွင်ကျွန်ုပ်တို့မြင်တွေ့ခဲ့ပါသည်ဟု ပြောကြားရာ သခင်က ''မောင်မင်း ကိုယ်တိုင်မြင်တွေ့ခဲ့တာလား''ဟု ဆက်လက်မေးမြန်းခဲ့ပြန်သည်။ ကျွန်ုပ်က လည်း

ကိုယ်တိုင်လည်း မြင်တွေ့ခဲ့ကြောင်း မိုအာဝေယာသခင်နှင့်အတူအခြားလူများက လည်း မြင်တွေ့ခဲ့ပြီး ရိုဇာပင် ထားခဲ့ကြကြောင်း လျှောက်တင်ရာ သခင်က ''ဒို့ကတော့ (မဒီနာမှာ)စနေနေ့ညမှာ မြင်တွေ့ခဲ့တာဖြစ်တဲ့အတွက် (၂၉)မှာလမြင်လျင်မြင်၊ မဟုတ်ပါက ရက်(၃၀)အတိ ရိုဇာစောင့်ထိန်းသွားမယ်''ဟု မိန့်ကြားခဲ့ပါသည်။ ထိုအခါကျွန်ုပ်က ''ဆီးရီးယားမှာ မိုအာဝေယာသခင်ရဲ့ လမြင်ခြင်းနဲ့ရိုဇာထားခြင်းက ကျွန်ုပ်တို့မဒီနာနေသူ များအတွက် မလုံလောက်ဘူးလား''ဟု မေးလျှောက်ရာ သခင်ကြီးက ''မလုံလောက်ပါ ဘူး၊ ဒီလိုပဲ(ကျင့်သုံးဖို့)ငါတို့ကို နဗီတမန်တော်မြတ် က အမိန့်ပေးခဲ့တယ်''ဟု ဖြေကြားခဲ့ ပါသည်။

**ရှင်းလင်းချက်**

အထက်ပါဟဒီးဆ်တော်မှ اختلاف المطالع နေထွက်၊လထွက်ရာမတူသော ဝေးလံသည့်နိုင်ငံများတွင်နေသူများသည် မိမိတို့အရပ်ဒေသတွင်မြင်သောလ ဖြင့် အစ္စလာမ့်ဆန်းဦးစ လကို သတ်မှတ်ရမည်ဖြစ်ကြောင်းသိရှိရသည်။

ဖေကဟ်ပညာရှင်များက ဝေးလံသည့်အတိုင်းအတာကို တစ်လခရီးဟု သတ်မှတ်ကြသည်။ အချို့က လကြည့်ရာတွင်တစ်ရက်ကွာသည့် နိုင်ငံတိုင်းသည်လည်း ဤအမိန့်အတိုင်းဖြစ်သည်ဟု ဆိုကြသည်။ ဥပမာ - ဆော်ဒီနိုင်ငံ၊ အင်္ဂလန်နိုင်ငံ စသည်တို့နှင့် ကျွန်ုပ်တို့မြန်မာနိုင်ငံတို့ကြားကွာခြားမှု

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| ဆန်းဦးစ လထွက်ပေါ်ခြင်း | استهل (استفعال) |
| လုံလောက်ခြင်း | اكتفى (افتعال) |

## ဟဒီးဆ်တွင်ပါဝင်သည့် ဆွဟာဗီအကြောင်း

## مُعَاوِيَةُ بن أَبِي سفيان الأموي رضي الله عنه

မိုအာဝေယာ သခင်ကြီးသည် ဩဇာကြီးမားသည့် ကိုရိုင်းရှ်မျိုးနွယ်၊ အိုမိုက်ယာမျိုးစုဝင် ဆွဟာဗီဖြစ်သည်။ အစ္စလာမ့်သမ္မတကြီးတစ်ပါးလည်းဖြစ်ခဲ့သည်။ (၉၁)ကြာ ကမ္ဘာကြီးကိုအုပ်ချုပ်ခဲ့သည့် ဗနူအိုမိုက်ယာအုပ်ချုပ်ရေးစနစ်ကို မျိုးစေ့ချခဲ့သည့် ဆွဟာဗီလည်းဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ အဗူအဗ္ဗဒုရ်ရဟ်မာန်ဖြစ်သည်။ ဟစ်ဂျ်ရီ(၇)ခုနှစ်၊ဇုလ်ကအ်ဒဟ်လတွင် အစ္စလာမ် သာသနာလက်ခံတော်မူခဲ့သည်။ နဗီတမန်တော်မြတ် ﷺထံမှ များစွာသော ဆုမ္မန်ဒိုအာကောင်းများရရှိခဲ့သည်။

စစ်ရေးဗျူဟာအလွန်ကျွမ်းကျင်သည့်ဆွဟာဗာများအနက်မှဖြစ်ပြီး၊ ချစ်နဗီထံပါးတွင် ဝဟီနှင့်အခြားသော စာလွှာများရေးသားခွင့်ရရှိခဲ့သည်။

အရပ်အမောင်းကောင်းပြီး၊ ရုပ်ရည်ချောမောလှပသူဖြစ်သည်။ စာပေကျမ်းဂန်တွင်လည်းအလွန်နှံ့စပ်ကျွမ်းကျင်သူဖြစ်ခဲ့သည်။

နဗီတမန်တော်မြတ်ﷺထံမှ ဟဒီးဆ်တော်ပေါင်း(၁၃၆)ပုဒ် ဆင့်ပြန်ခဲ့သည်။

သက်တော်(၇၇)ခုနှစ်၊ဟစ်ဂျ်ရီ(၆၀)ခုနှစ်ရဂျဗ်လတွင် ဒမတ်စ်ကတ်မြို့၌ ကွယ်လွန်တော်မူခဲ့သည်။ (٢)

## ဟဒီးဆ်တွင်ပါဝင်သည့် ဆွဟာဗီယာအကြောင်း

## أم الفضل (لُبَابَةُ بِنْتُ الحارث الهِلاَلِيَّةُ)

أم الفضل သခင်မကြီး၏အမည်မှာ لُبَابَةُ ဖြစ်သည်။ သခင်မကြီးသည် ဟဇရသ် အဗ္ဗါးစ်၏ ဇနီးဖြစ်သည်။ မိခင်မွန် မိုင်မူနဟ်သခင်မကြီး၏အစ်မလည်းဖြစ်သည်။ ကုရ်အာန့်သုခမိန်ကြီး ဟဇရသ်အိဗ်နေ့အဗ္ဗါစ်ကဲ့သို့ အကျော်အမော်ပေါင်း(၆)ဦးကို မွေးဖွားသန့်စင်ပေးခဲ့သည့် မိခင်ကြီးလည်းဖြစ်သည်။ မိခင်မွန်ခဒီဂျာသခင်မနောက် ပထမဆုံးအစ္စလာမ်ခံခဲ့သည့် အမျိုးသမီးလည်းဖြစ်သည်။

ဟဇရသ်အွတ်စ်မားန် သခင်အုပ်ချုပ်စဉ်ကာလတွင် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ်ﷺ ထံမှ ဟဒီးဆ်တော်ပေါင်း (၃၀)ဆင့်ပြန်ခဲ့သည်။ (٣)

**ဟဒီးဆ်ဆင့်ပြန်သည့် သာဗေ့အီအကြောင်း**

**كُرَيْبُ بْنُ أبي مسلم القُرَشِيّ**

ဟဇရသ်ကိုရိုင်းဗ်သခင်သည် ဟဇရသ်အိဗ်နေ့အဗ်ဗားစ်သခင်ကြီး၏ သူကောင်းပြုခြင်းခံရသည့် သာဗေ့အီဖြစ်သည်။ ဂုဏ်ထူးဆောင်အမည်မှာ أبـو رِشْـدِيْـنٍ ဖြစ်သည်။ ကြီးကျယ်သော ဆွဟာဗာကြီးများထံမှ ဟဒီးဆ်တော်များ ဆင့်ပြန်ခဲ့သည်။

သခင့်ထံမှ အေမာမ်ဇုဟ်ရီ၊ အေမာမ်မက္ကဟူးလ်ကဲ့သို့သော အကျော်အမော်များက ဟဒီးဆ်တော်များဆင့်ပြန်ခဲ့ကြသည်။

အေမာမ်အိဗ်နေ့မအီးန်၊ အေမာမ်နစာအီတို့ကဲ့သို့သောဟဒီးဆ်ပါမောက္ခကြီးများက ဟဇရသ်ကိုရိုင်းဗ်သည် ဟဒီးဆ်အရာတွင် သစ္စာသမာဓိရှိသူဟု မှတ်ချက်ပြုခဲ့ကြသည်။ အေမာမ်ဗိုခါရီ၊အေမာမ်မွတ်စ်လင်မ်နှင့်အခြားသော အေမာမ်ကြီးများကလည်း မိမိတို့ကျမ်းများတွင် ဟဇရသ်ကိုရိုးဗ်ဆင့်ပြန်သည့် ဟဒီးဆ်တော်များကို ဆင့်ပြန်ဖော်ပြထားကြသည်။

သခင်သည် ဟစ်ဂျ်ရီ(၉၈)ခုနှစ်၌ မဒီနာရွှေမြို့တော်တွင် ကွယ်လွန်ခဲ့သည်။ (٤)

(١) أخرجه مسلم في صحيحه : "باب بيان أن لكل بلد رؤيتهم ......" ر: ١٠٨٧

(٢) رواة التهذيبين : "تهذيب الكمال للمزي ، وتهذيب التهذين لابن حجر" ، سير أعلام النبلاء

(٣) رواة التهذيبين : "تهذيب الكمال للمزي ، وتهذيب التهذين لابن حجر"، سير أعلام النبلاء
موسوعة الحديث : إحصائية عن الصحابيات اللائي روين الحديث عن النبي ﷺ لأحمد الكلحي

(٤) رواة التهذيبين : "تهذيب الكمال للمزي ، وتهذيب التهذين لابن حجر"، سير أعلام النبلاء

**လေ့ကျင့်ခန်း**

၁။ اختلاف المطالع ၏ အလိုသဘောကို ရှင်းပြပါ။

၂။ ဟဒီးဆ်တွင်ပါဝင်သည့် ဆွဟာဗာများနှင့်သာဗေ့အီတို့၏ အကြောင်းကိုရေးပါ။

## الحديث الحادي والثمانون

## (ရှအ်ဗာန်(၂၈၊၂၉)ရက်နေ့) တွင် ရိုဇာထားခြင်း

عن أبي هريرة رضي الله عنه قال : قال رسول الله صلى الله عليه وسلم : ”لاتَقَدَّمُوْا رَمَضَانَ بِصومِ يَوْمٍ أو يومين إلا رجلٌ كان يصوم صوما فيصومه “ .

(رواه مسلم ) (١)

**အဓိပ္ပါယ်**

ကိုယ်တော်မြတ် ﷺ မိန့်ကြားတော်မူခဲ့သည်ကို ဟဇရသ်အဗူဟူရိုင်ရာသခင်မှ ဆင့်ပြန်ခဲ့သည်။ ‘‘အသင်တို့အနက်(လကုန်ပိုင်းတွင်ရိုဇာထားတတ်သူများမှအပ အခြားသူများ)သည် ရမ်ဇာန်အလျင်(ရှအ်ဗာန်(၂၉၊၃၀))တွင် တစ်ရက်(သို့)နှစ်ရက်ကြိုပြီး ရိုဇာမထားလေနှင့်။’’

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်၏အလိုသဘောမှာ ရမ်ဇာန်၏ ရိုဇာနှင့် ရမ်ဇာန်မဟုတ်သော လ၏ရိုဇာတို့ကြား ရောထွေးမှုများ ဖြစ်မသွားစေရန် လမြတ်ရမ်ဇာန်မရောက်မီ တစ်ရက်၊ နှစ်ရက်ကြိုတင်ပြီး ရိုဇာမထားခြင်းကို ဆိုလိုသည်။

အခြားဟဒီးဆ်တော်တစ်ပုဒ်တွင်မူ ရှအ်ဗာန်(၁၅)ရက်နေ့နောက်ပိုင်းမှစတင်၍ ရိုဇာထားခြင်းမှပင် တားမြစ်ထားသည်ကို တွေ့ရသည်။ ဤသို့တားမြစ်ရခြင်း၏ အကြောင်းအရင်းမှာ လူသာမာန်တို့အနေဖြင့် ရမ်ဇာန်မရောက်သေးမီ ရမ်ဇာန်လ ရောက်သွားပြီဟု ထင်မှတ်မသွားစေရန်ဖြစ်သည်။

**يوم الشَّكِّ ၏ ရိုဇာ**

ဟဇရသ်အမ္မားရ် ﷺ ဆင့်ပြန်သည့်ဟဒီးဆ်တော်တွင် يوم الشَّكِّ တွင် ရိုဇာ မထားရန်မိန့်ဆိုထားသည်။ يوم الشَّكِّ ဆိုသည်မှာ ကောင်းကင်တွင် တိမ်ဖုံးနေသောကြောင့် လ‘မမြင်သည့် ရှအ်ဗာန် (၃၀)ရက်နေ့ကို ဆိုလိုသည်။ အထက်ပါ ဟဒီးဆ်

တော်နှင့် အခြားဟဒီးဆ်တော်များကို မှီငြမ်းကိုးကားပြီး ဖေကဟ်ပညာရှင်များက ထိုနေ့တွင် ရိုဇာထားခြင်းဆိုင်ရာ အမိန့် ပညတ်ချက်များကို အောက်ပါအတိုင်း ရေးသားထားကြသည်။

☆ يــــــــــــوم الشك တွင် (အကယ်၍(၂၉)ရက်နေ့ညတွင် လမြင်ခဲ့သည်ရှိသော် ယခုစောင့်သောရိုဇာသည် ရမ်ဇာန်ရိုဇာဖြစ်ပြီး၊ လမမြင်ပါက နဖိလ်ရိုဇာဖြစ်သည်ဟု) နိယသ်နှစ်ခွဖြင့် ရိုဇာထားခြင်းမပြုရ။

☆ လကုန်ပိုင်းရက်တွင်ရိုဇာထားလေ့ရှိသူသည် နဖိလ်နီယသ်ဖြင့် ရိုဇာထားနိုင်သည်။

☆ ဤရက်မျိုးတွင် ရိုဇာထားလေ့မရှိပါက သာမာန်လူများသည် يـــوم الشك တွင် ရိုဇာမထားဘဲ နဖိလ်နိယသ်တစ်ခုတည်းဖြင့်သာရိုဇာထားမည်ဟု ယုံကြည်စိတ်ချရသည့် အာလင်မ်များသာ ရိုဇာစောင့်ထိန်းနိုင်မည်ဖြစ်သည်။

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| ကြေညာခြင်း | أَذَّن (تفعيل) |
| ကျေးတောသား | أَعْرَابِيٌّ (ج) أَعْرَابٌ |

**လေ့ကျင့်ခန်း**

၁။ يوم الشك ဆိုသည်ကို ရှင်းပြပါ။

၂။ يوم الشك တွင်ရိုဇာထားခြင်းဆိုင်ရာ အမိန့်များကို ဖော်ပြပါ။

۞۞۞

(١) أخرجه مسلم في صحيحه : "باب لاتقدموا رمضان بصوم يوم ولا يومين" . ر: ١٠٨٢

# الحديث الثاني والثمانون

## (၈၂) ရှိဇာ၏ နိယသ်ချည်ချိန်

عن سلمة بن الأكوع رضي الله عنه قال: أمر النبيُّ صلى الله عليه وسلم رجلا من أسلَمَ أن أذِّن في الناس؛ أنّ من كان أكَلَ فَلْيَصُمْ بَقِيَّةَ يومِه، ومن لم يكنْ أكَلَ فليصُم، فإنّ اليومَ يومُ عاشوراءَ". (رواه البخاري)(١)

**အဓိပ္ပါယ်**

ဟဇရသ် စလမဟ်ဗင်န်အက္ကဝါအ်သခင်ထံမှဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ သည် အတ်စ်လမ်းမျိုးနွယ်ဝင်ပုဂ္ဂိုလ်တစ်ဦးအား လူတို့ကိုအောက်ပါအတိုင်း ကြေညာရန် အမိန့်ပေးခဲ့သည်။ ''ယနေ့သည် အာရှူရာနေ့မြတ်ဖြစ်သောကြောင့်(ဝါပိတ်ချိန်ပြီးနောက်)စားထားသူတို့သည် ကျန်ရှိသည့်အချိန်ပိုင်းအား ရှိဇာဖြင့်နေလိုက်ပါ။ မစားရသေးသောသူတို့သည် ရှိဇာ၏နိယသ်ပြုလုပ်လိုက်ပါ။''

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်သည် ရှိဇာ၏နိယသ်ပြုရမည့်အချိန်ကို ဖော်ပြနေသည်။ ဟန္နဖီမဇ်ဟဗ်အရ ရမ်ဇန်ရှိဇာ၊ ရက်သတ်မှတ်ချက်ဖြင့်ကိုးထားသောရှိဇာ၊ ရိုးရိုးနဖိလ်ရှိဇာ၏နိယသ်ကို နေမွန်းမလွဲမီနာရီဝက်အလိုထိ အလျင်ထိပြုပိုင်သည်။ ရမ်ဇန်၏ကဇ္ဇာရှိဇာ၊ ရက်မှတ်သတ်မှတ်ချက်မပါဘဲကိုးထားသောရှိဇာတို့၏ နိယသ်ကိုမူ ညဥ့်ကတည်းက ပြုရန်လိုအပ်ပါသည်။

နိယသ်ဆိုသည်မှာ စိတ်၏ရည်စူးချက်ကိုဆိုလိုသည်။ မည်သည့်ဘာသာစကားဖြင့်မဆို နိယသ်ပြုနိုင်သည်။နှုတ်ဖြင့်နိယသ်ပြုခြင်းမှာမူ မွတ်စ်သဟဗ်ဖြစ်သည်။ တစ်ဦးတစ်ယောက်သည် ရှိဇာ၏နိယသ်ဖြင့် စဟ်ရီစားလိုက်လျှင်လည်း နိယသ်အထမြောက်စေရန်လုံလောက်ပါသည်။

## ဟဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်း

## سيدنا سَلَمَةُ بن عمرو بن سنان عبد الله الأكوع الأسلمي رضي الله عنه

ဟဇရသ်စလမဟ်ဗင်န်အက္ကဝါအ်သခင်သည် အတ်စ်လမ်းမျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ကွန္နယသ် ဂုဏ်ထူးဆောင်အမည်မှာ အဗူမွတ်စ်လင်မ်ဖြစ်သည်။ သလဲပင်အောက်တွင် ကိုယ်တော်သခင်အား ဗိုင်အသ်သစ္စာနှံခဲ့သည့် ဆွဟာဗာများအနက်တစ်ပါးလည်းဖြစ်သည်။ သခင်သည် လက်ရုံးရည်နှလုံးရည်ဖြင့်ပြည့်ဝသူဖြစ်သည်။ အလွန်အပြေးသန်သည်။ ကဗျာလင်္ကာဖွဲ့သီစပ်ဆိုရာတွင်လည်း ကျွမ်းကျင်လိမ္မာသည်။

ကိုယ်တော်မြတ်ﷺ သည် သခင့်အား မိမိအစီးအနင်းပေါ်တွင် အကြိမ်ကြိမ်ထိုင်စေခဲ့ကြောင်း၊ သခင်၏မျက်နှာကို သုတ်သပ်ပေးလေ့ရှိကြောင်း၊ သခင့်အတွက် အရှင်မြတ်ထံ အိစ်သေ့ဂ်ဖားရ်ပြုပေးလေ့ရှိကြောင်း သခင်ကိုယ်တိုင်ဂုဏ်ယူစွာပြောပြလေ့ရှိသည်။

ဟဇရသ်အွတ်ဆ်မားန်ဝဖားသ်ဖြစ်ပြီးသည့်နောက် သခင်သည် မဒီနာရွှေမြို့တော်တွင် ဟဒီးဆ်ဆင့်ပြန်ခြင်း၊ ဖသ်ဝါမွေသ်ဖြေကြားခြင်း စသည့်တာဝန်များကို ထမ်းဆောင်ခဲ့သည်။ သခင်သည် ကိုယ်တော်မြတ်ﷺနှင့်အတူ စစ်ပွဲ(၇)ပွဲဆင်နွှဲခွင့်ရရှိခဲ့သည်။ ဟစ်ဂျ်ရီ(၇၄)ခုနှစ်၊သက်တော်(၈၀)တွင် မဒီနာမြို့တော်၌ကွယ်လွန်ခဲ့သည်။[2]

❁❁❁

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို ရှင်းလင်းပြပါ။

၂။ ရိုဇာ၏ နီယသ်အမျိုးအစားများကို ပြောပါ။

၃။ سيدنا سلمة الأكوع رضي اللهعنه သခင်အကြောင်းရေးပါ။

---

(١) أخرجه البخاري في صحيحه : "باب صيام يوم عاشوراء". ر: ٢٠٠٧

(٢) تاريخ الإسلام ووفيات المشاهير والأعلام للذهبي ، الإصابة في تمييز الصحابة

## الحديث الثالث والثمانون

﴿وكلوا واشربوا حتى يتبين لكم الخيط الأبيض من الخيط الأسود من الفجر، ثم أتموا الصيام إلى الليل﴾ البقرة : ١٨٧

## (၈၃) ရိုဇာထားရမည့်အချိန်အတိုင်းအတာ

عن عمر بن الخطاب رضي الله عنه قال : قال رسول الله صلى الله عليه وسلم : " إذا أقبل الليلُ وأدْبَرَ النهارُ ، وغابَتِ الشمْسُ ؛فقد أفْطَرَ الصَّائِمُ " .
(رواه مسلم) (١)

**အဓိပ္ပါယ်**

ဟဇရတ်အိုမရ် ﷺ သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ မိန့်ကြားတော်မူခဲ့သည်။ ''ညယံရောက်ရှိပြီး နေ့တာကုန်ဆုံးကာ နေလုံးကွယ်ပျောက်သွားသောအခါ ရိုဇာထားသူသည် ရိုဇာဖြေရမည်။'' (١)

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်တွင် ရိုဇာဖြေဆိုချိန်ကို ဖော်ပြထားသည်။ အခြားဟဒီးဆ်များတွင်မူ "စဟ်ရီ"(ဝါပိတ်ချိန်)ကိုပါဖော်ပြထားသည်။ "ဆွဗ်ဟေ့ဆွာဒိက်" နံနက်နေမထွက်မီ တစ်နာရီနှင့်တစ်ဆယ့်ငါးမိနစ်ခန့်အချိန်မှစ၍ ညနေ နေဝင်ချိန်အထိကာလသည် ရိုဇာစောင့်ထိန်းရမည့် အချိန်ဖြစ်သည်။

အချို့ဒေသများတွင် ဖဂျ်ရ်အဇာန်ချိန်နှင့်စဟ်ရီဝါပိတ်ချိန်မတူပါ။ ထို့ကြောင့် စဟ်ရီ (ဝါပိတ်ချိန်)ကိုမကြည့်ဘဲ အဇာန်ဆိုချိန်ထိအချိန်ဆွဲစားသောက်နေခြင်းမှာ ရိုဇာကို ထိခိုက်စေတတ်ပါသည်။ မွတ်စ်လင်မ်တိုင်းသည် ပညာရှင်အများစုလက်ခံအတည်ပြုထားသော ဝါပိတ်ချိန်၊ဝါဖြေချိန် အချိန်ဇယားများကို ကြည့်ရှုကာ ရိုဇာစောင့်ထိန်းသင့်ပေသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| ညယံ စတင် ဝင်ရောက်ခြင်း | أقبل (إفعال) [الليل] |
| နေ့တာကုန်ဆုံးခြင်း | أدبر (إفعال) [النهار] |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွဖတ်ပြပါ။

၂။ ရိုဇာစတင်ချိန်နှင့် ကုန်ဆုံးချိန်ကို ဖော်ပြပါ။

၃။ တစ်နှစ်တာအချိန်ဇယားကို မှီငြမ်းပြီး ရမ်ဇာန် တစ်လတာရိုဇာအချိန်ဇယား ထုတ်ပြပါ။



(١) أخرجه مسلم في صحيحه :"باب بيان وقت انقضاء الصوم وخروج النهار" . ر: ١١٠٠

## الحديث الرابع والثمانون

﴿لا يكلف الله نفسا إلا وسعها ، لها ما كسبت وعليها ما اكتسبت ، ربنا لاتؤاخذنا إن نسينا أو أخطأنا﴾ البقرة :٢٨٦

## (၈၄) မေ့လျော့ပြီး စားသောက်မိခြင်းဖြင့် ရိုဇာမပျက်

عن أبي هريرة رضى الله عنه عن النبى صلى الله عليه وسلم قال:" إذا نَسِيَ فأكَلَ وشرِبَ فَلْيُتِمَّ صَوْمَهُ، فإنما أَطْعَمَهُ اللّٰهُ وسَقَاهُ " . (رواه البخاري)(١)

**အဓိပ္ပါယ်**

ဟဇရသ်အဗူဟိုရိုင်ရဟ် ﷺသည် ကိုယ်တော်မြတ်ﷺ၏ မိန့်ကြားချက်ကိုဆင့်ပြန်ခဲ့သည်။ ‘‘ရိုဇာစောင့်ထားသူတစ်ဦးသည် မေ့လျော့ပြီးစားသောက်မိလျှင်(ရိုဇာကိုမဖျက်ဘဲ)ဆက်လက်စောင့်ထိန်းပါ။ အရှင်မြတ်က ထိုသူ့အားကျွေးမွေးလိုက်ခြင်းသာဖြစ်ကြောင်း မှတ်ယူရမည်။ (၁)

**ရှင်းလင်းချက်**

မြင့်မြတ်တော်မူသောအရှင်မြတ်သည် ကဏ္ဍတိုင်းတွင် မေ့လျော့ခြင်း၊မသိဘဲ မှားယွင်းသွားခြင်းကို ခွင့်လွှတ်တော်မူသည်။ ထိုနည်းတူစွာ ရိုဇာကဏ္ဍတွင်လည်း မေ့လျော့ပြီး စားသောက်မိပါက ရိုဇာမဖျက်ပစ်ဘဲ ဆက်လက်စောင့်ထိန်းနေရမည်ဖြစ်ကြောင်း ဟဒီးဆ်တော်မှသိရှိရသည်။

### လေ့ကျင့်ခန်း

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်နှင့်တကွဖတ်ပြပါ။

၂။ ဟဒီးဆ်တော်မှသိရှိရသော အခြားအကျိုးတရားများကို ပြောပြပါ။

❁❁❁

(١) أخرجه البخاري في صحيحه : " باب الصائم إذا أكل أو شرب ناسيا......" ر: ١٩٣٣

## الحديث الخامس والثمانون

## (၈၅) ရှိဇာမပျက်စေသော အချက်များ

عـن أبي سعيد الخدري رضي الله عنه قال: قال رسول الله صلى الله عليه و سلـم : " ثلاث لا يُفَطِّرْنَ الصائمَ : الحِجامةُ ، والقيء ، والاحتلام".وفي رواية لأبـي هـريـرة رضـي الله عـنه : " مَنْ ذَرَعَهُ الْقَيْءُ فليس عليه قضاءٌ ، ومَنِ اسْتَقَاءَ عَمْدًا فَلْيَقْضِ". (رواه الترمذي) (١)

**အဓိပ္ပါယ်**

ဟဇရသ်အဗူစအီးဒ် ﷺထံမှဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ ''(၃)ခုသောအရာသည် ရိုဇာမပျက်စေပါ။

(က) သွေးထုတ်ခြင်း၊ (ခ) အန်ခြင်း ၊ (ဂ) အိပ်မက်တွင် သုက်လွှတ်ခြင်းတို့ဖြစ်သည်။ ဟဇရသ် အဗူဟိုရိုင်ရဟ် ၏ ဆင့်ပြန်ချက်တစ်ရပ်တွင်''အလိုအလျောက်အော့အန်သူအပေါ် ရိုဇာကဇ္ဇာထားရန်တာဝန်မရှိဘဲ တမင်သက်သက်အန်သူသည် ရိုဇာပျက်သွားသောကြောင့် ပြန်လည်၍ ကဇ္ဇာရိုဇာထားလိုက်ရမည်။''

**ရှင်းလင်းချက်**

ဝမ်းဗိုက်အတွင်းသို့ ရိုဇာပျက်စေသောအရာတစ်ခုခုဝင်ရောက်ခြင်းကြောင့် ရိုဇာပျက်ခြင်းသည် အခြေခံမှုဖြစ်သည်။ ထို့ကြောင့် ကိုယ်ခန္ဓာမှသွေး၊ သုက်စသည်တို့ အလိုအလျောက်ထွက်သွားခြင်းဖြင့် ရိုဇာမပျက်ပေ။ အော့အန်ခြင်းနှင့်ပတ်သက်ပြီး ပညာရှင်များက အောက်ပါအတိုင်းရေးသားထားကြသည်။

- အလိုအလျောက်အန်ရာတွင် ပါးစပ်အပြည့်ဖြစ်စေ၊ အနည်းငယ်ဖြစ်စေ ရိုဇာမပျက်။
- ဇွတ်အတင်း အန်စေရန်ပြုမူရာတွင် ပါးစပ်အပြည့်အန်လျှင် ရိုဇာပျက်သွားပြီး၊ အနည်းငယ်သာ အန်ပါက ရိုဇာမပျက်ပေ၊
- အန်ဖတ်များကိုမျိုချမိပါက ပုံစံနှစ်မျိုးလုံးတွင် ရိုဇာပျက်သွားပေမည်။

### ကျက်မှတ်ရန်စကားဆစ်များ

| | |
|---|---|
| ذرع (ف) ذَرْعًا (القيء) | အော့အန်ခြင်း |
| الحِجَامَةُ | မသန့်သောသွေးများထုတ်နှုတ်ကုသခြင်း |
| الاحتلام | အိပ်မက်တွင် သုက်လွှတ်ခြင်း |
| القَيءُ | အန်ခြင်း |
| اسْتَقَاءَ (استفعال) | ဇွတ်အတင်းအန်စေခြင်း |
| فَطَّرَ (تفعيل) | ရိုဇာပျက်စေခြင်း |

### လေ့ကျင့်ခန်း

၁။ ရိုဇာပျက်စေသည့် အခြေခံမူမှာ မည်သို့နည်း။

၂။ ဟဒီးဆ်တော်မှသိရှိရသော အခြားအကျိုးတရားများကို ပြောပြပါ။

❁❁❁

(١) أخرجه الترمذي في سننه : " باب ماجاء في الصائم يذرعه القيء"، ر: ٧١٩، "باب فيما استقاء عمدا"، ر: ٧٢٠

# الحديث السادس والثمانون

## (၈၆) အကြောင်းမဲ့ ရှိုဇာစွန့်လွှတ်ခြင်း

عـن أبـي هـريرة رضي الله عنه قال : قال رسول الله ﷺ : "مَنْ أَفْطَرَ يَوْمًا مِنْ رَمَضَانَ ، مِنْ غَيْرِ رُخْصَةٍ، لَمْ يُجْزِهِ صِيَامُ الدَّهْرِ". (رواه ابن ماجة )(١)

**အဓိပ္ပါယ်**

ဟဇရတ်အဗူဟိုရိုင်ရဟ် رضـي الله عنـه သခင်သည် နဗီတမန်တော်မြတ်ﷺ ထံမှ ဆင့်ပြန်ခဲ့သည်။ ''တစ်ဦးတစ်ယောက်သည် ခွင့်ပြုချက်မရှိဘဲ ရမ်ဇာန်၏ရိုဇာ တစ်ရက်ကို အကြောင်းမဲ့စွန့်လွှတ် လိုက်ပါက တစ်သက်တာလုံးရိုဇာထားခြင်းဖြင့်လည်း ထိုရိုဇာ၏ အကျိုးဆဝါးဗ်များကို ပြန်လည်မရရှိနိုင်တော့ပေ။''

**ရှင်းလင်းချက်**

အေဗာဒသ်ဆောက်တည်ရာတွင် အချိန်ဖြင့်ဆောက်တည်ခြင်းသည်လည်း အလွန်ပင်အရေးပါသည်။ နမားဇ်မှသည်ဟဂ်ျအထိအားလုံးကို သူ့အချိန်နှင့်သူဆောက်တည်မှသာ အကျိုးသက်ရောက်သည်။ အချိန်လွန်မှမည်မျှပင်ဆောက်တည်စေကာမူ အချိန် တွင်းတည်ဆောက်ခဲ့သော ဆဝါးဗ်များကို မရရှိနိုင်တော့ပါ။ ထိုနည်းတူစွာ ရိုဇာစောင့် ထိန်းခြင်းကိုလည်း ရမ်ဇာန်လအတွင်းပြုကျင့်မှသာ ပြည့်ဝသည့် အကျိုးဆဝါးဗ်များကို ပိုင်ဆိုင်မည်ဖြစ်သည်၊ ရမ်ဇာန်လမြတ်တွင် အကြောင်းမဲ့ ရိုဇာများကို စွန့်လွှတ်ပြီး တစ်သက်တာလုံးပင်ရိုဇာစောင့်ထိန်းပါစေ အပြည့်အဝ ဆဝါးဗ်မရရှိနိုင်တော့ပေ၊ ကဇ္ဇာ ပြန်လည်စောင့်ထိန်းခြင်းဖြင့် တာဝန်သာ ကျေသွားမည်ဖြစ်သည်။

မည်သည့်အချိန်၊ မည်သည့်နေရာတွင် မည်သည့်အရာကို မည်မျှအတိုင်း အတာဖြင့် လုပ်ဟုဆိုလျှင် ထိုအတိုင်းဆောင်ရွက်ခြင်းတွင် အစ္စလာမ့်အနှစ်သာရများရှိသည်။

**ကျက်မှတ်ရန်စကားလုံးများ**

| | |
|---|---|
| ခွင့်ပြုချက် | رُخْصَةٌ |
| လုံလောက်စေခြင်း | أجزٰى (إفعال) |

**လေ့ကျင့်ခန်း**

၁။ ရမ်ဇာန်၏ရိုဇာကို အခြားလများတွင် ထားခြင်းဖြင့် အဘယ်ကြောင့် ဆဝါးဗ်မရသနည်း။

၂။ အခြေအနေအချိန်အခါ၊ အတိုင်းအတာသတ်မှတ်ချက်သည် အစ္စလာမ်တွင် မည်မျှအရေးကြီးသနည်း။

❁❁❁

(١) أخرجه ابن ماجة في سننه : "باب ماجاء في كفارة من أفطر يوما من رمضان"، ر: ١٦٧٢

## الحديث السابع والثمانون

## (၈၇) ရိုဇာထားချိန် မိစ်ဝါးက်သုံးခြင်း

عـن عـائشة رضي الله عنها قالت : قال رسول الله صلى الله عليه وسلم : "مِنْ خَيْرِ خِصَالِ الصَّائِمِ السِّوَاكُ" . (رواه ابن ماجة )[1]

**အဓိပ္ပါယ်**

အာအေရှာ رضـي الله عـنـها သခင်မသည် ကိုယ်တော်မြတ် ﷺ ၏ မိန့်ကြားချက်ကို အောက်ပါအတိုင်း ဆင့်ပြန်ခဲ့သည်။ ''မိစ်ဝါးက်(တံပူစားခြင်း)သည်ရိုဇာထားသူ၏ အကောင်းဆုံးသော အရည်အချင်းများအနက်တစ်ခုဖြစ်သည်။

**ရှင်းလင်းချက်**

ရိုဇာစောင့်ထိန်းစဉ် မိစ်ဝါးက်သုံးစွဲခြင်းသည် စွန္နသ်တစ်ခုဖြစ်သည်။ မည်သည့်အချိန်မဆို၊ စိုသောမိစ်ဝါးက်၊ခြောက်သွေ့သောမိစ်ဝါးက်စသည်တို့ဖြင့် မိစ်ဝါးက်ပြုနိုင်သည်။ လက်ရှိကျွန်ုပ်တို့သုံးစွဲနေသော သွားတိုက်ဆေးများသည် အနံ့အရသာပါနေသောကြောင့်သုံးစွဲပါကလည်ချောင်းတွင်းသို့ဝင်နိုင်သည်။ ထို့ကြောင့် ပညာရှင်များက မက္ကရူးဟ်သဟ်ရီမီဖြစ်သည်ဟု မှတ်ချက်ပြုထားသည်။

**ကျက်မှတ်ရန်စကားလုံးများ**

| | |
|---|---|
| အရည်အချင်း၊ အကျင့်သီလ | خَصْلَةٌ (ج) خِصَالٌ |
| မိစ်ဝါးက်၊ မိစ်ဝါးက်သုံးခြင်း | السِّوَاكُ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အဓိပ္ပါယ်၊ရှင်းလင်းချက်များနှင့်တကွ အလွတ်ဖတ်ပြပါ။

❁❁❁

[1] أخرجه ابن ماجة في سننه : "باب ماجاء في السواك والكحل للصائم" ، ر: ١٦٧٧

## الحديث الثامن و الثمانون

## (၈၈) ရိုဇာထားချိန် စွရ်မာသုံးစွဲခြင်း

عن عائشة رضي الله عنها قالت : "اكتحل رسول الله صلى الله عليه وسلم وهو صائم". (رواه ابن ماجة ) [1]

**အဓိပ္ပါယ်**

အာအေရှာ رضي الله عنها သခင်မဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်ﷺသည် ရိုဇာစောင့်ထိန်းနေစဉ် စွရ်မာသုံးစွဲတော်မူခဲ့သည်။

**ရှင်းလင်းချက်**

ဖေကဟ်ပညာရှင်ကြီးများ၏ အဆိုအရ ရိုဇာစောင့်ထိန်းသူသည် စွရ်မာသုံးစွဲနိုင်သည်။ စွရ်မာသုံးစွဲလိုက်ခြင်းကြောင့် ရိုဇာတွင် မည်သို့မျှထိခိုက်မှုမရှိပေ။ ဤသည် စွန္နသ်လည်းဖြစ်သည်။ စက္ခုအလင်းကြည်လင်တောက်ပစေပြီး၊ မျက်ဝန်းအလှကိုလည်း တိုးပွားစေသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| اكْتَحَلَ (افتعال) | စွရ်မာသားခြင်း |

**လေ့ကျင့်ခန်း**

၁။ စွရ်မာသားခြင်းဖြင့် မည်သည့် အကျိုးထူးများ ရရှိနိုင်သနည်း။

❁❁❁

[1] أخرجه ابن ماجة في سننه : "باب ماجاء في السواك والكحل للصائم" ، ر:١٦٧٨

## الحديث الثامن والثمانون

## (၈၈) ရိုဇာ၏ အကျိုးကို ဆုတ်ယုတ်စေသော အကုသိုလ်များ

عن أبي هريرة رضي الله عنه قال : قال رسولُ الله صلى الله عليه وسلم : " رُبَّ صَائِمٍ لَيْسَ لهُ منْ صِيَامِهِ إلا الْجُوْعُ ". (رواه ابن ماجة )(١)

**အဓိပ္ပါယ်**

ကိုယ်တော်မြတ်ﷺ မိန့်ကြားတော်မူခဲ့သည်ကို ဟဇရသ်အဗူဟိုရိုင်ရဟ် رضـــي اللّٰه عـنــه သခင်မှဆင့်ပြန်ခဲ့သည်။ ''အချို့သောရိုဇာဥပုသ်စောင့်ထိန်းသူများသည် မိမိတို့ ရိုဇာဖြင့် ဆာလောင်ခြင်းမှတပါး(အခြားမည်သည့်အကျိုးမျှ)မရရှိပါ။

**ရှင်းလင်းချက်**

ရိုဇာစောင့်ထိန်းခြင်းသည် စိတ်ကိုသန့်စင်ပေးနိုင်ပြီး၊ စိတ်ရိုင်းကိုချိုးနှိမ်ပစ်နိုင်သောအဓေဗာဒသ်တစ်ခုဖြစ်သည်။ ထို့ကြောင့် နှလုံးသားအား ညစ်ညမ်းစေပြီး စိတ်ရိုင်းကို အားပေးအားမြှောက်ပြုပေးမည့် မကောင်းမှုများ၊ ကိလေသာများမှ ရှောင်ကြဉ်ရမည်ဖြစ်သည်။ အတင်းပြောခြင်း၊ မတော်တရော်တွေးတောနေခြင်း၊ ဆိုရှယ်လ်မီဒီယာပေါ်တွင်အလဟဿအချိန်ဖြုန်းတီးခြင်းတို့ဖြင့် မိမိတို့၏ ရိုဇာကို အကျိုးမဲ့ မပြုရန် အရေးကြီးကြောင်း ဟဒီးဆ်တော်က မီးမောင်းထိုးပြနေပါသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| رُبَّ (حرف الجرّ) | နည်းပါးခြင်းကို ဖော်ပြပေးသော ဝိဘတ် |
| الْجُوْعُ (ن) | ဆာလောင်မွတ်သိပ်ခြင်း |

**လေ့ကျင့်ခန်း**

၁။ ရိုဇာ၏အကျိုးကို ဆုတ်ယုတ်စေသည့် အခြားသော အကုသိုလ်များကို ဖော်ပြပါ။

(١) أخرجه ابن ماجة في سننه : "باب ماجاء في الغيبة والرفث للصائم"، ر١٦٨٩

## الحديث التاسع والثمانون

## (၈၉) စဟ်ရီ (ဝါထမင်း) စားသုံးခြင်း

عـن ابـن عبـاس رضـي الله عـنهـمـا عـن النبي صلى الله عليه وسلم قال: ”اِسْتَعِيْنُوْا بطعامِ السَّحَرِ على صيامِ النهارِ ، وَبِالقَيْلُوْلَةِ علىٰ قِيَامِ اللَّيْلِ “.
(رواه ابن ماجة) (١)

ဟဇရတ်အိဗ်နေ့အဗ္ဗါးစ် သခင်သည် ကိုယ်တော်မြတ်ﷺ မိန့်ကြားတော်မူသည်ကို ဆင့်ပြန်ခဲ့သည်။ ''အသင်တို့ စဟ်ရီ (ဝါထမင်းစားသုံးခြင်းဖြင့်)နေ့၏ရိုဇာဥပုသ်စောင့်ထိန်းခြင်းအတွက် အင်အားယူကြပါ။ နေ့ခင်းတွင်အနည်းငယ်အနားယူခြင်းဖြင့် ညနမားဇ်များ (သရာဝီနမားဇ်များ)အတွက်အင်အားဖြည့်တင်းကြပါ။''

**ရှင်းလင်းချက်**

ရိုဇာထားသူသည် ညဥ့်၏နောက်ဆုံးယံတွင် မိုးသောက်လင်းချိန်မတိုင်မီ စဟ်ရီ(ဝါထမင်း)စားသုံးခြင်းမှာ စွန္နသ်ဖြစ်သည်၊ စဟ်ရီစားခြင်းတွင် ဗရ်ကသ်(မင်္ဂလာများ)နှင့်အကျိုးဆဝါးဗ်များတိမ်မြုတ်နေကြောင်း နဗီတမန်တော်မြတ်ﷺ က မိန့်တော်မူထားသည်။ ညဥ့်တစ်ဝက်နောက်ပိုင်း မည်သည့်အချိန်၌ပင်မဆို စဟ်ရီစားပါက စွန္နသ်အထမြောက်သွားမည်ဖြစ်ပြီး ညဥ့်၏နောက်ဆုံးယံတွင် စားခြင်းမှာ ပိုမိုမွန်မြတ်သည်။ ဤသို့စဟ်ရီစားသုံးလိုက်ခြင်းဖြင့် တနေ့တာလုံးစောင့်ထိန်းရမည့် ရိုဇာတွင်လည်း အထောက်အကူရရှိမည်ဖြစ်သည်။

စဟ်ရီစားသူများအတွက် မလာအိကဟ်ကောင်းကင်တမန်များကလည်း အရှင်မြတ်ထံမှ မဂ်ဖေ့ရသ်(လွတ်ငြိမ်းချမ်းသာခွင့်)တောင်းခံပေးသည်ဟုလည်း ဟဒီးဆ်တော်များတွင်လာရှိထားသည်။

ဟဒီးဆ်တော်၏ဒုတိယအပိုင်းတွင် နေ့ခင်းပိုင်းအနည်းငယ် လဲလျောင်းခြင်း၊

အိပ်စက်အနားယူခြင်းဖြင့် ညဥ့်ပိုင်းတွင်ပြုမည်အေဗာဒသ်တွင်အင်အားရရှိမည်ဖြစ်သောကြောင့် နေ့ခင်းပိုင်းတွင် အနည်းငယ်အနားယူသင့်ပါသည်။

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| အကူအညီယူခြင်း၊ အင်အားယူခြင်း | استعان (استفعال) |
| ညဥ့်ယံတွင် စားသော (ဝါထမင်း) | طعامُ السَّحَرِ |
| နေ့ခင်းပိုင်းတွင် လဲလျောင်းခြင်း၊ အနားယူခြင်း | قَيْلُوْلَةٌ (ض) |

**လေ့ကျင့်ခန်း**

၁။ အကောင်းဆုံးသော စဟ်ရီစားချိန်ကို ဖော်ပြပါ။

၂။ စဟ်ရီစားသုံးခြင်းဖြင့် မည်သည့်အကျိုးထူးများ ရရှိမည်နည်း။

၃။ နေ့ခင်းတွင်အနားယူလိုက်ခြင်းကြောင့် မည်သည့်အကျိုးများ ခံစားရမည်နည်း။

❁❁❁

(١) أخرجه ابن ماجة في سننه : "باب ماجاء في السحور"، ر١٦٩٣

## الحديث التسعون

## (၉၀) အကောင်းဆုံး ဝါဖြေစာ

عن سلمان بن عامر رضي الله عنه قال : قال رسول الله صلى الله عليه وسلم : " إذا أفطر أحدكم ، فَلْيُفْطِرْ على تَمْرٍ، فإنْ لَمْ يجِدْ ، فَلْيُفْطِرْ على الْمَاءِ ، فإنهُ طَهُوْرٌ " . (رواه ابن ماجة ) (١)

စလ်မာန်ဗင်န်အာမိရ်သခင်ထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူခဲ့သည်။ ''အသင်တို့အနက်တစ်ဦးတစ်ယောက်သည် ဝါဖြေမည်ဆိုပါက စွံပလွံသီးဖြင့် ဝါဖြေပါ။ စွံပလွံသီးမရလျှင်လည်း ရေဖြင့်(ဦးစွာ)ဝါဖြေပါ။ ရေသည် သန့်ပြန့်စင်ကြယ်လှသည့် အာဟာရဖြစ်သည်။''

**ရှင်းလင်းချက်**

နေဝင်သွားသည်ဟု ယုံကြည်ရလျှင် ဝါဖြေရမည်။ အချိန်ကျရောက်နေပါလျက် နောက်ဆိုင်းခြင်းမှာ မက္ကရူးဟ်ဖြစ်သည်။ ရေ၊စွံပလွန်သီးတို့ဖြင့် ဦးစွာဝါဖြေခြင်းမှာ စွန္နသ်ဖြစ်သည်။ ဤနှစ်မျိုးလုံးတွင် အာဟာရများ၊ အာနိသင်များပြည့်မောက်နေသော ကြောင့်ဖြစ်သည်။ နဗီတမန်တော်မြတ်ﷺ က စွံပလွန်ပင်၊ စွံပလွန်စေ့၊ စွန်ပလွန် အကိုင်းများအားလုံးသည် လူသားတို့အတွက် အကျိုးဖြစ်ထွန်းစေသောအရာများဖြစ် သည်ဟု မိန့်ကြားတော်မူခဲ့သည်။ သိပ္ပံပညာရှင်၏ သုတေသနပြုချက်အရ စွန်ပလွန် သီးတွင် မရေမတွက်နိုင်သည့် အကျိုးထူးများရှိနေကြောင်း သိရသည်။ ရေသည် ကျွန်ုပ်တို့ဘဝ၏အရင်းအမြစ်လည်းဖြစ်ပြီး၊ လူ့ဘဝအတွက် အလိုအပ်ဆုံးသော အာ ဟာရဖြစ်သည်။ ဤသို့သောအကြောင်းတရားများကြောင့် ဝါဖြေချိန်ဤနှစ်မျိုးကို အဓိ က သုံးဆောင်ခိုင်းထားခြင်းဖြစ်သည်။

ဝါမဖြေမီ اَللّٰهُمَّ لَكَ صُمْتُ وَبِكَ آمَنْتُ وَعَلىٰ رِزْقِكَ أَفْطَرْتُ

((အိုအရှင်မြတ်-အရှင်မြတ်အတွက် ကျွန်တော်မျိုးရိုဇာထားပါ၏၊ အရှင်မြတ်အပေါ်

အီမာန်ယုံကြည်ပါ၏။ အရှင်မြတ်ချီးမြင့်တော်မူသော ရိုဇီရိက္ခာဖြင့် ကျွန်တော်မျိုးဝါဖြေပါ၏။)) ဟူသောဒိုအာကိုရွတ်ဆိုသင့်သည်။

ဝါဖြေပြီးသောအခါ ذَهَبَ الظَّمَأُ وَابْتَلَّتِ الْعُرُوْقُ وَثَبَتَ الْأَجْرُ إِنْ شَاءَ اللّٰهُ ((ရေငတ်ခြင်းပပျောက်သွားခဲ့ပြီ၊ အကြောများသည်လည်း စိုပြေလန်းဆန်းသွားခဲ့ပြီ၊ အကျိုးဆဝါးဗ်သည်လည်း အရှင်မြတ်အလိုတော်ဖြင့် အတည်ဖြစ်ခဲ့ချေပြီ။)) ဟူသောဒိုအာကို တောင်းခံသင့်ပါသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| ဝါဖြေခြင်း | أفطر (إفعال) |
| စွံပလွံသီး | تَمْرٌ (ج) تُمُوْرٌ |
| ရေစာလောင်ခြင်း၊ ရေငတ်ခြင်း | الظَّمَأُ (س) |
| စိုပြေသွားခြင်း၊ စိုစွတ်သွားခြင်း | ابْتَلَّ (افتعال) |
| အကြော | عِرْقٌ (ج) عُرُوْقٌ |
| အတည်ဖြစ်ခြင်း | ثَبَتَ (ن) ثُبُوْتٌ |
| အဖိုးအခ၊ အစား | أَجْرٌ (ج) أُجُوْرٌ |

**လေ့ကျင့်ခန်း**

၁။ ရေစွံပလွံသီးတို့ဖြင့် အဘယ်ကြောင့် ဝါဖြေခိုင်းသနည်း။

၂။ ဝါမဖြေမီ ဖတ်ရမည့်ဒိုအာကို ဖတ်ပြပါ။

၃။ ဝါဖြေပြီး ဖတ်ရမည့်ဒိုအာကို ဖတ်ပြပါ။

၄။ ဟဇရသ်စလ်မာန်ဗင်န် အာမိရ်၏ အကြောင်းကို ရေးသားပါ။

❁❁❁

(١) أخرجه ابن ماجة في سننه : "باب ماجاء على مايستحب الفطر"، ر١٦٩٩

## الحديث الحادي والتسعون

## (၉၁) ခရီးသည်၏ ရိုဇာ

عن أبي سعيد الخدري رضي اللّٰه عنه قال : كُنَّا نَغْزُوْ مع رسولِ اللّٰه صلى اللّٰه عليه وسلم في رمضانَ، فمِنَّا الصائِمُ، ومنا المُفْطِرُ، فلا يَجِدُ الصائِمُ على المُفْطِرِ ولا المُفْطِرُ على الصائِمِ، يَرَوْنَ أنَّ مَنْ وَجَدَ قُوَّةً فَصَامَ فإن ذلكَ حَسَنٌ، ويَرَوْنَ أنَّ مَنْ وَجَدَ ضُعْفًا فَأَفْطَرَ فإن ذلك حَسَنٌ". (رواه مسلم) (١)

ဟဇရသ်အဗူစအီးဒ်ခွဒ်ရီ သခင်ကြီးပြောပြသည်။ ''ကျွန်ုပ်တို့သည် ကိုယ်တော်မြတ် ﷺ နှင့်အတူ ရမ်ဇန်လမြတ်တွင် သာသနာရေးစစ်ပွဲဆင်နွှဲရန်မကြာခနထွက်ဖြစ်ခဲ့ကြသည်။ ထိုခရီးစဉ်တွင် ကျွန်ုပ်တို့အနက်ရိုဇာထားသူများရှိသကဲ့သို့ ရိုဇာမထားသူများလည်း ရှိခဲ့သည်။ ရိုဇာထားသူက ရိုဇာမထားသူအားလည်းကောင်း၊ ရိုဇာမထားသူက ရိုဇာထားသူတို့အားလည်းကောင်း ပြစ်တင်ရှုံ့ချခဲ့ခြင်းအလျှင်းမရှိခဲ့ပါ။ ရိုဇာထားနိုင်စွမ်းရှိသူများအတွက် ရိုဇာထားခြင်းမှာကောင်းပြီး၊ ရိုဇာစောင့်ထိန်းနိုင်စွမ်းမရှိသူများအတွက် ရိုဇာမထားပဲနေခြင်းမှာ ပိုမိုကောင်းမွန်သည်ဟု မြင်ပေးကြသည်။''

**ရှင်းလင်းချက်**

စူရဟ်ဗကရဟ်၊ အာယသ်အမှတ်(၁၈၄-၁၈၅)တွင် ခရီးတွင်ရိုဇာထားခြင်းနှင့်ပတ်သက်ပြီး အရှင်မြတ်က အခက်အခဲတစ်စုံတရာရှိပါက ခရီးတွင်ရိုဇာမထားဘဲ နေထိုင်ခွင့်ရှိကြောင်း၊ ရမ်ဇာန်ပြီးနောက်ပိုင်းမှသာ ကဇ္ဇာပြန်လည်ဖြည့်စွက်ရမည်ဖြစ်ကြောင်းမိန့်ဆိုထားပါသည်။ သို့သော် အာယသ်၏အဆုံးပိုင်းတွင် တတ်နိုင်လျှင် ရိုဇာထားခြင်းကပိုမိုကောင်းမွန်ကြောင်း အမိန့်ရှိထားပါသည်။

ဤဟဒီးဆ်တော်မြတ်ကလည်း ခရီးတွင်အခက်အခဲရှိပါက ရိုဇာမထားပဲနေခွင့်ရှိကြောင်း ဖော်ပြနေပါသည်။

ဤကဲ့သို့သောအာယသ်တော်များနှင့် ဟဒီးဆ်တော်များကို အခြေခံပြီး

ဖေကဟ်ပညာရှင်ကြီးများက ခရီးတွင် ရိုဇာထားခြင်း၊ မထားခြင်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်း ရေးသားဖော်ပြကြပါသည်။

၁။ (၄၈)မိုင် (သို့)ထိုထက်ဝေးလံသော ခရီးသွားနေချိန် ရိုဇာစောင့်ထိန်းရန် အခက်အခဲရှိသူသည် ရိုဇာမထားဘဲနေထိုင်ခွင့်ရှိသည်။

၂။ ခရီးသွားနေစဉ် ရိုဇာထားမရနိုင်သည့် အခက်အခဲတစ်စုံတရာ မရှိပါက ခရီးတွင် ရိုဇာထားခြင်းမှာ ပိုမိုကောင်းမွန်သည်။

၃။ ရိုဇာဖြင့်ခရီးစတင်ပြီးနောက် ရိုဇာဖျက်ပိုင်ခွင့်မရှိတော့ပေ။ ရိုဇာမထားနိုင်လောက်သည့် အကြောင်းပြချက် ကြုံကြိုက်လာပါက ရိုဇာဖျက်နိုင်သည်။ ဤသို့ရိုဇာဖျက်လိုက်ခြင်းဖြင့် ကဇ္ဇာပြန်လည်ထားရမည်ဖြစ်ပြီး၊ ကဖ်ဖာရာပေးရန် မလိုအပ်ပါ။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| စစ်မက်တိုက်ခိုက်ခြင်း | غزا (ن) غَزْوًا |
| ရိုဇာမထားဘဲနေသူ | المُفْطِرُ |
| ဗွေယူခြင်း၊ (ပြစ်တင်ရှုံ့ချခြင်း) | وَجَد (ض) وَجْدًا [على] |

**လေ့ကျင့်ခန်း**

၁။ ခရီးတွင် ရိုဇာ၏အမိန့်နှင့်စပ်လျဉ်းသည့် အာယသ်တော်များကို ဖတ်ပြပါ။

၂။ ခရီးတွင် ရိုဇာထားခြင်းဆိုင်ရာ ဖေကဟ်ပညာရှင်များ၏ အဆိုများကို ပြောပါ။

❁❁❁

(١) أخرجه مسلم في صحيحه : " باب جواز الصوم والفطر في شهر رمضان للمسافر......" ر: ١١١٦

## الحديث الثاني والتسعون

## (၉၂) ရာသီသွေးပေါ်သော အမျိုးသမီးအတွက် ရိုဇာကဇ္ဇာ

عـن عـائشة رضـي الله عـنها قالت : كُنَّا نَحِيْضُ عندَ النبيِّ صلى الله عليه وسلم ، فَيَأْمُرُنَا بِقَضَاءِ الصَّوْمِ " . (رواه ابن ماجة )(١)

ဟဇရတ်အာအေ့ရှာသခင်မထံမှ ဆင့်ပြန်ချက်လာရှိသည်။ ''ကျွန်မတို့သည် (ရမ်ဇာန်လမြတ်တွင်)ကိုယ်တော်မြတ်ﷺ ထံ၌ပင် ရာသီသွေးပေါ်ပြီး (ကိုယ်မသန့်)ဖြစ်လေ့ရှိခဲ့သည်။ ထိုအခါကိုယ်တော်မြတ်ﷺ က ကျွန်မတို့အား ရိုဇာကဇ္ဇာထားရန်အမိန့်ပေးတော်မူခဲ့သည်။

**ရှင်းလင်းချက်**

ဓမ္မတာရာသီသွေးဆင်းနေသော အမျိုးသမီးနှင့်သားဖွားသွေးဆင်းနေသော အမျိုးသမီးတို့သည် ရမ်ဇာန်လမြတ်တွင်ရိုဇာထားခွင့်မရှိပေ။ မိမိတို့ပျက်ကွက်ခဲ့သည့် ရိုဇာများကို ရမ်ဇာန်ပြီးနောက် အနီးဆုံးကိုယ်သန့်သည် အချိန်တွင် ပြန်လည်ဖြည့်စွက်လိုက်ရမည်။

ရိုဇာစောင့်ထိန်းနေစဉ် ရာသီသွေးဆင်းပါက ရိုဇာမှာအလိုအလျောက်ပျက်သွားမည်ဖြစ်သည်။ ကျန်ရှိသောအချိန်တွင် စားခြင်း၊သောက်ခြင်းပိုင်သွားမည်။ မစားဘဲ ရိုဇာထားသူပမာနေမည်ဆိုကလည်း နေနိုင်သည်။

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အလိုသဘောကို ရှင်းပြပါ။

၂။ ရာသီသွေးပေါ်ချိန် ပျက်ကွက်ခဲ့သောနမားဇ်များကို ဖြည့်စွက်ရန်မလိုအပ်ဘဲ ရိုဇာများကိုမူ ပြန်လည်ဖြည့်စွက်စေခြင်း၏ အကြောင်းအရင်းကို ပြောပြပါ။

❁❁❁

(١) أخرجه ابن ماجة في سننه : "باب ماجاء في قضاء رمضان" . ر:١٦٧٠

## الحديث الثالث والتسعون

## (၉၃) ကိုယ်ဝန်သည်နှင့်နို့တိုက်မိခင်တို့အတွက် ရိုဇာအမိန့်

عـن أنس بن مالك رضي الله عنه قال : "رَخَّصَ رسولُ الله صلى الله عليه وسلـم لـلـحُبْـلىٰ التـي تَخافُ على نَفسِهَا أن تُفْطِرَ، ولِلْمُرْضِعِ التي تخافُ علىٰ وَلَدِها". (رواه ابن ماجة ) (١)

ဟဇရတ်အနတ်စ်သခင်မိန့်ကြားခဲ့သည်။ ''ကိုယ်တော်မြတ် ﷺ သည် (ရိုဇာထားခြင်းဖြင့်)အသက်ကိုစိုးရိမ်ရသော ကိုယ်ဝန်သည်မိခင်နှင့်၊ မိမိကလေးအတွက် စိုးရိမ်ရသော နို့တိုက်မိခင်တို့အား ရိုဇာမထားဘဲ နေခွင့်ပေးခဲ့သည်။''

**ရှင်းလင်းချက်**

ရိုဇာထားခြင်းကြောင့် မိမိအတွက်နှင့်သန္ဓေသားအား ထိခိုက်မည်ကိုအမှန်တကယ်စိုးရိမ်ရသော ကိုယ်ဝန်ဆောင်အမျိုးသမီးနှင့် ကလေးအတွက်ဘေးအန္တရာယ်ကို စိုးရိမ်ရသော နို့တိုက်မိခင်တို့သည် နာမကျန်းသူ၏ အမိန့်တွင်ရှိသည်။ ထို့ကြောင့် ၎င်းတို့သည် ကဇ္ဇာသာပြန်လည်ဖြည့်ရမည်ဖြစ်ပြီး ဖိဒ်ယဟ်ပေး၍မရနိုင်ပါ။

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| လျှော့ပေါ့မှုပေးခြင်း၊ ခွင့်လွှတ်ပေးခြင်း | رخّص (تفعيل) |
| ကိုယ်ဝန်သည်မိခင် | حُبْلىٰ (ج) حُبْلَيَاتٌ |
| နို့တိုက်မိခင် | مُرْضِعٌ (ج) مُرْضِعَاتٌ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်၏ အလိုသဘောကို ရှင်းပြပေးပါ။

၂။ နို့တိုက်မိခင်နှင့်ကိုယ်ဝန်သည်တို့သည် မည်သည့်အမိန့်တွင်ရှိသနည်း။

❁❁❁

(١) أخرجه ابن ماجة في سننه : "باب ماجاء في الإفطار للحامل والمرضع". ر:١٦٦٨

## الحديث الرابع والتسعون

## (၉၄) ရိုဇာထားရန်လုံးဝမတတ်နိုင်သူများအတွက် ဖိဒ်ယဟ်

عن ابن عباس رضي الله عنهما ﴿وعلى الذين يُطِيْقُوْنَهُ فِدْيَةٌ طَعَامُ مِسْكِيْنٍ﴾ قال : كانت رُخْصَةً للشيخ الكبيرِ والمرأة الكبيرة وهُمَا يُطِيْقَانِ الصِّيَامَ، أَنْ يُفْطِرَا وَيُطْعِمَا مَكَانَ كُلِّ يَوْمٍ مِسْكِيْنًا" . (رواه أبوداود) (١)

ဟဇရသ်အိဗ်နေ့အဗ္ဗားစ်ထံမှ ﴿وعلى الذين يُطِيْقُوْنَهُ فِدْيَةٌ طَعَامُ مِسْكِيْنٍ﴾ (တဖန်အကြင်သူတို့သည် ပင်ပန်းကြီးစွာ၊ ခဲယဉ်းစွာဥပုသ်သီလဆောက်တည်ကြရပါမူ ယင်းသူတို့သည် (ထိုပျက်ကွက်သောနေ့ရက်များ)အစား (တစ်ရက်လျှင်)သူဆင်းရဲတစ်ဦး ကို(ထမင်းတစ်ရက်စာ) ကျွေးမွေးကြရမည်။) ဟူသော အာယသ်တော်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဖွင့်ဆိုချက်လာရှိသည်။

ဤအာယသ်တော်သည် ရိုဇာဥပုသ်မဆောက်တည်နိုင်သော အဘိုးအို၊ အမယ်အို များအတွက် ရိုဇာမစောင့်ထိန်းနိုင်သောနေ့များတွင် (တစ်နေ့၏အစား ဆင်းရဲသားတစ်ဦး ကို နေ့စဉ်နေ့တိုင်း ထမင်းကျွေးခွင့်ပြုထားခြင်းဖြစ်သည်။

**ရှင်းလင်းချက်**

ရိုဇာမစောင့်ထိန်းနိုင်လောက်သည်အထိ အိုမင်းမစွမ်းဖြစ်နေသော အဖိုးအို၊ အမယ်အိုတို့သည် ကျန်ရှိသက်တမ်းတွင်လည်း လုံးဝရိုဇာမထားနိုင်တော့ဟု ယုံကြည်ရ လျှင် ထိုသူသည် မစောင့်ထိန်းနိုင်သော ရိုဇာအတွက် (တနေ့၏အစား ဆင်းရဲသား တစ် ဦးကို နေ့စဉ်နေ့တိုင်း ထမင်းကျွေးရမည်။)ဖိဒ်ယဟ်ပေးပိုင်သည်။

ရိုဇာဖိဒ်ယဟ်၏ ပမာဏမှာ ရိုဇာတစ်ရက်အစား ဂျုံစေ့(၁ပိဿာ ၁၀သား၊ မုယောဆန်ဖြစ်လျှင် (၂ပိဿာ ၂၀သား)ပေးရမည်။ သို့မဟုတ် ယင်းနှစ်မျိုးအနက် တစ်မျိုးမျိုး၏ ကာလတန်ဖိုးကို ပေးရမည်ဖြစ်သည်။

**ကျက်မှတ်ရန်စကားဆန်များ**

| | |
|---|---|
| ပင်ပန်းကြီးစွာ လုပ်ဆောင်ရခြင်း | أطاق (إفعال) |

| | |
|---|---|
| فِدْيَةٌ | စတေးခြင်း၊ (ရိုဇာပျက်ကွက်မှုအစား (တစ်ရက်လျှင်) သူဆင်းရဲတစ်ဦးကို ထမင်းကျွေးခြင်း) |
| رُخْصَةٌ | လျှော့ပေါ့ပေးခြင်း |

လေ့ကျင့်ခန်း

၁။ ﴿وعلى الذين يُطِيْقُوْنَهٗ فِدْيَةٌ طَعَامُ مِسْكِيْنٍ﴾ ဤအာယသ်တော်နှင့်ပတ်သက်ပြီး ဟဇရသ်အိဗ်နေ့အဗ္ဗါးစ်သခင်ကြီး၏ ဖွင့်ဆိုမှုကို ရှင်းပြပါ။

၂။ ဖိဒ်ယဟ်ကိုရှင်းပြပါ။



(١) أخرجه أبو داود في سننه : "باب من قال هي مثبتة للشيخ والحبلى" ر: ٢٣٢٠

**الحديث الخامس والتسعون**

**(၉၅) နဖိလ်ရိုဇာဖျက်မိက ကဇ္ဇာထားရ**

عن عائشة رضي الله عنها قالت : " كُنْتُ أنَا و حَفْصَةُ صَائِمَتَيْنِ، فَعُرِضَ لَنَا طَعَامٌ اِشْتَهَيْنَاهُ ؛ فأكَلْنَا مِنْهُ ، فجاء رسولُ الله صلى الله عليه و سلم فَبَدَرَتْنِيْ إليه حفصةُ ـ و كانَتْ اِبْنَةَ أبِيْهَا ـ ، فقالت : يا رسولَ الله إنَّا كُنَّا صائِمَتَيْنِ فَعُرِضَ لَنَا طَعَامٌ اِشْتَهَيْنَاهُ ؛ فأكَلْنَا مِنْهُ ، قال : " اِقْضِيَا يَوْمًا آخَرَ مَكَانَهٗ" . (رواه الترمذي)[1]

ဟဇရသ်အာအေရှာ မိန့်ကြားတော်မူခဲ့သည်။ ကျွန်မနှင့်ဟဖ်ဆွာသခင်မတို့သည် ရိုဇာစောင့်ထိန်းထားစဉ် ကျွန်မတို့အရမ်းနှစ်သက်သည့် အစားအစာတစ်ခု ရောက်ရှိလာသည်။ ထို့ကြောင့်ကျွန်မတို့သည်လည်း (မိမိတို့စောင့်ထိန်းထားသည့် နဖိလ်ရိုဇာကိုဖျက်ပြီး) စားသုံးလိုက်ကြသည်။ ထိုအခိုက် နဗီတမန်တော်မြတ် ﷺကြွမြန်းလာခဲ့သည်။ ဟဖ်ဆွာသခင်မသည် ဖအေတူသမီးပီပီ ကျွန်မထက်အလျင်ဦးပြီး ကိုယ်တော်မြတ်ﷺကို အောက်ပါအတိုင်းမေးမြန်းလိုက်သည်။ အိုအလ္လာဟ်၏ ရစူလ်၊ ကျွန်မတို့နှစ်ဦးသည် (နဖိလ်ရိုဇာထားနေစဉ် ကျွန်မတို့အရမ်းနှစ်သက်အာသီသရှိသည့် အစားအစာတစ်ခု ရောက်ရှိလာသည်။ ထို့ကြောင့်ကျွန်မတို့သည်လည်း (မိမိတို့စောင့်ထိန်းထားသည့် နဖိလ်ရိုဇာကိုဖျက်ပြီး) စားသုံးပစ်လိုက်ကြသည်။ ထိုအခါကိုယ်တော်မြတ် ﷺ က ''အသင်မတို့နှစ်ဦးလုံး ယနေ့ ရိုဇာအစား တစ်ရက်ကဇွာထားလိုက်ပါ''ဟု မိန့်တော်မူခဲ့သည်။''

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်တွင် နဖိလ်ရိုဇာကိုဖျက်လိုက်ခြင်းနှင့်ပတ်သက်သည့် အမိန့်ကိုဖော်ပြထားသည်။ တစ်ဦးတစ်ယောက်သည် နဖိလ်ရိုဇာထားပြီး ဖျက်လိုက်ပါက ထိုရိုဇာ၏ကဇွာပြန်လည်စောင့်ထိန်းရန်မှာ ဝါဂျစ်ဗ်ဖြစ်သည်။

ဖရ်ဇ်ရိုဇာကို သိလျက်နှင့်ဖျက်မိပါက ကဖ်ဖာရဟ်ပေးရန်အရေးကြီးသွားမည်။

ကဖ်ဖာရဟ်ဆိုသည်မှာ

၁။ ကျွန်တစ်ယောက်ကိုသူကောင်းပြုခြင်း

၂။ ရက်(၆၀)တိတိဆက်တိုက် ရိုဇာစောင့်ထိန်းခြင်း

၃။ ဆင်းရဲသား(၆၀)ကို ထမင်းကျွေးမွေးခြင်းတို့ကို အစဉ်လိုက်ပေးခြင်းကို ဆိုလိုသည်။

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| ဆက်သခြင်း၊ တင်ပြခြင်း | عرض (ض) عَرْضًا [لـ] |
| နှစ်သက်ခြင်း၊ အာသီသရှိခြင်း၊ ဆန္ဒရှိခြင်း | اشتهى (افتعال) |
| အလျင်အမြန်ပြုလုပ်ခြင်း၊ လက်ဦးမှုယူခြင်း | بدر (ن) بُدُوْرًا [إلى] |
| ပြန်လည်ဖြည့်စွက်ခြင်း | قضى (ض) قَضَاءً ا |

**လေ့ကျင့်ခန်း**

၁။ နဖိလ်ရိုဇာကို ဖျက်ခြင်းဆိုင်ရာ အမိန့်ပညတ်ချက်များကို ဖော်ပြပါ။

၂။ ဖရ်ဇ်ရိုဇာကို တမင်သက်သက်ဖျက်လျှင် မည်သို့ကဖ်ဖာရဟ်ပေးရမည်နည်း။

❁ ❁ ❁

(١) أخرجه الترمذي في سننه : "باب ماجاء في إيجاب القضاء عليه" ر: ٧٣٥

## الحديث السادس والتسعون

**(၉၆) ရိုဇာ၊ ကာဇ်နှင့် သရာဝီးဟ်တို့၏ အကျိုးကျေးဇူး**

عـن أبـي هـريـرة رضي اللّٰه عنه عن النبي صلى اللّٰه عليه وسلم قال : " من صـام رَمـضـانَ إيمانا واحتسابا غُفِرَ لَهٗ مَا تَقَدَّمَ مِنْ ذَنْبِهٖ ، ومَنْ قَامَ ليلةَ القَدْرِ إيمانا واحتسابا غُفِرَ لَهٗ ما تَقَدَّمَ من ذَنْبِهٖ، مَنْ قَامَ رَمَضان إيمانا واحتسابا غُفِرَ لَهٗ ما تَقَدَّمَ من ذَنْبِهٖ". (رواه البخاري ) (١)

ဟဇရသ်အဗူဟိုရိုင်ရတ် သခင်ထံမှ ကိုယ်တော်မြတ်ﷺ၏ဆင့်ပြန်ချက်လာရှိထားသည်။ ''မည်သူမဆို ယုံကြည်ချက်အပြည့်ဖြင့်၊ ဆဝါးဗ်ကို မျှော်ကိုးလျှက်လမြတ်ရမ်ဇာန်၏ရိုဇာကိုစောင့်ထိန်းပါက အရှင်မြတ်သည် ထိုသူကျူးလွန်ခဲ့မိသမျှ ဂိုနာ(ဆွဂီရဟ်)များကို ပလပ်ပေးတော်မူမည်။ မည်သူမဆို လိုင်လသွလ်ကဒရ်ညဥ့်တွင် ယုံကြည်ချက် အပြည့်ဖြင့်၊ ဆဝါးဗ်ကို မျှော်ကိုးလျက်နိုးနိုးကြားကြား(အေဗာဒသ်)ပြုလုပ်ပါက အရှင်မြတ်သည် ထိုသူကျူးလွန်ခဲ့မိသမျှ ဂိုနာ(ဆွဂီရဟ်)များကို ပလပ်ပေးတော်မူမည်။ မည်သူမဆို လမြတ်ရမ်ဇာန်၏(ညဥ့်ယံများတွင်)သရာဝီးဟ်နမားဇ်ကိုယုံကြည်ချက်အပြည့်ဖြင့်၊ ဆဝါးဗ်ကို မျှော်ကိုးလျက်ဖတ်ခဲ့ပါက အရှင်မြတ်သည် ထိုသူကျူးလွန်ခဲ့မိသမျှဂိုနာ(ဆွဂီရဟ်)များကို ပလပ်ပေးတော်မူမည်။

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်တွင် ရိုဇာထားခြင်း၊ လိုင်လသွလ်ကဒရ်ညတွင် နိုးနိုးကြားကြားနေခြင်းနှင့်သရာဝီနမားဇ်တို့၏အကျိုးကျေးဇူးများကို ဖော်ပြထားပါသည်။ ထိုအကျိုး ကျေးဇူးများကို ရရှိနိုင်ရန် အီမာန်(ယုံကြည်မှု)ဆဝါးဗ်မျှော်ကိုးမှုတို့ လိုအပ်ပါသည်။ ဤအချက်နှစ်ချက်ဖြင့် ပြုကျင့်လိုက်ပါက အကုသိုလ်အသေးစားများ ခွင့်လွှတ်ချမ်းသာခွင့် ချက်ချင်းရရှိသွားမည်ဖြစ်ပြီး၊ ဂိုနာကဗီရဟ်(အကုသိုလ်အကြီးစားများ) အတွက်မူ သောဝ်ဗဟ်၊အိစ်သေ့ဂ်ဖားရ်ပြုလုပ်ရန်လိုအပ်ပါသည်။

ယနေ့ခေတ်မွတ်စ်လင်မ်တို့တွင် အီမာန်ယုံကြည်ချက်ပြည့်ဝနေသော်လည်း ဆဝါးဗ်မျှော်ကိုခြင်းကို မေ့လျော့နေသည်မှာ ဝမ်းနည်းစရာပင်ဖြစ်သည်။

ကဒရ်ညမြတ်သည် လပေါင်းတစ်ထောင်ထက်သာ မြတ်ကြောင်း စူရဟ်ကဒရ်တွင်အရှင်မြတ်က အမိန့်ရှိထားသည်။ လပေါင်းတစ်ထောင်သည် (၈၃)နှစ်၊(၄)လနှင့်ညီမျှသည်၊ ကဒရ်ညမြတ်တွင် နိုးနိုးကြားကြားအေဗာဒသ်ပြုလိုက်ခြင်းဖြင့် (၈၃)နှစ်(၄)လ အေဗာဒသ်ပြုသည့်ဆဝါးဗ်ကို ရရှိသွားမည်ဖြစ်သည်။ ဗိုခါရီကျမ်းဟဒီးဆ်တော်တစ်ရပ်တွင် အိုဗာဒဟ် သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ်ﷺ သည် ကျွန်ုပ်တို့အား ကဒရ်ညမြတ်ကို အတိ အကျပြောပြရန်ထွက်လာခဲ့ရာ အမျိုးသားနှစ်ဦးအချင်းများနေကြသည်။ ၎င်းတို့နှစ်ဦးကို ဖြန်ဖြေရင်းဖြင့် ကဒရ်ညမြတ်ကိုမေ့လျော့သွားရသည်။ ဤသည်ပင်လျှင်အသင်တို့အဖို့ ကောင်းသည်ဟု မျှော်လင့်ရသည်။ ထို့ကြောင့် လမြတ်ရမ်ဇာန်၏(၂၅၊၂၇၊၂၉)ရက်များတွင် ကဒရ်ညကို ရှာဖွေကြကုန်"ဟု မိန့်ကြားခဲ့သည်။

မိခင်မွန် ဟဇရသ်အာအေ့ရှာသခင်မကြီးက ချစ်နဗီ ﷺ အား ဤညတွင် တောင်းခံရမည့် ဒိုအာမေးလျှောက်ခဲ့ရာ ကိုယ်တော်သခင်ﷺ က اَللّٰهُمَّ إِنَّكَ عَفُوٌّ تُحِبُّ الْعَفْوَ فَاعْفُ عَنِّيْ "အိုအရှင်မြတ်၊ မုချအရှင်မြတ်သည် အလွန်တရာခွင့်လွှတ်တော်မူသောအရှင်မြတ်ဖြစ်တော်မူသည့်အလျောက် ခွင့်လွှတ်ခြင်းကိုလည်း နှစ်သက်တော်မူသည်။ ထို့ကြောင့် ကျွန်တော်မျိုးအား ခွင့်လွှတ်ချမ်းသာပေးသနားတော်မူပါ" ဟု တောင်းဆိုရန် မိန့်ကြားခဲ့သည်။

အထက်ပါ ဟဒီးဆ်တော်မြတ်တွင် သရာဝီအကြောင်းကိုလည်း ဖော်ပြထားသည်။ သရာဝီးဟ်ဟူသည် သက်တောင့်သက်သာမှုရယူခြင်း၏အဓိပ္ပါယ်ဆောင်သော သရ်ဝီဟဟ်၏ အများကိန်းဖြစ်သည်။ (၄)ရကအသ်ဝတ်ပြုပြီးတိုင်း ခေတ္တနားခြင်းကို သရ်ဝီဟဟ်ဟုခေါ်သည်။ ရကအသ်ပေါင်း(၂၀)တွင်(၅)ကြိမ်နားရသဖြင့် ဤနာမားဇ်ကို သရာဝီးဟ်ဟု ခေါ်ဆိုခြင်းဖြစ်သည်။

ရမ်ဇာန်လမြတ်တွင် သရာဝီးဟ်နမားဇ်ဝတ်ပြုခြင်းသည် စွန္နသ်မုအက္ကဒဟ်ဖြစ်သည်။ ဤနမားဇ်တွင် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံး ဖတ်ရွတ်ခြင်းသည် ဒုတိယ

စွန္နသ်ဖြစ်သည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| احتَسب (افتعال) | ဆဝါးဗ်မျှော်ကိုးခြင်း |
| تَقَدَّمَ (تفعل) | ပြီးဆုံးခဲ့ခြင်း၊ ကျော်လွန်ခဲ့ခြင်း |
| ذَنْبٌ (ج) ذُنُوْبٌ | အကုသိုလ် |

**လေ့ကျင့်ခန်း**

၁။ ရိုဇာ၊သရာဝီးဟ်၊ကဒရ်ညတွင် အေဗာဒသ်ပြုခြင်းတို့ဖြင့် အကုသိုလ်များပလပ်ရန် မည်သည့် စည်းကမ်းချက်များ လိုအပ်ပါသနည်း။

၂။ ဟဒီဆ်းတော်မြတ်တွင် ပလပ်ခွင့်ရရှိမည့် အကိုသိုလ်များမှာ မည်သည့်အမျိုးအစားများဖြစ်သနည်း။

၃။ လိုင်လသွလ်ကဒရ်ညသည် မည်မျှကာလဖြင့်ညီမျှသနည်း။ ထိုညတွင် တောင်းခံရမည့် ဒိုအာကို ဖော်ပြပါ။

၄။ သရာဝီဟ်နှင့်စပ်လျဉ်းသည့် တရားတော်လာအမိန့်ကို ဖော်ပြပါ။



(١) أخرجه البخاري في صحيحه : "باب فضل ليلة القدر" . ر: ٢٠١٤، "باب فضل من رمضان" ر: ٢٠٠٩

## الحديث السابع والتسعون

## (၉၇) အဲဒ်သော့ကားဗ်

﴿ولا تُبَاشِرُوْهُنَّ وأنتمْ عَاكِفُوْنَ فيْ المَسَاجِدِ﴾ البقرة : ١٨٧

﴿وعَهِدْنَا إِلىٰ إبراهيمَ وإسْمَاعِيلَ أنْ طَهِّرَا بَيْتِيَ لِلطَّائِفِيْنَ والْعَاكِفِيْنَ والرُّكَعِ السُّجُوْدِ﴾ البقرة : ١٢٥

عن عائشة رضي الله عنها : أن النبيَّ صلى الله عليه وسلم كان يَعْتَكِفُ الْعَشْرَ الأَوَاخِرَ من رمضانَ حتّٰى قَبَضَهُ اللّٰهُ ، ثُمَّ اعْتَكَفَ أزْوَاجُهُ مِنْ بَعْدِهِ" .

(رواه أبوداود) [(١)]

ဟဇရသ်အာအေ့ရှာသခင်မဆင့်ပြန်တော်မူခဲ့သည်။ ကိုယ်တော်သခင်ﷺ သည် ကွယ်လွန်တော်မူသည့်တိုင် ရမ်ဇာန်လမြတ်၏နောက်ဆုံး(၁၀)ရက်တိုင်းတွင် အိအ်သေ့ကာဖ်ထိုင်တော်မူခဲ့သည်။ ကိုယ်တော်သခင်ﷺ ဝဖားသ်ဖြစ်ပြီးနောက်ပိုင်းတွင် ကိုယ်တော်သခင်၏ ကြင်ယာတော်များက အိအ်သေ့ကာဖ်ထိုင်တော်မူခဲ့သည်။

**ရှင်းလင်းချက် (အိအ်သေ့ကားဖ်ဆိုသည်မှာ)**

အရဗီစာပေတွင် အိအ်သေ့ကားဖ်ဆိုသည်မှာ တစ်နေရာတွင်စိတ်ရောကိုယ်ပါ စောက်ချနေထိုင်လိုက်ခြင်းဟူ၍ဖြစ်သည်။ ရှရီအသ်တရားတော်မြတ်တွင် နီယသ်ပြုပြီးဗလီတွင်နေထိုင်လိုက်ခြင်း၊ ဗလီဝတ်ကျောင်းတော်ထဲတွင် ဖြည့်ဆည်းမရနိုင်သော (ကျင်ကြီး၊ကျင်ငယ်စွန့်ခြင်း၊ ဝိုဇူလုပ်ခြင်းနှင့် ကိုယ်မသန့်သောကြောင့် ရေချိုးခြင်း) စသည်တို့ကဲ့သို့ အရေးကြီးသောလိုအပ်ချက်များဆောင်ရွက်ခြင်းမှအပ ဗလီအပြင်သို့ မထွက်ဘဲနေထိုင်ခြင်းကို ခေါ်ဆိုသည်။

**အိအ်သေ့ကားဖ်၏ အနှစ်သာရ**

ဟဇရသ်မော်လာနာ အဗ္ဗုလ်ဟစ်အလီနဒ်ဝီ ؒ သခင်ရေးသားသည်မှာ - အိအ်သေ့ကားဖ်သည် ရမ်ဇာန်၏အကျိုးတရားများကို ပြည့်ပြည့်ဝဝ ရယူနိုင်ရန်ဖြစ်သည်။ ရိုဇာထားသူတစ်ဦးသည် ရမ်ဇာန်လမြတ်၏ အစပိုင်းတွင် စိတ်တည်ငြိမ်မှု၊ ဝိဉာဉ်ပိုင်းဆိုင်ရာနွေးထွေးမှု၊ အတွေးအခေါ်များစုစည်းမှု၊ ကိုယ်နှုတ်နှလုံး(၃)ပါးလုံးသည် အရှင်

မြတ်ဘက်သို့ အပြည့်အဝ မလှည့်နိုင်ခဲ့ပါမူ နောက်ဆုံး(၁၀)ရက်တွင် အေ့အ်သေ့ကားဖ် ထိုင်ကာ လစ်ဟာခဲ့သော ကွက်လပ်များကို ပြန်လည်ဖြည့်စွက်နိုင်ပါသည်။

အလ္လာဟ်မဟ်အိဗ်နေ့ကိုင်ယစ်မ်သခင်အမိန့်ရှိသည်။ အိအ်သေ့ကားဖ်၏ အဓိကရည်ရွယ်ချက်မှာ (၁) နှလုံးသားသည် အလ္လာဟ်နှင့်ဆက်သွယ်မှုရရှိရန် (၂) နာမ်ပိုင်းဆိုင်ရာ တည်ငြိမ်မှုရရှိရန် (၃) လူတို့နှင့် ခနတာ သံယောစဉ်များဖြတ်တောက်ထားရန် (၄) စိတ်အတွေးထဲတွင် အမြဲ အရှင်မြတ်ကို ကြောက်ရွံ့စိတ်၊ အမြဲသတိရလိုစိတ်များ ပေါ်ပေါက်ရန် (၅) အရှင်မြတ်နှင့် နီးကပ်မှုရရှိရန် (၆) ကဗရ်ထဲတွင် တစ်ဦးတည်းနေထိုင်ခြင်း၏ အတွေးများဝင်ရောက်လာရန် စသည်တို့ဖြစ်သည်။

**ဗလီဝတ်ကျောင်းတော်တွင် အိအ်သေ့ကားဖ်ထိုင်ခြင်း**

အမျိုးသားတို့သည် ဗလီဝတ်ကျောင်းတော်များတွင် အိအ်သေ့ကားဖ်ထိုင်ရသည်။ ဤသို့ထိုင်လိုက်ခြင်းဖြင့် စိတ်တည်ငြိမ်မှုပိုမိုရရှိနိုင်သည်။ နှလုံးသားကို သန့်ပြန့်စွာထားနိုင်မည်။ ကောင်းကင်တမန်များနှင့် တူဆင်သွားပြီး လပေါင်းတစ်ထောင်ထက်သာမြတ်သော ကဒရ်ညမြတ်၏ အနှစ်သာရများကို ရရှိနိုင်မည်ဖြစ်သည် ဟု ဟဇရသ်ရှားဟ် ဝလီယွလ္လာဟ် ဒေ့ဟ်လဝီ ﷺ သခင်ကြီး အမိန့်ရှိခဲ့သည်။

**အိအ်သေ့ကားဖ်ဆိုင်ရာ အရေးပါသော အမိန့်ပညတ်ချက်အချို့**

ရမ်ဇာန်လမြတ်၏ နောက်ဆုံး(၁၀)ရက်တွင် ဗလီတစ်လုံး၌ အနည်းဆုံးတစ်ဦး ထိုင်ရန်မှာစွန္နသ်မုအက္ကဒဟ်ဖြစ်သည်။ တစ်ဦးထိုင်လိုက်ပါက ဂျမာအသ်ဝင်အားလုံးဘက်မှ တာဝန်ကျသွားမည်ဖြစ်သည်။ တစ်ဦးတစ်ယောက်မှ မထိုင်ပါက စွန္နသ်ကို စွန့်လွှတ်ခြင်း၏ အ'မင်္ဂလာအားလုံးအပေါ်သို့ကျရောက်မည်ဖြစ်သည်။

အိအ်သေ့ကားဖ်ထိုင်နေစဉ် လုံးဝတိတ်ဆိတ်စွာ ထိုင်ရန်လည်းမလိုအပ်ပါ။ ကောင်းသောလုပ်ရပ်များဖြစ်သော (ဇိကရ်၊သေလာဝသ်၊နမားဇ်၊ဒိုအာနှင့် သာသာနာ့စာအုပ်စာပေလေ့လာခြင်း)စသည်တို့တွင် နစ်မွန်းနေရမည်။

အိအ်သေ့ကားဖ်ထိုင်နေစဉ် မည်သည့် အမလ်လုပ်ရမည်ဟူသော သတ်မှတ်ချက်လည်းမရှိပါ။ မိမိကြိုက်နှစ်သက်ရာ ကောင်းမှုကို ပြုလုပ်နိုင်ပါသည်။ လိုအပ်ချက်မရှိဘဲ အကြောင်းမဲ့ဗလီအပြင်သို့ မေ့လျော့၍ဖြစ်စေ၊ တမင်သက်သက်ဖြစ်စေ ထွက်လိုက်မိပါက ထိုတစ်နေ့အတွက်အိအ်သေ့ကားဖ်ပျက်သွားမည်ဖြစ်သည်။ ထိုအိအ်သေ့ကားဖ်၏ကဇ္ဇာကို အခြားရမ်ဇာန်လတွင်ပြန်လည်ဖြည့်စွက်သည်ဖြစ်စေ၊ တစ်နှစ်ပတ်လုံးမိမိကြိုက်နှစ်သက်သည့် နေ့တွင်ဖြည့်စွက်နိုင်သည်။ ထိုသို့ ကဇ္ဇာအိအ်သေ့ကားဖ်ပြုချိန်ရှိဇာထားရန်လည်း အရေးကြီးသည်။

နောက်ဆုံး(၁၀)ရက်တွင် အိအ်သေ့ကားဖ်ထိုင်မည်ဆိုပါက ရမ်ဇာန်(၂၀)ရက်နေ့ နေမဝင်မီ ဗလီထဲသို့ ဝင်ရောက်ပြီးဖြစ်နေရမည်။ အီးဒ်လမြင်ပြီဟု ယုံကြည်စိတ်ချရမှသာ အပြင်သို့ထွက်ရမည်။

အမျိုးသမီးတို့သည် မိမိတို့၏ အိမ်အတွင်း လုံခြုံပြီး အများမမြင်နိုင်သည့် နေရာတွင် အိအ်သေ့ကားဖ်ထိုင်ရမည်။

ဖုန်း၊အင်တာနက်စသည်တို့သည် အရှင်မြတ်နှင့် ဆက်သွယ်ခြင်းကို အနှောက်အယှက်ဖြစ်စေသည့်အတွက် မယူဆောင်သွားသင့်ပါ။

**ကျက်မှတ်ရန်စကားလုံးများ**

| | |
|---|---|
| တစ်နေရာတွင် စတည်းချနေထိုင်ခြင်း | اعتكف (افتعال) |
| ရုတ်သိမ်းခြင်း၊ အသက်နှုတ်ခြင်း | قبض (ض) قَبْضًا |

**လေ့ကျင့်ခန်း**

၁။ အိအ်သေ့ကားဖ်ဆိုင်ရာ ရှင်းလင်းချက်များကို မိမိဘက်မှ ပြန်လည်ရှင်းပြပါ။

၂။ အိအ်သေ့ကားဖ်နှင့်စပ်လျဉ်းသည့် အာယသ်တော်များကိုလည်းဖတ်ပြပါ။

❀❀❀

(١) أخرجه أبو داود في سننه : "باب الاعتكاف" ر: ٢٤٦٢

## الحديث الثامن والتسعون

## (၉၈) အီးဒ် (ပျော်ရွှင်ရမည့်) နေ့

﴿ وَلِتُكْمِلُوْا الْعِدَّةَ وَلِتُكَبِّرُوْا اللّٰهَ عَلىٰ مَاهَدَاكُمْ وَلَعَلَّكُمْ تَشْكُرُوْنَ﴾ البقرة:١٨٥

عن عائشة رضي الله عنها قالت : قال رسول الله صلى الله عليه وسلم : "يا أبابكرٍ ، إِنَّ لِكُلِّ قَوْمٍ عِيْدًا ، وهٰذَا عِيْدُنَا " . (رواه البخاري) (١)

ဟဇရသ်အာအိရှာ သခင်မဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် ﷺ အမိန့်ရှိတော်မူသည်။ ''အို–အဗူဘကာ်ရ် လူမျိုးတိုင်းအတွက် ပျော်ရွှင်ရမည့်နေ့ဟူ၍ရှိသည်။ ဤ(ရှောင်ဝ်ဝလ်လတစ်ရက်နေ့အီဒွလ်ဖစ်သ်ရ်နှင့်ဇီလ်ဟဂျလ(၁၀)ရက်နေ့၏ အီဒွလ်အသ်ဟာတို့သည်) ငါတို့၏ပျော်ရွှင်ရမည့် အီးဒ်နေ့ဖြစ်သည်။''

**ရှင်းလင်းချက်**

အရဗီစာပေတွင် အီးဒ်ဆိုသည်မှာ ပျော်ရွှင်ဖွယ်ကောင်းသောအရာ၊ ထပ်ဖန်တလဲလဲပြန်လာသောအရာဟု အဓိပ္ပါယ်ရသည်။ နှစ်စဉ်နှင့်အမျှ အဖန်တလဲလဲ ပျော်ရွှင်ဆင်နွဲသည်ကို အကြောင်းပြုပြီး အီးဒ်ဟု အမည်မှည့်ခေါ်လိုက်ခြင်းဖြစ်သည်။

ပျော်ရွှင်မှုဟူသည် ဘာသာတိုင်း၊လူမျိုးတိုင်းတွင်ရှိပါသည်။ အစ္စလာမ်သာသနာ မထွန်းကားမီ အရဗ်လူမျိုးတို့သည်လည်း မိမိတို့ထုံးတမ်းစဉ်လာအရ ပျော်ရွှင်နိုင်ရန်အတွက်(၂)ရက်သတ်မှတ်ထားခဲ့ကြသည်။ သို့သော် ထိုပျော်ပွဲရွှင်ပွဲများတွင် အပျော်ကျူးပြီး မဖွယ်ရာသော ကိစ္စများ၊ရိုင်းပြသော အပြုအမူများ၊ လူမျိုးရေးမုန်းတီးခြင်းများ အလွန်အကျွံပါဝင်နေခဲ့ပါသည်။

ဤသို့တရားမဲ့ ပရမ်းပတာဖြစ်မှုများကို ကျွန်ုပ်တို့ ကိုယ်တော်မြတ် ﷺ တွေ့မြင်သောအခါ ပျော်ရွှင်မှုလည်းပါ၊ အွမ္မသ်အတွက်လည်းအကျိုးရှိ၊ သဘာဝလည်းကျ၊ ချစ်ခင်မှုများကို ဖော်ဆောင်ပေးမည့် ရက်နှစ်ရက်ကို သတ်မှတ်ပေးခဲ့သည်။

မွတ်စ်လင်မ်တို့သည် တရားတော်နှင့်အညီ တစ်လတိတိ ဥပုသ်စောင့်ထိန်းနိုင်

ခြင်းအတွက် ဝမ်းသာခြင်း၊ အရှင့်အား ကျေးဇူးတင်ခြင်းနှင့် ဥပုသ်ဆောက်တည်ရာတွင်ဆာလောင်မှု၏ဒဏ်ကို ကိုယ်တိုင်ရင်ဆိုင်ကြရပြီး အမြဲတော်မွတ်မှုကို အဖော်ပြုနေကြရသော ဆင်းရဲသားများကို စာနာတတ်လာပြီး ၎င်းတို့ကို အီးဒ်နေ့တွင် ကူညီထောက်ပံ့ကြသည်။

**ကုရ်အာန်ကျမ်းလာ အီးဒ် သဝဏ်လွှာ**

အီးဒ်နေ့၏ ရည်ရွယ်ချက်၊ အီးဒ်နေ့တွင် ဆောင်ရွက်ရမည့် တာဝန်များကို ကျမ်းတော်မြတ်ကုရ်အာန် စူရဟ်ဗကရဟ် အာယသ်(၁၈၅)တွင် အရှင်မြတ်က အောက်ပါအတိုင်းမိန့်ထားတော်မူသည်။ "အသင်တို့သည် သတ်မှတ်ရက်များကို ပြီးပြည့်စုံစွာဖြည့်ဆည်းပြီးနောက် အရှင်မြတ်က အသင်တို့ကို ပြသထားသည့်အတိုင်း ထိုအရှင်မြတ်၏ ကြီးကျယ်ကြောင်းကို ရွတ်ဆိုကြပါလေ။ သို့မှသာ အသင်တို့သည် ထိုအရှင်မြတ်ကို ကျေးဇူးသိသူများဖြစ်ကြမည်။"

အီးဒ်နေ့တွင်ကျွန်ုပ်တို့သည် "စာရသူအတွက် အားလပ်ရက်မရှိ" ဟူသည့်အတိုင်း အီးဒ်နေ့တွင် အခြားနေ့များထက် တမူထူးပြီး အရှင်မြတ်၏ ကြီးကျယ်ကြောင်းကို ရွတ်ဆိုရသည်။ အခြားနေ့များတွင် မရှိသည့် အီးဒ်နမားဇ်ကို ပျော်ရွှင်စွာ ဝတ်ပြုရသည်။ ထိုအီးဒ်နမားဇ်နှစ်ရအသ်ကိုလည်း အခြားနမားဇ်များနှင့်မတူဘဲ သက္ကဗီးရ်အပို(၆)ကြိမ်နှင့်တကွ ဖတ်ရသည်။ ထိုအီးဒ်နေ့တွင် ကျွန်ုပ်တို့၏ တစ်လတာ ရိုဇာစောင့်ထိန်းစဉ် လစ်ဟာခဲ့သည့် ကွက်လပ်များကို ဖြည့်ဆည်းသည့်အနေဖြင့် ဆင်းရဲသားများကို ဖိသ်ရာကြေးပေးဆောင်ရသည်။

**အီးဒ်နေ့တွင် ပြုကျင့်သင့်သည့် စွန္နသ်တော်(၈)ချက်**

၁။ မိစ်ဝါးက်သုံးဆောင်ပြီး အီးဒ်အတွက် ရေချိုးခြင်း

၂။ မိမိတွင်ရှိသော အဝတ်အစားများအနက် အကောင်းဆုံးကို ဝတ်ဆင်ခြင်း

၃။ အမွှေးအကြိုင်သုတ်လိမ်းခြင်း

၄။ အီဒွလ်ဖိသ်ရ်နမားဇ်ဝတ်ပြုရန်မသွားမီ စွန်ပလွံသီး(သို့)အချိုတစ်ခုခုစားခြင်း

၅။ တာဝန်ရှိသူများသည် ဖစ်သ်ရာကြေးပေးဆောင်ပြီးမှ ဗလီသို့သွားခြင်း

၆။ ဖြစ်နိုင်လျှင် အီးဒ်နမားဇ်ကို အီးဒ်ဂါ၌ဝတ်ပြုခြင်း

၇။ အီးဒ်ဂါ(သို့)ဗလီသို့ တစ်လမ်းမှသွားပြီး အခြားတစ်လမ်းမှ ပြန်လာခြင်း

၈။ အီးဒ်နမားဇ်ဝတ်ပြုရန်သွားနေစဉ် အီဒွလ်ဖိသ်ရ်တွင်တိုးတိုးစွာ၊ အီဒွလ်အသွှ်ဟာတွင် အသံဖြင့် အောက်ပါ သက္ကဗီးရ်တော်ကို ရွတ်ဆိုရသည်။

اللّٰهُ أَكْبَرُ اللّٰهُ أَكْبَرُ لَاإِلٰهَ إِلَّا اللّٰهُ وَ اللّٰهُ أَكْبَرُ اللّٰهُ أَكْبَرُ وَ لِلّٰهِ الْحَمْدُ

**ဟနွဖီမဇ်ဟဗ်အရ အီးဒ်နမားဇ်ဆောက်တည်နည်း**

၁။ အီးဒ်နှစ်ခုလုံးအတွက် ဝါဂျစ်ဗ်နှစ်ရကအသ်၏ နီယသ်ပြုရမည်။

၂။ အဇာန်နှင့်အေကာမသ်မဆိုရ။

၃။ သက္ကဗီးရ်အူလာဆိုလျှက် လက်ပိုက်ကာ ဆနာဆိုရမည်။

၄။ ဆနာဆိုပြီးနောက် သက္ကဗီးရ်အပို(၆)ကြိမ်ထဲမှ ပထမသက္ကဗီးရ်ဆိုလျှက် လက်နှစ်ဖက်ကို နားအထိမြှောက်ပြီး မပိုက်ဘဲ ချထားလိုက်ရမည်။ ထို့နောက်ဒုတိယအပိုသက္ကဗီးရ်ဆိုဆိုကာ လက်နှစ်ဖက်ကို မပိုက်ဘဲ ချထားရမည်။ တစ်ဖန် တတိယအပိုသက္ကဗီးရ် ရွတ်ဆိုပြီး နားအထိလက်မြှောက်ကာ လက်ကို ပိုက်လိုက်ရမည်။

၅။ ထို့နောက်အေမာမ်သည် အအူးဇို့ ဗိစ်မိလ္လာဟ်ဆိုပြီး စူရဟ်ဖာသေ့ဟာနှင့်စူရဟ်တွဲပြီး ပထမရကအသ်၏ ရှိကူအ်ပြုမည်။ ဤအတိုင်းအေမာမ်သည် အခြားနမားဇ်များဖတ်သကဲ့သို့ ဖတ်သွားမည်။

၆။ ဒုတိယရကအသ်၌ အေမာမ်သည် အခြားနမားဇ်များနည်းတူ စူရဟ်ဖာသေ့ဟာနှင့် စူရဟ်တွဲမည်။ စူရဟ်တွဲပြီးသောအခါ ရှုကူအ်မသွားသေးဘဲ ကျန်ရှိနေသော သက္ကဗီးရ် အပို(၃)ကြိမ်ကို အစဉ်လိုက်ဆိုရမည်။ ထိုသက္ကဗီးရ်များဆိုစဉ် နားအထိလက်မြှောက်ပြီး လက်မပိုက်ဘဲ ချထားရမည်။

၇။ ထို့နောက်လက်မမြောက်တော့ဘဲ ရိုကူအ်အတွက် သက္ကဗီးရ်ဆိုပြီး ရုကူအ်ပြုရမည်။ ထို့နောက်ပုံမှန်အတိုင်း နမားဇ်ကို အဆုံးသတ်လိုက်ရမည်။

နမားဇ်ပြီးလျှင် အေမာမ်သည် မတ်တပ်ရပ်ကာ ခွသ်ဗဟ်ဖတ်မည်။ ဤခွသ်ဗဟ်စွန္နသ်ဖြစ်သော်လည်း ခွသ်ဗဟ်စတင်ပြီးလျှင် နားထောင်းရန်မှာဝါဂျိဗ်ဖြစ်သည်။ ခွသ်ဗဟ်ဖတ်နေစဉ် ပရိသတ်အပေါင်းတို့သည် တိတ်ဆိတ်စွာ နားထောင်ရမည်။ အီးဒ်နှစ်ခုလုံးတွင် ခွသ်ဗဟ်နှစ်ခုစီဖတ်ရမည်ဖြစ်ပြီး ယင်းခွသ်ဗဟ်နှစ်ခုကြားထိုင်ခြင်းသည် စွန္နသ်ဖြစ်သည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| ပျော်ရွှင်ရမည့်နေ့၊ ထပ်တလဲလဲပြန်လာသည့်နေ့ | عِيْدٌ (ج) أَعْيَادٌ |

**လေ့ကျင့်ခန်း**

၁။ အီးဒ်နေ့ဆိုင်ရာ ကုရ်အာန်ကျမ်းလာ သဝဏ်လွှာကို ပြောပြပါ။

၂။ အီးဒ်နေ့တွင် ပြုကျင့်သင့်သည့် စွန္နသ်တော်များကို ပြောပြပါ။

၃။ အီးဒ်နမားဇ်ကို လက်တွေ့ဖတ်ပြပါ။



(١) أخرجه البخاري في صحيحه : "باب سنة العيدين لأهل الإسلام"، ر: ٩٥٢

## الحديث التاسع و التسعون

## (၉၉) ရှောင်ဝ်ဝလ်လမြတ်၏ (၆)လုံးရှိဗာ

عن أبي أيوبَ الأنصاريِّ رضى الله عنه أنه حَدَّثَهُ أن رسولَ اللّٰهِ صلى الله عليه و سلم قال : " مَنْ صَامَ رَمَضَانَ ثُمَّ أَتْبَعَهُ سِتًّا مِنْ شَوَّالٍ كَانَ كَصِيَامِ الدَّهْرِ" .

(رواه مسلم) (١)

ဟဇရဉ်အဗူအိုင်ယူးဗ်အန်ဆွာရီသခင်သည် ကိုယ်တော်မြတ်ﷺ မိန့်ကြားတော်မူခဲ့သည်ကို ဆင့်ပြန်တော်မူခဲ့သည်။ ''မည်သူမဆို ရမ်ဇာန်လမြတ်၏ရိုဇာကို စောင့်ထိန်းပြီးနောက် ရှောင်ဝ်ဝလ်လမြတ်တွင်ပါ ဆက်လက်ပြီး(၆)ရက်ရိုဇာထားပါမူ ထိုရိုဇာထားခြင်းဖြင့် တစ်သက်လုံးရိုဇာထားသည့် ဆဝါးဗ်ကို ရရှိသွားမည်ဖြစ်သည်။''

**ရှင်းလင်းချက်**

တစ်သက်လုံးရိုဇာထားသည့် ဆဝါးဗ်ရရှိခြင်းနှင့်ပတ်သက်ပြီး အေမာမ်နဝဝီသခင်ကြီးက အောက်ပါအတိုင်းရှင်းပြထားပါသည်။ "ကျမ်းတော်မြတ်ကုရ်အာန်တွင် ကောင်းမှုတစ်ခုအတွက် (၁၀)ဆ အကျိုးရရှိမည်ဟု အမိန့်တော်လာရှိထားသည်။

ရမ်ဇာန်တစ်လ၏ရိုဇာသည် (၁၀)လနှင့်ညီမျှသည်။ ရှောင်ဝ်ဝလ်လ၏ (၆)ရက်ရိုဇာသည် ရက်(၆၀)=၂လနှင့်ညီမျှသည်။ ဤသို့ဖြင့် (၁၂)လုံး ရိုဇာထားခြင်း၏ အကျိုးကို ရရှိသွားမည်ဖြစ်သည်။

နှစ်စဉ်နှစ်တိုင်း ဤကဲ့သို့ရိုဇာထားသူသည် တစ်သက်လုံးရိုဇာထားသကဲ့သို့ဖြစ်သွားပေမည်။

ဤသို့(၆)လုံးရိုဇာထားခြင်းဖြင့် . . . .

☆ရိုဇာထားသူက အရှင်မြတ်သည် ၎င်းကို ရမ်ဇာလမြတ်တွင် ရိုဇာစောင့်ထိန်းစေခဲ့ခြင်းအပေါ် ကျေးဇူးတင်ခြင်း။

☆ လူသားသည် အရှင့်အမိန့်နာခံခြင်းကို အလွန်ပင် နှစ်သက်ကြောင်း၊ အရှင်မြတ်ပြု

လုပ်ခိုင်းသော အေဗာဒသ်များကို သတ်မှတ်ထားသော ကာလတွင်သာ မဟုတ်ဘဲ အခြား အချိန်များတွင်လည်း ပြုလုပ်ဆောင်ရွက်ရန် အသင့်ရှိကြောင်း သက်သေခံခြင်း ☆ ရမ်ဇာန်လမြတ်ကုန်ဆုံးသွားသော်လည်း အပြစ်ဂိုနာထဲရောက်သွားခြင်းမျိုးမရှိဘဲ အရှင့်အမိန့်နာခံခြင်းဖြင့်သာ ဆက်လက်ရပ်တည်နေခြင်းစသည်တို့ကို သက်သေထူလိုက်ခြင်းဖြစ်သည်။

ဤရိုဇာသည် နဖိလ်ရိုဇာဖြစ်သည်။ ထို့ကြောင့် ဤရိုဇာ၏နီယသ်နှင့်အခြား ဖြည့်စွက်ရန်တာဝန်ရှိနေသော ကဇ္ဇာနီယသ်တို့ကို အဆင့်မတူသောကြောင့် ပူးတွဲ၍မရပါ။ အကယ်၍မတ်စ်အလဟ်မသိသောသူတစ်ဦးက နဖိလ်နှင့်ကဇ္ဇာနီယသ်နှစ်ခုလုံးကို ပူးတွဲမိသွားပါက ကဇ္ဇာသာလျှင်အထမြောက်သွားမည်ဖြစ်သည်။ နဖိလ်ရိုဇာ၏ နီယသ် ပြုမိလိုက်ခြင်းကြောင့် ဆဝါးဗ်လည်းရနိုင်ဖွယ်ရှိသည်ဟု ပညာရှင်များက ဆိုကြသည်။

ရှောင်ဝ်ဝလ်လမြတ်နှင့်(၆)လုံးရိုဇာအကြောင်းကို စာရေးသူမှ ကျမ်းငယ်တစ်စောင်ပြုစုထားပါသည်။ ထိုကျမ်းငယ်ကို လေ့လာခြင်းဖြင့် အခြားသော မတ်စ်အလဟ်များ သုတများကို ဆက်လက်ရရှိမည်ဖြစ်ကြောင်း သတင်းကောင်းပါးအပ်ပါသည်။

**ကျက်မှတ်ရန်ခက်ဆစ်များ**

| | |
|---|---|
| နောက်မှ ဆက်တိုက်ပြုခြင်း | أتبع (إفعال) |
| ခေတ်ကာလ၊ တစ်သက်တာ | دَهْرٌ (ج) دُهُوْرٌ |

**ဟာဒီးဆ်ဆင့်ပြန်သည့် ဆွဟာဗီအကြောင်း**

**سَيِّدُنَا أَبُوْ أَيُّوْبَ الأنصاريّ اَلخَزْرَجِيُّ (خالِدُ بنُ زَيْدٍ) رضي الله عنه**

အဗူအိုင်ယူးဗ်အန်ဆွာရီသခင်ကြီးသည် ခဇ်ရဂျ်မျိုးနွယ်ဝင် ဆွဟာဗီတစ်ပါးဖြစ်သည်။ ဗဒရ်စစ်ပွဲတွင်ပါဝင်ခွင့်ရခဲ့သည့် ဆွဟာဗီ(၃၁၃)ပါးအနက်တစ်ပါးဖြစ်သည်။ ဟဇရသ်အဗူအိုင်ယူးဗ်သခင်သည် မည်သူမျှမရရှိခဲ့သည့် ဂုဏ်ထူးတစ်ခုကို ပိုင်ဆိုင်

ထားသူဖြစ်သည်။ ကိုယ်တော်သခင်ﷺ မဒီနာရွှေမြို့တော်သို့ ကြွမြန်းလာစဉ် ဦးစွာပထမ သခင်၏အိမ်တွင်နေထိုင်တော်မူခဲ့သည်။ ထိုနေရာကို ယနေ့လည်း မတ်စ်ဂျေ့ဒ်နဗဝီ၏ခေါင်းရင်းတွင် သီးသန့်အုတ်တံတိုင်းတစ်ခုအဖြစ် အမှတ်အသား ချန်ထားသည်ကို တွေ့ရသည်။

သခင်သည် ဗဒ်ရ်ကြိုးပမ်းမှုမှစပြီး ဖြစ်ပွားခဲ့သည့် သာသနာ့ကြိုးပမ်းမှုတိုင်း တွင် ပါဝင်ခဲ့သည်။ ဟဇရသ်မိုအာဝေယဟ်လက်ထက်တွင် ယဇီးဒ်၏ဦးဆောင်မှုဖြင့် ကွစ်တန်တိနီးကို သိမ်းပိုက်စဉ်တွင်လည်းပါဝင်ခဲ့သည်။ ထိုခရီးစဉ်၌ပင်နာမကျန်းဖြစ် ပြီးကွယ်လွန်တော်မူခဲ့သည်။

သခင်သည် ဟစ်ဂျ်ရီ(၅၂)ခုနှစ်တွင် ကွတ်စတန်တိနီးတွင်ကွယ်လွန်ခဲ့သည်။ သခင်၏ ဂျနာဇာနမားဇ်ကို ယဇီးဒ်ကဖတ်ပေးခဲ့သည်။ ကွစ်တန်တိနီးခံတပ်အဝတွင် သခင်ကြီးကို မြှုတ်နှံခဲ့ကြသည်။

သခင်ကွယ်လွန်သည့်ညဉ့်၌ ရောမနိုင်ငံသားတို့က ထူးဆန်းအံ့ဖွယ်ရာများကို မျက်ဝါးထင်ထင် တွေ့ခဲ့ကြသည်။သခင်သည် ကိုယ်တော်မြတ်ﷺ ထံမှ ဟဒီးဆ်တော် ပေါင်း(၁၅၅)ပုဒ်ဆင့်ပြန်ခဲ့သည်။ (٢)

**လေ့ကျင့်ခန်း**

၁။ (၆)လုံးရှိဇာစောင့်ထိန်းခြင်းဖြင့် တစ်သက်လုံးရှိဇာထားသည့် ဆဝါးဗ်မည်သို့ရသ နည်း။

၂။ (၆)လုံးရှိဇာဆိုင်ရာ အစ္စလာမ့်တရားတော်လာအမိန့်တော်များကို ပြောပါ။

❁❁❁

(١) أخرجه مسلم في صحيحه : " باب استحباب صوم ستة أيام من شوال......" ر: ١١٦٤

(٢) الأعلام للزركلي . سيرأعلام النبلاء

راة التهذيبين : تهذيب الكمال للمزي و تهذيب التهذيب لابن حجر

## الحديث المائة

## (၁၀၀) ပြီးပြည့်နံ့ဝေသာ သာသသဒု

﴿الْيَـوْمَ أَكْـمَـلْـتُ لَـكُـمْ دِيْـنَـكُـمْ وأَتْمَمْتُ عَلَيْكُمْ نِعْمَتِيْ وَرَضِيْتُ لَكُمْ الإِسْلاَمَ دِيْنًا ﴾

﴿ إن الدين عند اللّٰه الإسلام ﴾

﴿ ومن يبتغ غير الإسلام دينا فلن يقبل منه ﴾

عَـن عُـمَـرَ بـنِ الـخطَّاب رضي اللّٰه عنه قال:" بَيْنَمَا نَحْنُ عندَ رسولِ اللّٰه صـلـى الـلـه عـليه وسلم ذاتَ يَوْمٍ ، إذْ طَلَعَ عَلَيْنَا رجلٌ شديدُ بَيَاضِ الثِّيَابِ شديدُ سَـوَادِ الشَّـعْـرِ لا يُـرٰى عـليـه أَثَرُ السَّفرِ ، ولا يَعْرِفُهٗ مِنَّا أحدٌ، حتى جَلَسَ إلىَ النَّبِيِّ صلى الله عليه وسلم فَأَسْنَدَ رُكْبَتَيْهِ إلىٰ رُكْبَتَيْهِ وَوَضَعَ كَفَّيْهِ عَلىٰ فَخِذَيْهِ .

وَقَـالَ: يَـا مُـحَـمَّـدُ أَخْبِـرْنِيْ عَنِ الإِسْلاَمِ، فقال رسولُ اللّٰه صلى الله عليه وسـلـم : "الإسلامُ أنْ تَشْهَدَ أن لا إلهَ إلا اللهُ وأنَّ محمدًا رسولُ اللّٰه ــ صلى اللّٰه عـليـه وسـلـم ــ، وتُـقِيْـــمَ الصَّلاَةَ وتُؤْتِيَ الزَّكَاةَ وتَصُوْمَ رمضانَ وتَحُجَّ البيتَ إنْ اسْتَطَعْتَ إليه سبيلا ".

قال :صَدَقْتَ ، قال : فَعَجِبْنَا لَهٗ يَسْأَلُهٗ وَيُصَدِّقُهٗ.

قـال : فـأخْبِـرْنِـي عـنِ الإيـمـان ، قـال :" أنْ تُؤْمِنَ بِاللّٰهِ ومَلاَئِكَتِهٖ وكُتُبِهٖ ورُسُلِهٖ والْيَوْمِ الآخِرِ وتُؤْمِنَ بِالْقَدَرِ خَيْرِهٖ وَشَرِّهٖ ". قال : صَدَقْتَ .

قال: فَأَخْبِرْنِيْ عَنِ الإِحْسَانِ ، قال: " أنْ تَعْبُدَ اللّٰهَ كأَنَّكَ تَرَاهُ ، فإنْ لَّمْ تَكُنْ تَرَاهُ فَإِنَّهٗ يَرَاكَ ".

قال: فَأَخْبِرْنِيْ عَنِ السَّاعَةِ، قال : " مَا الْمَسْؤُوْلُ عَنْهَا بِأَعْلَمَ مِنَ السَّائِلِ".

قـال: فـأخْبِـرْنِي عَنْ أَمَارَاتِهَا، قال:" أنْ تَلِدَ الأَمَةُ رَبَّتَهَا ، وأَنْ تَرٰى الْحُفَاةَ الْعُرَاةَ الْعَالَةَ رِعَاءَ الشَّاءِ يَتَطَاوَلُوْنَ فِيْ الْبُنْيَانِ."

قـال : ثُـمَّ انْـطَـلَقَ فَلَبِثْتُ مَلِيًّا ، ثُمَّ قَالَ لِيْ:" يَا عُمَرُ، أَتَدْرِيْ مَنِ السَّائِلُ؟ قُلْتُ: اللّٰهُ وَرَسُوْلُهٗ أَعْلَمُ، قال:"فَإِنهٗ جِبْرِيْلُ أَتَاكُمْ يُعَلِّمُكُمْ دِيْنَكُمْ".(رواه مسلم )[(١)]

ဟဇရသ်အိုမရ် သခင်ထံမှဆင့်ပြန်ချက်လာရှိသည်။ ''ကျွန်ုပ်တို့နဗီတမန်တော်မြတ်ﷺ ထံတော်ပါးတွင် အခစားဝင်နေခိုက် ရုတ်တရက်ဝတ်ဖြူစင်ကြယ်ဝတ်ဆင်ထားသော ဆံကေသာများနက်မောင်နေသော ပုဂ္ဂိုလ်တစ်ဦးနေမင်းတစ်ဆူအလား ထွက်ပေါ်လာခဲ့သည်။ ထိုပုဂ္ဂိုလ်ပေါ်တွင် ခရီး၏နွမ်းလျသောအရိပ်အရောင်များပင်မတွေ့ရပါ။ ကျွန်ုပ်တို့အနက်တစ်ဦးတစ်ယောက်ကမှလည်း ၎င်းကိုမသိရှိကြပါ။ ဤသို့ဖြင့် ထိုပုဂ္ဂိုလ်သည် ကိုယ်တော်မြတ်ﷺ ၏ အပါးတွင်ဝင်ထိုင်လိုက်ပြီး မိမိဒူးနှစ်ဖက်ကို ချစ်နဗီﷺ ၏ ဒူးတော်နှစ်ဖက်နားတွင် မိကပ်လိုက်သည်။ ထို့နောက် လက်နှစ်ဖက်ကိုနဗီတမန်တော်မြတ်ﷺ၏ ပေါင်တော်ပေါ်တွင်တင်လိုက်သည်။

ထို့နောက်ကိုယ်တော်မြတ်ﷺအား အိုမိုဟမ္မဒ် – ကျွန်ုပ်အား အစ္စလာမ်နှင့်ပတ်သက်ပြီးမိန့်ကြားပေးပါဟု လျှောက်ထားလိုက်သည်။ ထိုအခါကိုယ်တော်မြတ်ﷺ က ''အစ္စလာမ်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်မှတပါးအခြားခဝပ်ကိုးကွယ်ခြင်းခံထိုက်သူမရှိကြောင်းနှင့် မုဟမ္မဒ်ﷺ သည် အရှင်မြတ်စေလွှတ်တော်မူသော စေတမန်တော်ဖြစ်ကြောင်းနှုတ်မှသက်သေထွက်ဆိုခြင်း၊ နမားဇ်ဆောက်တည်ခြင်း၊ ဇကားသ်ဒါနကြေးပေးဆောင်ခြင်း၊ လမြတ်ရမ်ဇာန်၏ ရိုဇာဥပုသ်စောင့်ထိန်းခြင်း၊ လမ်းစားရိတ်တတ်ကုန်နိုင်ပါက ကအ်ဗဟ်ကျောင်းတော်သို့သွားရောက်ပြီး ဟဂ်ျပြုခြင်း စသည်တို့ဖြစ်သည်။''ဟု မိန့်ကြားတော်မူလိုက်ရာ မေးမြန်းသူက''အသင်မှန်ပါသည်''ဟု ပြောကြားလိုက်သည်။

ထိုအခါဟဇရသ်အိုမရ်သခင်က ''မေးမြန်းပြီး၊ထောက်ခံနေသောကြောင့် ထိုပုဂ္ဂိုလ်နှင့်ပတ်သက်ပြီး ကျွန်ုပ်တို့အလွန်ပင်အံ့သြသွားခဲ့ရသည်။''ဟု ပြောကြားခဲ့သည်။

တဖန်ထိုပုဂ္ဂိုလ်က အီမာန်နှင့်ပတ်သက်ပြီး ပြောကြားပေးပါဟု ဆက်လက်လျှောက်ထားခဲ့ရာ ကိုယ်တော်မြတ်ﷺက '' အီမာန်ဆိုသည်မှာ အရှင်မြတ်ကိုလည်း

ကောင်း၊ ထိုအရှင်မြတ်၏ကောင်းကင်တမန်များကိုလည်းကောင်း၊ ထိုအရှင်မြတ်ချပေးတော်မူထားသည့်ကျမ်းဂန်များကိုလည်းကောင်း၊ ထိုအရှင်မြတ်စေလွှတ်တော်မူသည့် စေတမန်တော်များကိုလည်းကောင်း၊ တမလွန်သက်တမ်းကိုလည်းကောင်း၊ အကောင်းအဆိုးဟူသရွေ့တို့သည် ထိုအရှင်မြတ်သတ်မှတ်တော်မူသည့်အတိုင်းဖြစ်ပျက်နေသည်ဟု ယုံကြည်ခြင်းလက်ခံခြင်းကို အီမာန်ဟုခေါ်ကြောင်း ဖြေကြားခဲ့သည်။ ထိုပုဂ္ဂိုလ်က အသင်မှန်ပါသည်ဟု ဆက်လက်ထောက်ခံခဲ့ပြန်သည်။

ဆက်လက်၍ အရာရာကိုကောင်းသည်ထက်ကောင်းစေရန်ပြုလုပ်ခြင်းနှင့်ပတ်သက်၍မိန့်တော်မူပါဟု လျှောက်ထားသောအခါ ကိုယ်တော်မြတ် ﷺ က ''အသင်သည်အေဗာဒသ်ပြုသောအခါ အရှင်မြတ်ကို မြင်တွေ့နေရသကဲ့သို့ (စိတ်ဝယ်စွဲ၍)အေဗာဒသ်ပြုပါ။ အလ္လာဟ်အရှင်မြတ်ကိုအသင်မြင်တွေ့နေရသည်ဟု(စိတ်ဝယ်စွဲ၍)အေဗာဒသ်မပြုနိုင်ပါကလည်း အရှင်မြတ်ကတော့ အသင့်ကိုမြင်တွေ့နေသည်ဟူသော အတွေးဖြင့် အေဗာဒသ်ပြုပါ။

ဆက်လက်၍ထိုပုဂ္ဂိုလ်က ကေယာမသ်နှင့်ပတ်သက်ပြီး မိန့်ကြားပေးပါရန် လျှောက်ထားသောအခါ ကိုယ်တော်မြတ်ﷺ က ''ကေယာမသ်နှင့်ပတ်သက်ပြီး မေးမြန်းခံနေရသူပင်လျှင် မေးမြန်းသူထက်ပိုမိုမသိရှိပါ''ဟု ဖြေကြားတော်မူရာ ၎င်းက သို့ဆိုလျှင် ကေယာမသ်၏နိမိတ်လက္ခဏာများကို ပြောကြားပေးသနားတော်မူပါဟု လျှောက်ထားခဲ့သည်။ ကိုယ်တော်သခင်ﷺ က ကျွန်မတို့ကမိမိသခင်မကို မွေးဖွားသောအခါ၊ အသင့်အနေနှင့်ခြေတုန်းလုံး၊ အဝတ်အစားမဲ့နေသည့်ဆိတ်ကျောင်းသားအညတရများအားမြင့်စွင့်လှသော တိုက်တာများကိုအပြိုင်အဆိုင်ဆောက်လုပ်လာကြသည်ကို မြင်တွေ့သောအခါ။(ကေယာမသ်နီးပြီးဟုမှတ်ယူလိုက်ပါ။''ဟု မိန့်ကြားတော်မူခဲ့သည်။

ဟဇရသ်အိုမရ်သခင်ကြီးကပြောသည်မှာ ''မေးမြန်းသောပုဂ္ဂိုလ်ထွက်ခွာသွားခဲ့ပြီ။ ကျွန်ုပ်လည်း အချိန်ကာလတစ်ခုထိ နှုတ်ဆိတ်စွာသာနေထိုင်နေခဲ့သည်။'' တစ်ရက်ကိုယ်တော်သခင်ﷺက ''အို၊ အိုမရ် ဟိုနေ့က မေးမြန်းသူကို အသင်သိပါးသလား''ဟု မိန့်

ကြားတော်မူရာ ကျွန်ုပ်က''အလ္လာဟ်နှင့်အလ္လာဟ့်ရစူလ်သာလျှင်အသိဆုံးပါ''ဟု ဖြေကြား လိုက်သည်။ ထိုအခါကိုယ်တော်သခင်ﷺက ''ထိုပုဂ္ဂိုလ်ကြီးမှာ ဟဇရသ်ဂျိဗ်ရအီးလ် သခင်သာလျှင်ဖြစ်သည်။ အသင်တို့ထံပြီးပြည့်စုံသော သာသနာကိုသင်ပြပေးရန် ရောက်ရှိ လာခဲ့ခြင်းဖြစ်သည်။''

**ရှင်းလင်းချက်**

ဤဟဒီးဆ်တော်မြတ်ကို ဟဒီးဆ်ဆွေဂျစ်ဗ်ရအီးလ်၊ أُمُّ الأحاديث စသဖြင့် ခေါ်ဆိုကြသည်။ ဤဟဒီးဆ်တော်တွင် အားလုံးသောဟဒီးဆ်တော်များ၏အနှစ်ချုပ်ပါ ဝင်နေသည်။ ထိုနည်းတူ ပြီးပြည့်စုံသော ဒီးန်သာသနာတော်တွင်ရှိရမည့်အချက် အလက်များကိုပါ အကျယ်တဝင့်ဖော်ပြထားသည်။

**နောက်ခံသမိုင်း**

ဟဒီးဆ်ပညာရှင်များက ဤဟဒီးဆ်တော်မြတ်၏ နောက်ခံသမိုင်းကို အောက် ပါအတိုင်းရေးသားဖော်ပြကြသည်။ ဆွဟာဗာကြီးတို့သည် "အသင်တို့မသိလျှင်သိသူ များကိုမေးမြန်းကြကုန်"ဟူသော အာယသ်တော်အရ မိမိတို့သိလိုသည်များကို မချွင်းမ ချန်မေးမြန်းလာကြသည်။ အချို့မေးခွန်းများမှာလူပုံအလယ်တွင်မမေးသင့်သည့်မေး ခွန်းများဖြစ်သဖြင့် ကိုယ်တော်သခင်ﷺကမနှစ်မြို့ခဲ့ပေ။ ထိုအခါအရှင်မြတ်ဘက် တော်မှ "အသင်တို့စိတ်ထဲပေါ်သမျှ မမေးမြန်းကြလေနှင့်"ဟူသော အာယသ်တော် ထပ်မံကျရောက်လာခဲ့သည်။ ဆွဟာဗာကြီးတို့သည် မေးမြန်းခြင်းကိုလျှော့လိုက်ကြ သည်။ သို့သော်ပြီးပြည့်စုံသောသာသနာအကြောင်းကို သိရှိလိုသော ဆန္ဒအာသီသပြင်း ပြနေခဲ့သောကြောင့် အရှင်မြတ်က ဟဇရသ်ဂျစ်ဗ်ရအီးလ်သခင်ကို စေလွှတ်တော်မူပြီး ဤသို့ရှင်းပြစေခြင်းဖြစ်သည်။

**ဟဒီးဆ်တော်လာ အချက်အလက်များကို သုံးသပ်ခြင်း**

ဤဟဒီးဆ်တော်မြတ်တွင် အကာအိဒ် (ယုံကြည်ချက်ပိုင်းဆိုင်ရာများ)၊ အေဗာ

ဒသ်(ခဝပ်မှုပိုင်းဆိုင်ရာများ)၊ သစောင်ဝ်ဝုဖ် (စိတ်နှလုံးသန့်စင်ရေးဆိုင်ရာများ)၊ အခ်လားက် (စာရိတ္တပိုင်း၊ကိုယ်ကျင့်တရားပိုင်းဆိုင်ရာများ)နှင့် ကေယာမသ်နှင့်သက်ဆိုင်သည့်နိမိတ်လက္ခဏာများအကြောင်းတို့ကို တင်ပြထားသည်။

အီမာန်(အကာအိဒ်)ကဏ္ဍအောက်တွင် နှလုံးသားဖြင့်ယုံကြည်ချက်ထားရမည့် အချက်(၆)ချက်ကို တင်ပြထားသည်။ အေဗာဒသ်ကဏ္ဍအောက်တွင် ခန္ဓာကိုယ်နှင့် ငွေကြေးရင်းပြီးတည်ဆောက်ရသည့် မဏ္ဍိုင်များအကြောင်းကိုတင်ပြထားသည်။ သစောင်ဝ်ဝုဖ် ကဏ္ဍတွင် အချိန်တိုင်းအရှင်မြတ်မြင်နေသည်ဟူသောအတွေးဖြင့် ရှင်သန်ရပ်တည်နိုင် ရန်လမ်းညွှန်ထားသည်။

ထို့နောက်ကေယာမသ်၏နိမိတ်လက္ခဏာများအနက် အချို့ကိုတင်ပြထားသည်။ မိဘအမိန့်ဖီဆန်ခြင်း၊ လောကီအဆောင်အယောင်များတွင် အပြိုင်အဆိုင်ပြုခြင်းစသည်တို့သည် ကေယာမသ်၏နိဒါန်း နိမိတ်လက္ခဏာများပင်ဖြစ်သည်။

အချုပ်ဆိုရသော် ပြီးပြည့်စုံသော ဒီးန်ဟူသည် ယုံကြည်ချက်များ၊ ခဝပ်မှုများ၊ ကိုယ်ကျင့်တရားစာရိတ္တမဏ္ဍိုင်များ ကောင်းမွန်နေခြင်းဖြင့် ဖွဲ့စည်းတည်ဆောက်ထားသော ရတနာသိုက်ကြီးကို ဆိုလိုကြောင်း ဤဟဒီးဆ်တော်မြတ်က မီးမောင်းထိုးပြနေပါသည်။ ထို့ကြောင့် ဤဟဒီးဆ်တော်မြတ်ကို ကျွန်ုပ်တို့အားလုံး ကျက်မှတ်သင့်ပါသည်။

**ကျက်မှတ်ရန်စကားဆစ်များ**

| | |
|---|---|
| ထွက်ပေါ်လာခြင်း | طلع (ن) طُلُوْعًا |
| ဖြူစင်ခြင်း | باض (ض) بَيَاضًا |
| မဲနက်ခြင်း | سَوَادٌ |
| အရိပ်အရောင် | أَثَرٌ (ج) آثَارٌ |
| မှီခြင်း၊ ဆက်နွယ်ခြင်း | أَسْنَدَ (إفعال) |

| | |
|---|---|
| ဒူး | رُكْبَةٌ (ج) رُكَبٌ |
| ပေါင် | فَخِذٌ (ج) أَفْخَاذٌ |
| မှန်ကန်ခြင်း | صَدَقَ (ن) صِدْقًا |
| အံ့သြခြင်း | عجِبَ (س) عَجَبًا |
| နဖူးစား၊ သတ်မှတ်ချက် | قَدَرٌ |
| အကောင်းဆုံးပြုလုပ်ခြင်း | أحسن (إفعال) |
| နိမိတ်လက္ခဏာ | أَمَارَةٌ (ج) أَمَارَاتٌ |
| မွေးဖွားခြင်း | ولَدَ (ض) وِلَادَةً |
| ကျွန်မ | أَمَةٌ (ج) إِمَاءٌ |
| သခင်မ | رَبَّةٌ(ج) رَبَّاتٌ |
| ဖိနပ်မပါသူ | حَافٍ (ج) حُفَاةٌ |
| အဝတ်ဗလာဖြစ်နေသူ | عارٍ (ج) عُرَاةٌ |
| ထိန်းကျောင်းသူ | رَاعٍ (ج) رِعَاءٌ |
| ဆိတ် | شَاةٌ (ج) شَاءٌ |
| အမြင့်ပြိုင်ခြင်း | تَطَاوَلَ (تفاعل) |
| ခနတာ နေထိုင်ခြင်း | لبث (س) لُبْثًا |
| ကာလတစ်ခု | مَلِيٌّ |

**လေ့ကျင့်ခန်း**

၁။ ဟဒီးဆ်တော်ကို အလွတ်ရွတ်ဖတ်ပြပါ။

၂။ ဟဒီးဆ်တော်၏ အနှစ်ချုပ်ကို တင်ပြပါ။

၃။ ဟဒီးဆ်တော်၏ နောက်ခံသမိုင်းကို ရှင်းပြပါ။

၄။ ဟဒီးဆ်တော်မှ သိရှိရသော အကျိုးတရားများကို မိမိဘက်မှ စဉ်းစားပြီးပြောပြပါ။

❁❁❁

(١) أخرجه مسلم في صحيحه : "باب بيان الإيمان والإسلام والإحسان ......" ر: ٨



تمّ جمع نخبة من الأحاديث المباركة للأركان الأربعة من مستدلات الحنفية ؛ ليلة الجمعة لست بقين من ذي الحجة سنة ١٤٤٠هـ الموافق ٢٠١٩/٨/٢٣م ، على توفيق من الله عزوجلّ، في مكة المكرمة ـ زادها الله شرفا وتكريما ـ بجوار بيت الله الحرام .

**جمعها وترجمها واستخرج منها الفوائد**

الراجي لعفوربه

محمد عاصم عبيد الله (الندوي ، أبوالحسني ، المظاهري)

غفرالله له ولوالديه ولسائر المسلمين والطلاب جميعا . وجعل هذه البضاعة المزجاة ذخيرة العقبى له ، ولوالديه ولمشائخه، ولمن كان له حق عليه ولمن أوصاه بالدعاء، وللمؤمنين والمؤمنات والمسلمين والمسلمات الأحياء منهم والأموات . برحمتك ياأرحم الراحمين ويأأكرم الأكرمين. وصلى الله على سيدنا محمد وآله وصحبه أجمعين ومن تبعهم بإحسان إلى يوم الدين .